# حیاتِ صالح

# ဟာဇရတ်အမီးရ်ရှာဟ်ကြီး

## ၏

# အတ္ထုပ္ပတ္တိ

ဒါဝသ်သဗ်လီဂ်မရ်ကာဇ်



# حيات صالح

# ဟာဇရသ်အမီရ်ဆပ်ကြီး

၏

# အတ္ထုပ္ပတ္တိ


ဘာသာပြန်ဆိုသူ

အလ်ဟာဂ်ျ မော်လာနာ ဟာဖိဇ် ကာရီ အဗ်ဒုလ်ကာဒိရ်ဆွာဟိဗ်

ရွှေဆောင်ဆရာ၊ တခြမ်းပဲ့ဗလီ

စီစဉ်သူ

အလ်ဟာဂ်ျ မော်လာနာ ဟာဖိဇ် ကာရီ အှမရ်ဖာရူက် (ဟာဇရသ်၏သား

ပြုစုသူ

မော်လာနာ ဟာဖိဇ် ကာရီ မုဟမ္မဒ်အိလ်ယာစ်ဆွာလေဟီ (ဟာဇရသ်၏သ

# မာတိကာ

( ၁ )

# ဆရာသခင်ကြီး ဟာဇရသ် မော်လာနာ အလ်ဟာဂျ် အလ်ဟာဖိဇ် မွဖ်သီနူရုလ္လာဟ်ဆွာဟိဗ်

الحمدللهِ رب العالمين والصلوة والسلام على سيد الانبياء والمرسلين وعلى اله واصحابه ورثة العلماء والصالحين

اما بعد ـ

အလ္လာဟ်အရှင်မြတ်သည် လူသားတစ်ရပ်လုံး ဟေဒါယသ်ရရှိရန်အတွက်လည်းကောင်း၊ ဒွလာလသ်နွံထဲမှ လူသားကို ကယ်ဆယ်ရန်လည်းကောင်း၊ နဗီတမန်တော်များ၏အစီအစဉ်ကို ချမှတ်တော်မူသည်။ နောက်ဆုံးနဗီတမန်တော်မြတ်သည် ဟာဇရသ်မုဟမ္မဒ်(صلى الله عليه وسلم) ဖြစ်ပါသည်။ တမန်တော်မြတ်(صلى الله عليه وسلم) သည် ဗန်ဒဟ်များထံ အဟ်ကာမ်များပို့ချလျက် မိမိအရှင်သခင်နှင့် အဆက်အသွယ်ရရှိရန် ကြိုးစားအားထုတ်ခဲ့ပါသည်။ ရှိုင်သာန်နှင့် ကုဖ်ရ်အင်အားစုများ၏ ထိုးနှက်ချက်များရှိသော်လည်း တမန်တော်မြတ် (صلى الله عليه وسلم) ၏ ဖွဲမာန်သည်ကား ယိမ်းယိုင်ခြင်းမရှိခဲ့။ ဆန့်ကျင်ဘက်အခြေအနေများဆိုသည်းခံစားခဲ့သော်လည်း သဗ်လီဂ်တာဝန်ကို ရပ်ဆိုင်းထားခြင်းမရှိခဲ့ပေ။

တမန်တော်မြတ်(صلى الله عليه وسلم) ဝဖာသ်ဖြစ်ပြီးသည့်နောက် အွမ္မသ်၏အာလင်မ်များသည် ဤတာဝန် ကို ခေတ်အခါသမယတိုင်းမှာ အပြည့်အဝထမ်းဆောင်ခဲ့ကြ၏။ နဗီ၏အမွေစားအမွေခံများပီပီ ကမ္ဘာပေါ်တွင် စံနမူနာပြသ ထမ်းဆောင်ခဲ့ကြသည်။

ဟာဇရသ်မော်လာနာ ဟာဖိဇ်မုဟမ္မဒ်ဆွာလေဟ်ဆွာဟိဗ်သည် ဒါရွလ်အိုလူမ်တာမွေ၏ ပထမဦးဆုံး ဆရာများအနက်မှဖြစ်ခဲ့သည်။ ၎င်း၏ ပညာအရည်အချင်းသည် အလွန်ပြည့်စုံနက်ရှိုင်းသည်။ အထူးသဖြင့် သဖ်စီးရ်နှင့် ဟဒီးဆ်ရေးရာ ဖွင့်ဆိုချက်များသည် အလွန်တစ်ဖက်ကမ်း ခတ်ထူးချွန်သူဖြစ်သည်။

မော်လာနာ မုဟမ္မဒ်ဆွာလေဟ်၏ဂျလာလိုင်းန်ကျမ်း သင်ကြား နေပုံကို ကြည့်ခြင်းအားဖြင့် ရှိုင်ခွလ်သဖ်စီးရ် ဟာဇရသ် မော်လာနာ မုဟမ္မဒ် အိဒ်ရီးစ် ဆွာဟိဗ် ကာန်ဒလဝိ၏သင်ကြားပို့ချနေပုံကို သတိရမိ စေသည်။

ထို့အပြင် ဒအ်ဝသ်သဗ်လီဂ်တာဝန်ကိုလည်း ထမ်းဆောင်ခဲ့၏။ ဤသို့သဖ်စီးရ်ဟဒီးဆ်ပို့ချလျက် သဗ်လီဂ်တွင်အပြည့်အဝ နှစ်မြှုပ်ထား နိုင်သည်မှာ ၎င်း၏ကရာမသ်ပင်ဖြစ်သည်။ ၎င်း၏တာဝန် အရပ်ရပ်ထမ်း ဆောင်ပုံမှာ အရှင်မြတ်ထံမှ ရွေးချယ်အတည်ပြုပြီးဖြစ်ကြောင်း သိသာ ထင်ရှားလှပေသည်။

ပေါ်လဝီ ဟာဖိဇ် မုဟမ္မဒ် အိလ်ယားစ်အနေနှင့် မိမိဖခင်၏ အတ္ထုပ္ပတ္တိကိုပြုစုနေကြောင်းသိရ၍ များစွာဝမ်းသာမိပါသည်။ ဤအကျိုး ဆောင်စုစည်းမှုများကို အရှင်မြတ် ကဗူလ်ပြုတော်မူပါစေ။ အကျိုးထူးများ ရယူဆွတ်ခူးခွင့်ပြုတော်မူပါစေ။ ကျန်ရစ်သူမိသားစုကို ဆွဗရ်နှင့် အဂျရ် ချီးမြှင့်တော်မူပါစေ။ ကျွန်တော်များကိုပဆွိရသ်အမြင်ဖွင့်ပေးတော်မူပါစေ။ သခါရွဒ္ဒုန္နယာမှာ အိခ်လားဆ်ရရန်သင်ခန်းစာများပေးသနားတော်မူပါစေ။

သို့မှလည်း အာခိရယ်၏စခန်းများ လွယ်ကူချောမွေ့ပါမည်။ အွမ္မသ် တစ်ရပ်လုံးကို အေးချမ်းသာယာစွာနှင့် ခိုင်ရဲ‌ကောင်းချီးမင်္ဂလာများ ချီးမြှင့်တော်မူပါစေ။ ဒီးန်၏ပတ်ဝန်းကျင်ကို ပြန့်သည်ထက်ပြန့်နှံ့၍ ဖိသ်နဟ် အွန္တရာယ်ဆိုးများကိုချုပ်ငြိမ်းပါစေ။ အာမီးန်

ဗန္ဒဟ်မုဟမ္မဒ်နူရွလ္လာဟ်(မဇွာဟီရီ)

ဥက္ကဋ္ဌ

အိုလမာအစ္စလာမ် သာသနာ့ပညာရှင်များအဖွဲ့ချုပ်

ဇွလ်ဟဂ်ျလ ဟစ်ဂ်ျရီ ၁၄၂၆

ဒီဇင်ဘာ- ၂၀၀၅

باغ تبلیغ سے ہے غائب اک محافظ باغباں
علم و عمل بتلا گئے اور طرز دعوت دے گئے

(الیاس صالحی)

---

သဗ်လီဂ်ဥယျာဉ်မှ ဥယျာဉ်မှူးကြီး ပျောက်ဆုံးသွားပြီ
အိလ်မ်၊အမလ်သင်ကြားကာ ဒါအ်ဝသ်နည်းလမ်း
ပြသွားခဲ့သည်။

# ဟာဇရတ် အလ်ဟာဂျ် မော်လာနာ ဟာဖစ်ဇ် ဖဇ်လွှရ်ရဟ်မာန်ဆွာဟိဗ် မဇ်ဟာရီ
## (မုဟာဒ်ဒိစ် – ဂျာမိအဟ် ဒါရုလ်အုလူမ် တာမွေ)

الحمدللهِ رب العالمين والصلوة والسلام على رسوله الكريم
امابعد

အလ္လာဟ်အရှင်မြတ်သည် လူသားတစ်ရပ်လုံးအောင်မြင်မှု ရရေးအတွက် ခေတ်အခါသမယတိုင်းမှာ နဗီတမန်တော်များ(عليهم السّلام) ကိုလူသားတို့ဟေဒါယသ်လမ်းမှန်ရရှိရန် စေလွှတ်တော်မူခဲ့ပါတယ်။ နဗီများရဲ့ ခေါင်းဆောင်၊ နဗီရစူလ်များရဲ့အချုပ်၊ စကြဝဠာအပေါင်းရဲ့ ရဟ်မသ်အဖြစ် ကမ္ဘာနှင့်အဝှမ်း၊ ကေယာမသ်တိုင် အစ္စလာမ်တည်ရှိလာရေးအတွက်တမန်တော်မြတ်(صلى الله عليه و سلم)ကိုစေလွှတ်တော်မူခဲ့ပါတယ်။ ဒီနဗူဝသ်လုပ်ငန်းရဲ့စဉ်ဆက်ကို အာလင်မ်များ၊ ဆွာလိဟီးန်များ မုဗလ္လိဂ်၊ မုဂျာဟစ်ဒ်များက ခေတ်အဆက်ဆက်မှာ ထိန်းသိမ်းထားခဲ့ကြပါတယ်။

အရှင်မြတ်ရဲ့ ကျေးဇူးတော်အရ ဒအ်ဝသ်ရဲ့ကြိုးပမ်းမှုအတွက် အရှင်မြတ်ကကျွန်တော်တို့နိုင်ငံမှာ မော်လာနာဟာဖိဇ်မုဟမ္မဒ် ဆွာလေဟ် ဆပ်ကို လက်ခံတော်မူပါတယ်။

မော်လာနာဆပ်သည် စေတနာရှင် ဒါအီတစ်ဦးဖြစ်ပါတယ်။ အလ္လာ့ဟ်အတွက်၊ ဒီးန်အကျိုးဆောင်ရန်အတွက် အလွန်ပင်ထိုက်တန်တဲ့ပုဂ္ဂိုလ်ဖြစ်ပါတယ်။ မော်လာနာရဲ့ကြိုးပမ်းမှုကြောင့် မွတ်စ်လင်မ်များ လောကမှာ ဒီးန်နိုးကြားမှု ဖြစ်ထွန်းပုံမှာ အလွန်ထင်ရှားလျက် ရှိနေသည်

ကို အများအမြင်ပင် ဖြစ်ပါတယ်။

ထို့ပြင် မော်လာနာဆပ်သည် မဒ်ရစဟ်များမှာ သအ်လီးမ်ရေးရာ ကြိုးပမ်းမှုကိုလည်း အားသွန်ခွန်စိုက် အားထုတ်ခဲ့ပါတယ်။ ဂျမ်အီယသေ အိုလမာအေအစ္စလာမ် (အိုလမာအဖွဲ့) မှာလည်း ကနဦးမှပင် ကျွန်တော်တို့ နဲ့ပူးပေါင်းပြီး မွတ်စ်လင်မ်အပေါင်းရဲ့ မုအာရှရသ် မုအာမလာသ်နှင့် ဒီးန်အကြံပြုချက်နှင့် ဆုံးဖြတ်ချက်များ ချီးမြှင့်ခဲ့ပါတယ်။

ကျွန်တော်သည် ၁၉၅၀ ခုနှစ်တုံးက လမ်း ၁၂၀ ရှိ ကာလာဗပ်စ် သီဗလီကြီးတွင် အေမာမ်တာဝန် ထမ်းဆောင်နေခဲ့ပါသည်။ ထိုစဉ်က သဗ်လီဂ်ကြိုးပမ်းမှုမှာ မတွင်ကျယ်သေးပေ။ အချို့သာလုပ်ငန်းမှာ ပါဝင်လျက်ရှိသောကြောင့်၊ ဦးရေအနည်းငယ်သာရှိရာ မော်လာနာဆပ် သည် မဒ်ရဆဟ်ကျောင်းချိန်ပြီးသည်နှင့် လုပ်ငန်းတွင် လာရောက်ပါဝင် လျက်ရှိပါသည်။ မော်လာနာဆပ်သည် မခိုမကပ် မဆုတ်မနစ် ကြိုးပမ်းသူ ဖြစ်ခဲ့ပါတယ်။

ထိုစဉ်က အချို့ပုဂ္ဂိုလ်များက အချင်းချင်းမရှိဝရဟ်ပြုလုပ်ပြီး ကျွန်တော့်ကို သဗ်လီဂ်အမီးရ်အဖြစ် ဆုံးဖြတ်ပါသည်' ဟု ပြောကြရာ ကျွန်တော်က ၎င်းတို့ရှေ့မှောက်မှာပင် မော်လာနာဆပ်အား သဗ်လီဂ် တာဝန်ခံအဖြစ် လွှဲအပ်လိုကြောင်းတင်ပြရာ၊ ထိုပုဂ္ဂိုလ်များက ဝမ်းပမ်း တသာ လက်ခံအတည်ပြုကြတယ်။ မော်လာနာဆပ်သည် ထိုအချိန်ကပင် အေမာရသ် တာဝန်ကို ကောင်းမွန်ကျနပြည့်ဝစုံလင်စွာ ထမ်းဆောင် နိုင်သည့် အရည်အချင်းရှိသူဖြစ်သည့်အလျောက် နေဇာမွဒ်ဒီးန် မရ်ကဇ်

ကလည်း မော်လာနာဆပ်ကိုလိပ်မူပြီး မော်လဝီမုဟမ္မဒ်ဆွာလေဟ်ဆပ် အားမြန်မာနိုင်ငံ သဗ်လီဂ်အမီးရ်အဖြစ် သတ်မှတ်ပါကြောင်းအသိပေး အကြောင်းကြားစာ ရောက်လာပါတယ်။

စင်စစ် မော်လာနာဆပ်၏ပြည့်ဝသော မုဂျာဟာဒါနှင့် ကုရ်ဘာနီ များ၏ရလဒ်သာဖြစ်ပါတယ်။ ဒီလိုသမယမှာ မော်လာနာဆပ်ကို အရှင် မြတ်က အိမာရည်ကို အပ်နှင်းတော်မူတယ်။ တာဝန်အသိရှိရှိဖြင့် မော်လာနာဆပ်သည် သဗ်လီဂ်တာဝန်ကို သက်ဆုံးတိုင်ထမ်းဆောင်ခဲ့ ပါတယ်။

မော်လာနာဆပ်၏သားထွေး ကွျန်တော့်တပည့် မော်လဝီ မုဟမ္မဒ်အိလ်ယာစ် (စလ်လမဟူ) က မိမိကျေးဇူးရှင် ဖခင်၏အတ္ထုပ္ပတ္တိကို ကြိုးစားပမ်းစားနှင့်စီစဉ်ခွင့်ရတာ ၎င်းရဲ့ ကုသိုလ်ထူးတဲ့ လုပ်ရပ်ပဲဖြစ် ပါတယ်။ ၎င်း၏ဇွဲမာန်ကို ကဗူလ်ပြုတော်မူပြီး ဒီးန်ရဲ့ မဲဟ်နသ်အတွက် လည်း ကဗူလ်ပြု တော်မူပါ။

ဗန်ဒဟ်–ဖဇ်လွရ်ရဟ်မာန် (မဇ်ဟာရီ)

ဒုတိယဥက္ကဌ

အိုလမာအစ္စလာမ် သာသနာ့ပညာရှင်များအဖွဲ့ချုပ်

၉–၁၂–၂၀၀၅

# ဟာဇရပ် အလ်ဟာဂ် မော်လာနာ ရှမ်စွဒ်ဒိုဟာ ဆွာဟိဗ် (မဇ္ဇာဟောရီ)

بِسۡمِ اللهِ الرَّحۡمٰنِ الرَّحِيۡمِ

نَحۡمَدُهٗ وَنُصَلِّيۡ عَلٰى رَسُوۡلِهِ الۡكَرِيۡمِ

اما بعد ـ

ကျွန်တော့်ကြည်ညိုလေးစားရပါသော ဆရာတော် အလ်ဟာဂ် မော်လာနာဟာဖိဇ် မုဟမ္မဒ်ဆွာလေဟ် မဇ္ဇာဟောရီ (သဗ်လီးဂ် အမီးရ်ချုပ်) သည် အထူးမိတ်ဆက်ပေးရန်မလိုသော ပုဂ္ဂိုလ်မွန်ဖြစ်သည်။ လက်ရှိခေတ်၏ သမိုင်းဝင်ထူးခြားသော ပုဂ္ဂိုလ်များအနက်မှဖြစ်သည်။ အိလ်မ်အမလ်ရှားပါး တိမ်မြှုပ်နေသောယခုခေတ်တွင် ဟာဇရပ်၏ ကွယ်လွန်ခြင်းသည် စာမဖွဲ့နိုင်သည့် ယူကြုံးမရဖြစ်ရလွန်းသည့်ဝမ်းနည်းကြေကွဲမှုပင်။ ဟာဇရပ်၏ဆွေမျိုးရင်းခြာအတွက်သာမက တစ်နိုင်ငံလုံး၏ ဆုံးရှုံးမှုကြီးပင်ဖြစ်သည်။

ဟာဇရပ်သည် ဘဝတစ်ခုလုံးကို ဒအ်ဝသ်သဗ်လီဂ်တွင်နစ်မြုပ်၍ လုံးပန်းခဲ့သည်။ ဒအ်ဝသ်လုပ်ငန်းတွင် ကြိုးပမ်းရင်း မအားလပ်သည့်ကြားမှ အချိန်ထုတ်ပြီး ဂျာမိအအ်ဒါရွလ်အိုလူမ်ကျောင်းနှင့် ဂျာမိအဟ်ဆူဖိယာဟ်ကျောင်းသို့သွားရောက်ကာ ဟဒီးဆ်သင်ခန်းစာများကို ပို့ချပေးခဲ့သည်။

# ၈

ဟာဇရယ်သည် ကျွန်တော့်၏ဆရာရင်းဖြစ်ပြီး ကြင်နာယုယစွာ ပဲ့ပြင်မှုပေးသူဖြစ်သည်။ ကျွန်တော်ပြုစုရေးသားခဲ့သည့် စာအုပ်များနှင့် စပ်လျဉ်း၍ အပြည့်အဝအားပေးခဲ့သည်။ စီစစ်ရန်တင်ပြတိုင်း မိမိအတွက် အကျိုးရှိလှကြောင်းမိန့်ကြားကာ ထောက်ခံချက်ရေးပေးလေ့ရှိသည်။

ဟာဇရယ်၏ကွယ်လွန်ခြင်းမှာ ကြီးမားသောဆုံးရှုံးမှု တစ်ရပ်ပင်ဖြစ်သည်။ မြန်မာပြည်၏ မွတ်စ်လင်မ် တိုင်းသည် ဖသက်ဆိုးပမာဖြစ်ခဲ့ရသည်။ ဖခင်သည်ပင် ဟာဇရယ်ထက်ပို၍ ချစ်ခင်ကြင်နာမှုမပြုနိုင်ပါ။ လောကီရေး သာသနာရေး၊ ကဏ္ဍပဟူသရွေ့တွင် အကြင်နာတရားကိုသာ ရှေ့ရှုထားခဲ့သည့် ဟာဇရယ်ဖြစ်သည်။

တွေ့ဆုံသည်နှင့် ချစ်ခင်မှုကို ဖော်ထုတ်လေ့ရှိပြီး မိသားစု ကျန်းမာရေး၊ ပညာရေးစသည်များကိုပင် မေးမြန်းလေ့ရှိသည်။ မဒ်ရဆဟ်နှင့်ကိုယ်ရေးကိုယ်တာကိစ္စအတွက် အရေးကြီးကိစ္စလိုအပ်ချက်ကို တင်ပြလိုက်လျှင် ချက်ချင်းလက်ဖြန့်ကာ ငိုယိုလျက်ဒိုအာများ ချီးမြှင့်လေ့ရှိသည်။ အကြံဉာဏ်လိုအပ်ပါက သင့်တင့်သောအကြံလည်း ပေးလေ့ရှိသည်။ ထို့ပြင် ကျောင်းအုပ်ဟာကီးမ်အဗ်ဒွလ်အဇီဇ်ဆပ်ထံမှလည်း မရှုဝရဟ်ယူပါဟု မှာကြားလေ့ရှိသည်။

ဟာဇရယ်၏ချစ်ခင်ကြင်နာယုယမှုများကား အလွန်များပြားလှသဖြင့် မည်၍မည်မျှ ရေးပြနိုင်ပါမည်နည်း။

ဟာဇရယ်၏သားငယ်ဖြစ်သူ မော်လဝီဟာဖိဇ်မုဟမ္မဒ်အိလ်ယာစ်သည် မိမိဖခင်၏ ဘဝအတွေ့အကြုံဖြစ်ပျက်ခဲ့ပုံများကို ကြိုးစားစုဆောင်း

ပြုစုနိုင်လိုက်ခြင်းမှာ ချီးကျူးဖွယ်ရာပင်။

အရှင်မြတ်သည် ဟာဇရည်၏ သားထွေးအား ကောင်းသောအစား ချီးမြှင့်တော်မူပါစေ။ ဒီးန်နှင့် အိလ်မ်၏အကျိုး သယ်ပိုးနိုင်စွမ်း ပေးသနားတော်မူပါစေ။ ရှေးသူတော်စင်များ၏ခြေရာကို လိုက်နိုင်စွမ်း ချီးမြှင့်တော်မူပါစေ။

**မရ်ကဇ်ကလည်း သတိရ တ,သ**
**ကျောင်းတော်များက လွမ်းနေကြ**
**နှစ်ရှည်လများ သအ်လီးမ် သဗ်လီဂ်**
**သင်ခန်းစာများပို့ချခဲ့သူ**
**နှုရ်ရောင်ခြည်များ ကဗရ်ကို လွှမ်းခြုံ**
**ဖိရ်ဒေါစ်ဂျန္နသ်စံမြန်းသူ**
**လောကီရေးရာ နိုင်ငံရေးမှ**
**အမြဲတစေ ကင်းဝေးသူ**
**ဗာသွိလ်များကို ရဲတင့်ဆန့်ကျင်**
**ရှရီအသ်ကဏ္ဍာ ဦးထိပ်ထားသူ**

ရှမ်စွဒ်ဒိုဟာ (မဇ္ဇာဟေရီ)
ကျောင်းအုပ်ဆရာကြီး
ဂျမေအဟ် ဆူဖိယဟ် အရဗိယဟ် အရဗီတက္ကသိုလ်
ဟိဂ်ျရီ–၁၄၂၆၊ ရှအ်ဗာန်လ(၂၆)ရက်

# စကားဦး

ဤစာအုပ်ကို အရှင်မြတ်၏အချစ်တော်များ၊ ရစူလ်၏အချစ်တော်များ၊ သမိုင်းဝင်ပုဂ္ဂိုလ်မွန်တို့၏ ဘဝဖြစ်စဉ်များကိုဖတ်သည့်ပမာ ဖတ်ကာ အလ္လာဟ်အချစ်တော်များကဲ့သို့ပင် ကျင့်ကြံမည့် ယတိပြတ်ဆုံးဖြတ်ချက်ဖြင့် ဖတ်စေလိုပါသည်။

ဟာဇရည် (رحمة الله عليه) သည် ဘဝ၏ကဏ္ဍာဟူသရွေ့တွင် အရှင်မြတ်၏အမိန့်တော်ကိုနာခံရန်နှင့် စွန္နသ်တော်ကို နာယူကျင့်မှု ပုံဖော်ခဲ့သည်။ ထိုသို့ထိုပုံကျင့်ကြံရန်ကိုသာ တိုက်တွန်းနေခဲ့သည်။

ဟာဇရည် (رحمة الله عليه) သည် အိခ်လားစ်ပြည့်ဝသော ဒါအီ၊ အစ္စလာမ့်သောက ဖိက်ရ် ပိုက်ထွေးသူဖြစ်ခဲ့သည်။ တမန်တော်မြတ် (صلى الله عليه وسلم) နှင့် အဆ္ဟာဗ်တော် (رضى الله عنهم) များနည်းတူ အွမ္မသ်အတွက် ပူဆွေးသောကများပိုက်ထွေးရင်း တစ်နိုင်ငံလုံးရှိ မွတ်စ်လင်မ်တစ်ဦး ချင်းထံ သွားရောက်ကာ ဒအ်ဝသ်ကြိုပမ်းမှုများကို တင်ပြခဲ့ရာ မွတ်စ်လင်မ်ညီနောင်များကလည်း လှိုက်လှဲစွာ နာယူလက်ခံကြိုဆိုကြသဖြင့်မာရှာအလ္လာဟ် နမာဇီဟာဂျီဒါအီအာလင်မ်ပညာရှင်များ တိုးပွားနေပေပြီ။ ဟာဇရည် (رحمة الله عليه)၏ မုဂျာဟာဒဟ်နှင့် ကုရ်ဗာနီများကြောင့် များပြားလှစွာသော မွတ်စ်လင်မ်ထုသည် ဒီးန်လွှမ်းခြုံထားသော ပတ်ဝန်းကျင်တွင် ဒါအီအဖြစ်နေထိုင်ခွင့်ရနေကြပေပြီ။

ဟာဇရည် (رحمة الله عليه) သည် မိမိဘဝကိုသဗ်လီဂ်မှညွှန်ပြသော အရည်အသွေး(၆)ရပ်နှင့်အညီ သွန်းလောင်းခဲ့သူဖြစ်သည်။ စင်စစ်

ယင်းအရည်အသွေးများကို ''ဆွေဖာသေဟာမိဒဟ်' ဟုခေါ်သည်။ ၎င်းတွင် **'ဟုကူကွလ်လ္လာဟ်'** အလ္လာဟ့်တာဝန်ထမ်းဆောင်ခြင်းနှင့် **'ဟုကူကွလ် အေဗာဒ်'** လူမှုတာဝန်ထမ်းဆောင်ခြင်းတို့ အကျုံးဝင်လျက်ရှိသည်။

ဒအ်ဝသ်သဗ်လီဂ်သည် **ရှရီအသ်၊ သရီကသ်၊ မအ်ရိဖသ်၊ ဟကီကသ်**စသည့် သစောင်ဝုဖ် လမ်းစဉ်နှင့် **အဗ်ဒီယသ်**၏အနှစ်ချုပ်ဖြစ်သည်။ စစ်မှန်သောဒါအီ၏ရုပ်နာမ်အတွင်းအပြင်တွင် ထိုအရည်အသွေး များ ပေါ်လွင်ထင်ရှားလျက်ရှိနေသည်။

အကြင်ဒါအီ၏နှလုံးသားတွင် ဒအ်ဝသ်သဗ်လီဂ်၏အရေးကြီးပုံနှင့် ကြီးကျယ်မြင့်မြတ်မှုများ သိမြင်ကိန်းအောင်းသွားသည်ရှိသော်၊ ထိုဒါအီသည် ဤကြိုးပမ်းမှုတွင် မွေ့လျော်နစ်မွန်းသွားကာမည်သည့်ရာထူးရာခံ နေရာအခွင့်အရေးကိုမျှမမျှော်မှန်း၊ မည်သည့်လုပ်ငန်းတွင်မျှ အရသာမတွေ့တော့ပေ။ ထို့ကြောင့်မုစလ်မာန်တိုင်းနှင့် အထူးသဖြင့် ဒအ်ဝသ်ကြိုးပမ်းမှုတွင်ပါဝင်သူတိုင်းအား

**ဟဇရသ်၏ ဘဝဖြစ်စဉ်ကိုဖတ်ရှုကာ အတတ်နိုင်ဆုံး ဟဇရသ်၏ဖဝါးခြေထပ်အနွံတာခံကြိုးပမ်းကြပါရန်မှာကြားပါရစေ။**

ထို့ပြင် ဤစာအုပ်ကို လေ့လာသူတိုင်းသည် ဟဇရသ်၏ရူဟ် (ချမ်းမြေ့စေရန်) အီစာလေစဝါးဗ်ပြုသောအားဖြင့် စူရဟ်အိခ်လားစ့် (၃)ကြိမ် ဖတ်ပို့ရန်မေတ္တာရပ်ခံအပ်ပါသည်။

ဟဇရသ်၏တပည့်သားချင်း သင်္ဂဟာအပေါင်းတို့နှင့် အွမ္မသ်တစ်ရပ်လုံးကို နှစ်ဌာနစလုံးတွင် မင်္ဂဖိရသ် ရဟ်မသ်ကောင်းချီးမင်္ဂလာ

အဖြာဖြာ အလ္လာဟ်အရှင်ထံပါးမှ ချီးမြှင့်တော်မူပါစေ။

လူသားအလျောက်ဖြစ်ပေါ်တတ်သည့်သဘောသဘာဝအတိုင်း ဤစာအုပ် ရေးသားပြုစုရာတွင် မှားယွင်းမှုများ ချွတ်ချော်မှုများ တွေ့ရှိပါက စေတနာရှေ့ထားပြီး ပြုပြင်လိုသော ဆန္ဒမွန်ဖြင့် တင်ပြလာပါလျှင် လှိုက်လဲစွာ ကျေးဇူးတင်လျက် လက်ခံပြင်ဆင်ပေး မည်ဖြစ်ပါသည်။

ဤစာအုပ်ဖြစ်မြောက်ရေးအတွက် အဖက်ဖက်မှ ဝိုင်းဝန်းကူညီကာ အမှာစာ ရေးသားချီးမြှင့်ပေးသော ဆရာသခင်ကျေးဇူးရှင်များ၊ ဟာဇရသ်နှင့်ပတ်သက်၍ မိမိတို့သိရှိချက်များကို ပေးပို့သောမိတ်ဆွေများ၊ စာမူတည်းဖြတ်ပြင်ဆင်ပေးသောသူများနှင့် ဝိုင်းဝန်းပံ့ပိုးကူညီသူများ၊ ဒိုအာချီးမြှင့်ပေးသောပုဂ္ဂိုလ်များ အားလုံးကို အလ္လာဟ်အရှင် ဒွန္နယာ အာခိရသ်နှစ်ဌာနစလုံးတွင် အစားပေးတော်မူပါစေ။

ဟာဇရသ် အမီရ်ဆပ်ကြီး၏ သားထွေး

**ဗန်ဒဟ်– မုဟမ္မဒ်အီလ်ယာ စ် (ဆွာလေဟီ)**

صحبتِ صالح ترا صالح کند

دعوتِ صالح ترا داعی کند (الیاس صالحی)

ဆွာလေဟ်ရဲ့အသိုင်းအဝိုင်းသည် အသင့်အားဆွာလေဟ်ဖြစ်စေနိုင်သည်

ဆွာလေဟ်ရဲ့ ဒါအ်ဝသ်သည် အသင့်ကို ဒါအီဖြစ်စေနိုင်သည်

## ဟာဇရည်၏ဂုဏ်အင်နှင့်ဝိသေသများ

၁။ ဂုဏ်ပုဒ် . . . ဒါအီ အီလလ္လာဟ် အာရိဖ်ဗိလ္လာဟ်

၂။ ဘွဲ့ထူး . . . ဟာဇရည် အမိးရ်ဆပ်ကြီး

၃။ ကလောင်အမည် . . . အစဒ်

၄။ ငယ်နံမည် . . . ဟာဖိဇ်ဆပ်

၅။ အရဗီအမည် . . မုဟမ္မဒ်ဆွာလေဟ်

၆။ မြန်မာအမည် . . ဦးသိန်းမောင်

## ဟာဇရည်၏ပုဂ္ဂိုလ်ရေးအဆင့်

## ကျမ်းမြတ်လာ အရှင်မြတ်၏ မုကဒ္ဒပါတ်တော်

اَلَا اِنَّ اَوْلِيَآءَ اللهِ لَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُوْنَ

သတိပြုကြလေကုန်။ အလ္လာဟ်အရှင်မြတ်၏အဆွေတော်တို့ အပေါ်၌မူကား တစ်စုံတစ်ရာ စိုးရိမ်ကြောက်ရွံ့ဖွယ်ရာလည်း ရှိလိမ့်မည်မဟုတ်ပေ။ ထို့ပြင် ၎င်းတို့သည် ဝမ်းနည်းပူဆွေးကြမည်လည်းမဟုတ်ပေ။

اِنَّ الَّذِيْنَ قَالُوْا رَبُّنَا اللهُ ثُمَّ اسْتَقَامُوْا تَتَنَزَّلُ عَلَيْهِمُ الْمَلٰئِكَةُ
اَلَّا تَخَافُوْا وَلَا تَحْزَنُوْا وَاَبْشِرُوْا بِالْجَنَّةِ الَّتِىْ كُنْتُمْ تُوْعَدُوْنَ ○

ကေန်အမှန်အကြင်သူတို့သည် 'ကျွန်တော်မျိုးတို့အား

ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကား အလ္လာဟ်အရှင်မြတ် ပင်ဖြစ်တော်မူသည်'ဟုပြောခဲ့ဆိုခဲ့ကြပြီးနောက်(ယင်းယုံကြည်ချက်ပေါ်၌ ပင်)ဖြောင့်မတ်ကြံ့ခိုင်စွာ တည်ရှိနေခဲ့ကြကုန်၏။ 'မလာအိကဟ်' ကောင်းကင်တမန်များသည် ထိုသူတို့ထံဆင်းသက်လာ၍ဤသို့ပြော ဆိုနှစ်သိမ့်စေကြပေမည်'အသင်တို့သည်စိုးရိမ်ခြင်းလည်းမရှိကြ ကုန်လင့်။ ထိုမှတစ်ပါးအသင်တို့သည် မိမိတို့ကတိပေးခြင်း ခံခဲ့ကြ သော 'ဂျန္နသ်သုခဘုံရရှိသည့်အတွက် ဝမ်းမြောက်ကြလေကုန်။

အိဗ်နုမာဂျဟ်၏ ရိဝါယသ်တစ်ရပ်လာရှိသည်မှာ–

اولياء الله لا يموت ولكن ينتقل من دار الى دار

အလ္လာဟ်အရှင်မြတ်၏အဆွေတော်များသည် သေရိုးထုံးစံမရှိ၊ တစ်အိမ်မှတစ်အိမ်၊ ဌာနတစ်ခုမှ အခြားဌာနတစ်ခုသို့ ရွှေ့ပြောင်းသွား သည်သာဖြစ်သည်။ (အိဗ်နုမာဂျဟ်)

ဟဇရသ်အမီးရ်ဆပ်သည် ဝလီတစ်ပါးဖြစ်ကြောင်း ကျွန်ုပ်တို့ အားမြင်စေပြီးဖြစ်သည်။ ဟဇရသ်၏ဘဝတသက်တာတွင်အလ္လာဟ်အရှင် မြတ်၏အမိန့်တော်ကို ချိုးဖောက်မှု၊ ရစူလ်၏ စွန္နသ်ကို စွန့်လွှတ်မှုဟူ၍ မရှိခဲ့သောကြောင့်ဟဇရသ်သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော် အစဉ် နာယူကျင့်မှုကာ စွန္နသ်တော်များကိုအမြဲ ထွေးပိုက်ထားသူဖြစ်သည်။ ဤသည်ပင် **ခိလာဖသ် နေယာဗသ် ဝိလာယသ် ကရာမသ်**ဟု မည်တွင်လေရာ ဤသည် ထက်ကြီးကျယ်သည့်အရည်အသွေး ရှိပါဦးမည်လော။ ကျမ်းတော်မြတ်တွင် မိမိအချစ်တော်အား–

**အသင်သည် အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်ကြောင့် သာလျှင် ထိုသူကို နူးညံ့စွာ ဆက်ဆံခဲ့လေပြီ၊ အကယ်၍သာအသင် သည် နှုတ်ကြမ်းတမ်းသောသူ၊ စိတ်သဘောထားခက်ထန် ကြမ်း ကြုတ်သောသူဖြစ်ခဲ့ပါမူ ထိုသူတို့သည် အသင်၏အပါးမှ ကစဥ့် ကလျားဖြစ်ကာ ထွက်ခွာသွား ကြမည်မှာ ကေန်မလွဲတည်း** ဟူ၍ မြွက်ကြားထားသကဲ့သို့ ဟဇရတ်နှင့် ဆက်ဆံထိတွေ့မိသူတိုင်းသည် ဟဇရတ်၏ပြုံးရွှင်ချိုသာမှု၊ နူးညံ့သိမ်မွေ့နွေးထွေးစွာ ဆက်ဆံမှုတို့ကြောင့် ဟဇရတ်ထံမှ မလွဲသာ၍ခွဲခွာသွားရလျှင်လည်း အခါအခွင့်သင့်တိုင်း ဟဇရတ်ထံတွင်သာ တဝဲလည် လည် ရှိနေခဲ့ကြကြောင်း အလွှာစုံက သိမြင်ပြီးဖြစ်သည်။

အာယတ်တော်လာ ''ရဟ်မတ်''သည် အွမ္မတ်၏ ခေါင်းဆောင် များအတွင်း ပြန့်နှံ့လျက်ရှိရာ ခေတ်တိုင်းရှိ သာသနာ့သောကရှင်များသည် မွတ်စ်လင်မ်တို့ကိုစုစည်းကာ ဒီးန်၏အကျိုးကို သင်ကြားညွှန်ပြပို့ချခဲ့ကြ သည်။

အရှင့်အလိုတော်နှင့်ကျွန်ုပ်တို့၏ဟဇရတ်တွင်ယင်းအရည်အသွေး များ ပြည့်ဝလျက်ရှိသည်။ ဖစ်သ်နာဟ် အန္တရာယ်ဆိုးများ ထူပြောလှကာ ဒီးန်နှင့် ဝေးကွာစိမ်းကားနေသည့်ယခုခေတ်တွင် မည်သူကမည်သူ့ကို ဂရုမူအတုယူနိုင်ကြပါမည်နည်း။ ဟဇရတ်အမီးရ်ဆွာဟိဗ်သည် ဤသို့ ခေါင်းရှုတ်ထွေးခံ အနစ်နာခံကာ ပြဿနာအရပ်ရပ်ကို ပိုင်နိုင်စွာကိုင်တွယ် နိုင်ခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်ခဲ့သည်။

ဟာဇရယ်ကြီးမော်လာနာ အိလ်ယားစ်ဆွာဟိဗ်က လူတွေဟာ နောက်ပိုင်းအတွက် ပစ္စည်းဥစ္စာနှင့် ရောင်းရင်းတွေကိုထားခဲ့ပြီး ထွက်ခွာသွားကြပေမယ့်လည်း 'အရှင့်အလိုတော် နှင့်ကျွန်တော်ကတော့ (ဦးရေသိန်း(၄၀)ရှိတဲ့) မေဝါသ်ရွာကြီးတစ်ရွာကို ထားခဲ့တယ်'' ဟုမိန့်ကြားခဲ့ပြီးကျွန်ုပ် တို့၏ဟာဇရယ်ကမူထာဝရဆဝါးဗ်တည်မြဲစေသည့် ဒအ်ဝသ် ကြိုးပမ်းမှု နိအ်မသ်ကို အမွေအနှစ်အဖြစ် မွတ်စလင်မ်များထံ ထားခဲ့ပေပြီ။

ထို့မျှမက ထိုင်းနှင့်မလေးရှား၌လည်း ဟာဇရယ်၏ လမ်းညွှန်သွန်သင်မှုဖြင့် မာမူရ်များက ဤကြိုးပမ်းမှုတွင် အချိန်ပေး နေကြပေပြီ။ ယင်းတို့အနက် ယိုဒယားနိုင်ငံ၏အမီရ်ဆပ် ဟာဂျီယူစွဖ် မရ်ဟူမ်ကော့ကရိတ်) သည်ဟာဇရယ်၏မာမူရ်အရင်းအချားတစ်ဦးဖြစ်ခဲ့သည်။

အလားတူပင် အိန္ဒိယ၊ ပါကစ္စတန်၊ အမေရိကန်၊ အင်္ဂလန်နှင့် ဩစတေးလျနိုင်ငံများ တွင်လည်း ဟာဇရယ်၏မာမူရ်များကပင်ဒအ်ဝသ် ကြိုးပမ်းမှုကို စိတ်ဝင်စားစွာ လုပ်ဆောင်နေကြပေပြီ။

ဟာဇရယ်၏ကျောင်းနေဘက် မိတ်ဆွေသူငယ်ချင်း ဟာဇရယ် မော်လာနာ စအီဒ်အဟ်မဒ်ခါန်း သည်ဒအ်ဝသ်လုပ်ငန်းကိုစအူဒီအာရေဗျ တွင်ကြိုးပမ်းခဲ့စဉ်ကဟာဇရယ်၏မာမူရ်မြန်မာနိုင်ငံသား ရောင်ရင်းများကပင် လက်တွဲပံ့ပိုးခဲ့ကြသည်။

**မုဟာမ္မဒ်အိလ်ယာစ် (ဆွာလေဟီ)**

# မွေးဖွားသန့်စင်

**ဇာတိချက်ကြွေးမွေးရပ်မြေ –**

အမှတ် (၂၅)၊ ၁၀၁လမ်း၊ ဖို့မြေရပ်ကွက်၊မင်္ဂလာတောင်ညွှန့်၊ရန်ကုန်မြို့။

**ဟဇရသ်၏မွေးဖွားရက် –**

ဟိဂျ်ရီခုနှစ်၊၁၃၃၈– ရဗီအွလ်အောက်ဝလ် (၇) ရက်

ခရစ်နှစ်၊၁၉၂၀–ဧပြီလ (၂၀)ရက်

မြန်မာသက္ကရာဇ်၊၁၂၇၉– တပေါင်းလ (၉) ရက်

**မွေးနေ့**– တနင်္လာနေ့၊ စွပ်ဟေဆာဒစ်က် အာရုံတက်ချိန်၊

# ဆွေစဉ်မျိုးဆက်

**ဟဇရသ်၏ဖခင်**

မုဟမ္မဒ်ယဟ်ယာ အသ်သာစီ ဖြစ်သည်။နမာဇ်၊ဒီးန်သာသနာကို ကိုင်းရှိုင်းသူ၊ဒီးန်၏စိတ် ဓာတ်ရင့်သန်သူဇာကိရီးန်ဖြစ်ပြီးသဃ်နံးကျွန်းရှိ အသ်သွာစီယဟ်ခါန် ကာဟ်ဖ်ဝိယာ ကို ဦးဆောင်ကြပ်မတ်သူဖြစ်သည်။

ဖခင်၏မျိုးနွယ်ဆက်သည် မလေးရှားရှိ 'ကဒါ' နယ်ဖွားများမှ ဆင်းသက်လာသည်။ ကုန်သည်လုပ်ငန်းရှင်များအဖြစ် မြန်မာနိုင်ငံသို့ ရွှေ့ပြောင်းလာခဲ့ကြသည်။

ရန်ကုန်၊ ဗိုလ်တထောင်နယ်ပယ်ရှိ မွတ်စ်လင်မ်များအရေးတွင် ရှေ့ဆုံးမှပါဝင်ဦး ဆောင်ခဲ့သူများလည်း ဖြစ်ခဲ့ကြသည်။

**ဟာဇရသ်၏မိခင်**

ဟာဇရသ်၏မိခင်မှာ ဖိုင်နပ်ဘီ(အရဗီ)ဖြစ်သည်။ အရဗီရေးဖတ်ရာ၌ အလွန်ကျွမ်းကျင်သဖြင့် ဖိုင်နပ်ဘီအရဗီဟုလူသိများသည်။ ဒီးန်ဒါးရ်၊ နမာဇ်၊ သဟာဂျ်ဂျုဒ်မြဲသည်။ ပရ်ဒါကိုအထူးဂရုစိုက်လေးစားသန့်ပြန့်စင်ကြယ်သူဖြစ်သည်။

မိခင်၏မျိုးဆက်သည် အရဗီနွယ်ဝင်များအနက်မှဖြစ်ပြီး မြန်မာနိုင်ငံကမ်းရိုးတန်းရှိ တနင်္သာရီနယ်စပ်သို့ ကူးပြောင်းလာခဲ့ကြသူများဖြစ်သည်။

**မွေးချင်းများ**

(၁) အစ်ကိုကြီး မရ်ဟူးမ် **စအီးဒ်အိပ်နုယဟ်ယာသည်** စာတိုက်ဝန်ထမ်းဖြစ်ခဲ့သည်။ ဘောက်ထော်တွင်နေထိုင်သည်။

(၂) ညီငယ်မရ်ဟူးမ် အဟ်မဒ် အိုပ်နုယဟ်ယာသည်လည်း ဘောက်ထော်တွင်နေထိုင်ခဲ့ပြီး ရန်ကုန် (၂၆) လမ်းရှိ၊ မဒ်ရဆဟ်နူရွှလ်အစ္စလာမ်ကျောင်းတွင် စာပြခဲ့သည်။ ခါန်ကာ အသ်သာစီယဟ်ဇာဝေယဟ်၏ နောက်ဆုံးခလီဖဟ်လည်းဖြစ်သည်။

(၃) ညီငယ်မရ်ဟူးမ် မုဟမ္မဒ်အလီအိပ်နုယဟ်ယာသည် သဃ်န်းကျွန်းတွင် နေထိုင်ခဲ့သည်။ အသ်သာစီယာ၏အမှုဆောင်အဖွဲ့ဝင်ဖြစ်ခဲ့သည်။ အရဗီကျူရှင်ဆရာလည်းဖြစ်သည်။

(၄) အစ်မကြီး မရ်ဟူမဟ် ဖာသွေမဟ် ဗင်န်သေ ယဟ်ယာဖြစ်သည်။ ကန်တော်ကလေးတွင် နေထိုင်ခဲ့သူဖြစ်သည်။

(၅) ညီမငယ် မရ်ဟူမဟ် ရှရီဖဟ် ဗင်န်သေ ယဟ်ယာဖြစ်သည်။ မအူကုန်း၊ ၁၃၆လမ်းတွင် နေထိုင်ခဲ့သည်။

## မပ်ကဲသဗ် အခြေခံပညာရေးစတင်ပုံ

ရန်ကုန်မြို့အမှတ်(၂) လမ်း၁၃၀၊ ရခိုင်ဗလီအနီးရှိ မာစ်တရ် အိဖ်သီခါရ် အဟ်မဒ်ဆွာဟိဗ်ထံ ကာအေဒဟ်ဘဂ်ဒါဒီ၊ အူရ်ဒူကာအေ ဒဟ်၊ ဒုအာ–ကလေမဟ်၊စသည်များကိုစတင်ဆည်းပူးခဲ့သည်။ထိုကျောင်း တက်စဉ် ၁၉၂၆ခုနှစ်တွင် ဟာဖိဇ်၏အသက်မှာ (၆)နှစ်ရှိနေပြီ။ တစ်နှစ် သာကျောင်း တက်ခဲ့သည်။

### ဟာဖိဇ်၏ဆရာများ

ဟာဖိဇ်၏လက်ဦးဆရာများမှာ ရခိုင်ဗလီ ရှေ့ဆောင်ဆရာကြီး၊ ဟာဖိဇ်မော်လာနာ ရှမ်စုလ်ဟက် ဆွာဟိဗ် (رحمة الله عليه) နှင့် မာစ်တရ် အိဖ်သီခါရ်အဟ်မဒ်ဆွာဟိဗ်တို့ဖြစ်ခဲ့သည်အခြေခံပညာသင်နှစ်မှာခရစ် နှစ် (၁၉၂၅) မှ(၁၉၂၆) အထိ တစ်နှစ်အတွင်းဖြစ်သည်။

## သဃ်န်းကျွန်း မဒ်ရဆဟ် အဆ်သာစီယာ(ဇာဝေယဟ်)

(၁၉၂၇ခုနှစ်) ၇–နှစ်သားအရွယ်တွင် မဒ်ရဆဟ်အဆ်သာစီယဟ် (သဃ်န်းကျွန်းကျောင်းသို့) ရွှေ့ပြောင်းကာ အူရ်ဒူပထမတွဲမှစတုတ္ထတွဲထိ၊ သအ်လီမွလ်အစ္စလာမ်(အတွဲ– ၁ ) မှ (အတွဲ–၄) အထိ ၊အရဗီ၊ဖာရစီ၊ ဟာမာရေနေဗီ၊ ဟာမာရေရစူလ်၊ အမ္မာပါရဟ်နှင့်သရ်ဂျမာကွရ်အာန်စသည် ပညာရပ်များကို ဆည်းပူးခဲ့သည်။

ထိုကျောင်းမှာ ဘိုး၊ဘေး ဆွေမျိုးဆက်တို့၏ ကျောင်းဖြစ်၏။ ဦးစားပေးရမယ့် ကျောင်း လည်းဖြစ်ခဲ့သည်။ အသက် ၇နှစ်မှ၁၀နှစ်အထိ ခရစ်သက္ကရာဇ် ၁၉၃၀ ခုနှစ်အထိ ပညာဆည်းပူးခဲ့သည်။ သင်ကြားပို့ချခဲ့သောဆရာများမှာ–

၁– ဖဇီလသွလ် ရှိုင်ခ် အလ်ဟာဂျ် စိုင်ယဒ် အဗ်ဒွရ်ရဟ်မာန် အလ်အသ်သားစ် (رحمة الله عليه)

၂– ခလီဖဟ် ရှိုင်ခ် ဒွစ်မာန်ဂနီဆပ်တို့ဖြစ်သည်။

## ကုရ်အာန်ကျမ်းတော်မြတ်ကို အာဂုံဆောင်ခြင်း

(၁၉၃၁)ခု၊ ၁၁–နှစ်သားအရွယ်တွင် ရန်ကုန်မြို့ကျုလီယာ ဗလီကြီး၏ ရှေ့ဆောင်ဆရာကြီး ဟဇရသ် မော်လာနာ အန္ဒဝါရွလ် ဟပ်က်ဆွာဟိဗ် (လခ်နဝီ)ထံ ဟိဖ်ဇ်ကို စတင်ခဲ့သည်။ ဟဇရသ်နှင့်အတူ ညီဝမ်းကွဲ မရ်ဟူးမ် ဟာဖိဇ်စုလိုင်မာန် အသ်သာစီလည်းပါဝင်သည်။ (၃)နှစ်အတွင်း ဌပင် ဟာဖိဇ်ပြီးခဲ့သည်။ (၁၉၃၄)ခု နှစ်ဆန်းပိုင်း အသက် ၁၄နှစ်အရွယ်ထိ မော်လာနာ အန္ဒဝါရွလ်ဟပ်က်ဆပ် (လခ်နဝီ)ထံ တွင်ပင်စုစုပေါင်း (၄)နှစ်ခန့် ကြာမြင့်စွာ ဟိဖ်ဇ်–ဒေါရ် ပြီးစီးခဲ့သည်။

## အရဗီအခြေခံနှင့် ဒေးဒနောကျောင်း

**(မုဒ်အီးနွလ်အစ္စလာမ်)** (၁၉၃၄) မှ (၁၉၃၅) ခုနှစ်၊

မြန်မာနိုင်ငံအိုလမာအဖွဲ့ချုပ်မှကြီးမှူး၍ရန်ကုန်တစ်ဖက်ကမ်း ရှိ **ဒေးဒနော**ကျေးရွာတွင် မဒ်ရစဟ်မုအီးနုလ်အစ္စလာမ်အမည်ရှိ ဘော်ဒါ

ကျောင်း တစ်ဆောင်ဖွင့်လှစ်ခဲ့သည်။

ကျောင်းနေရာရွေးချယ်ရခြင်းအကြောင်းမှာ– (၁၉၂၀)ခုနှစ်ခန့်က ဗာသိလ်ခေါင်း ဆောင်များသည် **ဒေးဒနော**နှင့် ပတ်ဝန်းကျင်းကျေးရွာ ရှိမွတ်စလင်မ်များကို အစ္စလာမ့်တရားတော်နှင့် ဆန့်ကျင်သည့် ဗာသိလ် အယူဝါဒများဘက်သို့ သွေးဆောင်ကြသဖြင့် ဟဇရသ် **မွဖ်သီချုပ်** ကြီး၏ဖခင် မရ်ဟူမ်ဟာဂျီ **ဒါဝူးဒ်ယူစွဖ်သည်လည်းကောင်း၊ မြန်မာ နိုင်ငံအိုလမာအဖွဲ့ချုပ်နှင့်** ရန်ကုန်မြို့ရှိ မွတ်စလင်မ် ညီနောင်များ စိတ်ထိခိုက်၍ သောကဖြစ်ကာ မြန်မာနိုင်ငံ၏အစ္စလာမ့်သမိုင်းတွင် ပထမဦးဆုံး'ဘောဒါ'ကျောင်းတစ်ဆောင်ကို **ဒေးဒနော**ကျေးရွာ၌ ၁၉၂၀–၂၁ခုနှစ်တွင်**မုအီနုလ် အစ္စလာမ်**အမည်ဖြင့် သမိုင်းတင်ဖွင့်လှစ် ခဲ့သည်။

ထို့ပြင်ရင်းတို့သည် အိန္ဒိယမှ အာလင်မ်များကို ပင့်ဖိတ်ပြီး အကျိုးအကြောင်းတင်ပြကာ တရားဒေသနာတော်များ ဟောကြား၍ တစ်မျိုး၊ မဒ်ရဆဟ်ဖြင့်ပညာများပို့ချ၍တစ်ဖုံ၊ ဓောက်ချကြိုးစား ကြရာ ဘာသာသာသနာပျောက်ကွယ်သွားသူများ တစ်ဖန်အစ္စလာမ်သို့ ဝင်လာ ကြသည်။ ကျန်မွတ်စလင်မ်များလည်းဒီးန်အတွက် အကာအကွယ်ရကြ လေသည်။ ထိုအချိန်ကပညာဆည်းပူးလိုသူများအား ဒေဒနောကျောင်း သို့စေလွှတ်ခဲ့သည်။

**ဟာဇရသ်နှင့်အတူ စတုတ္ထတန်းကျောင်းနေဘက်များ**

မော်လာနာ ဂါဇီဟာရှင်မ်ဆွာဟာစ်ဗ် (လယ်ဝေး)

မော်လာနာ ဂျမာလွဒ္ဒီးန်ဆွာဟာစ်ဗ် (ဖလန်ဘို)

မော်လာနာ အဗ်ဒွလ်ဟာကီးမ်ဆွာဟာစ်ဗ်(ပျော်ဘွယ်)

မော်လာနာ မုဟမ္မဒ်ယာစီးန်ဆွာဟာစ်ဗ် (မုတ္တမ)

မော်လာနာ ကာရီ မုဟမ္မဒ်အလီဆွာဟာစ်ဗ် (သရက်ကုန်း)

တို့ဖြစ်ကြသည်။

**ထိုပညာသင်နှစ်တွင် ပို့ချခဲ့သောဆရာများ**

၁- အလ္လာမဟ် စိုင်ယဒ် ဟာကီးမ်အိုင်ရှိဆွာဟာစ်ဗ်
  'ဂရဲန်' တိုင်းရင်းဆေးခန်း
  ဥက္ကဌ - အိုလမာအဖွဲ့ချုပ် (မြန်မာနိုင်ငံ)

၂- အလ္လာမဟ် စိုင်ယဒ်မွခ်သာရ်အဟ်မဒ် ဆွာဟာစ်ဗ်
  မုအီနွလ်အစ္စလာမ်ကျောင်းအုပ် (ဖိုင်ဇ်အာဗာဒ်)

၃- မော်လာနာ အဗ်ဒွလ် အဇီးဇ်အဟ်မဒ် (ပတ္တနဝီ)

၄- မော်လာနာ မရ်ဂူဗ်ဆွာဟာစ်ဗ် (ပိရှာဝရီ)

၅- မော်လာနာ ဂွလ်နဗီဆွာဟာစ်ဗ် (ပိရှာဝရီ)

၆- မော်လာနာ အဗ်ဒွလ်ခါလစ်က်ဆွာဟာစ်ဗ်

၇- မော်လာနာ ဇဖရ်အဟ်မဒ်ဆွာဟာစ်ဗ်(အွတ်စ်မာနီ)

# သမိုင်းကျောင်း

တွံတေး–ဒေးဒနေသို့ ရန်ကုန်မှ အသွားအလာ ကျောင်းတက်ရသည်မှာ ကျောင်းသား များအဖို့ ခက်ခဲမှုများ ကြုံတွေ့ရသဖြင့် အိုလမာ အဖွဲ့ချုပ်က သမိုင်းလမ်းဆုံ ဗလီဝင်းတွင်းသို့ ဒါရှုလ်အုလူမ်အမည်ဖြင့် ရွှေ့ပြောင်းခဲ့သည်။

(၁၉၃၅) မှ (၁၉၃၆) နှစ်ဆန်းပိုင်း ဟာဇရသ်၏အသက် ၁၆နှစ်အရွယ်တွင် တစ်နှစ်တိုင်တိုင် ၅–တန်း အလယ်တန်း နိစာဗ်ညွှန်းတန်းကို ဆည်းပူးခဲ့သည်။

## သမိုင်းမဒ်ရစဟ်၏ဆရာများ

၁– အလ္လာမဟ် အဗ်ဒွလ် အဇီးဇ်အဟ်မဒ် ဆွာဟစ်ဗ်(ပတ္တနဝီ)

၂– မော်လာနာ အဗ်ဒွရ်ရဟ်မာန် ဆွာဟစ်ဗ် (ကာမိလ်ပူရီ)

၃– မော်လာနာ ရှရီးဖ်အဟ်မဒ် ဆွာဟစ်ဗ်

## ဒါရှုလ်အုလူမ်တာမွေ

အလ်ဟာဂ်ျ ဒါဝူးဒ်ယူစွဖ်ဆွာဟစ်ဗ်(မွဖ်သီချုပ်၏ဖခင်)သည် (၁၉၃၆)ခု ဇွန်လ၊ ၁၇–ရက် နေ့တွင် ဒါရှုလ်အိုလူမ်ကျောင်းတော်ကြီးကို သမိုင်းမှ တာမွေ(ဗဟန်းမြို့နယ်) ကင်းဘဲလမ်းရှိ မုဟာမ္မဒ်ဂျာန်ဗလီဝင်းသို့ ရွှေ့ပြောင်းဖွင့်လှစ်ခဲ့သည်။ဟာဇရသ်နှင့် ကျောင်းနေဘက် ၆–ဦးစလုံးသည် ဆဋ္ဌမတန်း နေစာဗ်ကို ဆည်းပူးခွင့်ရခဲ့ကြသည်။ အချို့က တစ်နှစ်၊ အချို့က လ. အနည်းငယ်သင်ယူခဲ့ကြသည်။

## မဒရ်ဆဟ် ဒါရုလ်အိုလူမ်၏ကနဦးဆရာတော်များ

၁– မော်လာနာ ဖိုင်ဇ်အဟ်မဒ် ဆွာဟစ်ဗ် (ဗုခါရီ)

၂– မော်လာနာ အမီးရ်အဟ်မဒ် ဆွာဟစ်ဗ် (မီရထီ)

၃– မော်လာနာ ကာရီ ဖဇ်ရွဒ်ဒီးန်ဆွာဟစ်ဗ် (ဂယာဝီ)

၄– မော်လာနာ မစီဟွဒ်ဒီးန်ဆွာဟစ်ဗ် (အေလာဟ်အာဗာဒီ)

## မဇွာဟေရုလ်အုလူမ်နှင့်အဆင့်မြင့်ပညာ

၁၉၃၈ – ခုနှစ်၊ဟာဇရသ်အသက် ၁၈–နှစ်အရွယ်တွင် သင်္ဘောခရီးဖြင့် အိန္ဒိယနိုင်ငံ စဟာရန်ပူရ်မြို့ရှိ မဇာဟိရေအိုလူမ်သို့ ရောက်ခဲ့သည်။

ဟာဇရသ်နှင့် ညီဝမ်းကွဲ (ကျာကျာသား) မော်လာနာကာရီမုဟမ္မဒ်အလီတို့၏ ခရီးစရိတ်နှင့် ပညာသင်စရိတ်များကို ဟာဂျီဒါဝူးဒ်ယူစွဖ်ဆွာဟိဗ်နှင့် အသ်သွာစီယဟ်ခေါင်းဆောင်တို့က ပံ့ပိုးကူညီသည်။

### ဟာဇရသ်၏မဇာဟိရ်ကျောင်းနေဘက်များ

(၁) မော်လာနာ ယာဇီဟာရှင်မ် ဆွာဟစ်ဗ်၊

(၂) မော်လာနာ ဂျမာလွဒ်ဒီးန် ဆွာဟစ်ဗ်၊

(၃) မော်လာနာ ရှဗီကွဒ်ဒီးန် ဆွာဟစ်ဗ်၊

(၄) မော်လာနာ ကာရီ မုဟမ္မဒ်အလီ ဆွာဟစ်ဗ်၊

(၅) မော်လာနာ အဗ်ဒွလ်ဟကီးမ် ဆွာဟစ်ဗ် (ပျော်ဘွယ်)

(၆) မော်လာနာနူးရ်မုဟမ္မဒ်ဆွာဟိဗ်၊(ကမ္ဘာ့အလင်းအယ်ဒီတာ)

တို့နှင့်အတူ သတ္တမတန်းနေစာဝ်ကိုဆည်းပူး ခွင့်ရခဲ့သည်။ ပြည်ပကျောင်းနေဘက်များအနက် ဟာဇရည်မော်လာနာ စအီဒ်အဟ်မဒ်ခါန် မုဟာဂျိရ် မဒနီနှင့် အလွန်ပင် ရင်နှီးခင်မင်ခဲ့သည်။

## မဓာဟိရ်တွင် သင်ကြားပို့ချခဲ့သောဆရာတော်များ

ဟာဇရည် မော်လာနာ ဇကရီယာ ဆွာဟစ်ဗ် ကွဒ်ဒူစီ
〃 〃 အပ်စ်အဒွလ္လာဟ် ဆွာဟစ်ဗ်
〃 〃 ဆိုင်ယဒ် အဗ်ဒွလ်လသီးဖ် ဆွာဟစ်ဗ်
〃 〃 ကာရီ ဖခ်ရွဒ်ဒီးန် ဆွာဟစ်ဗ်
〃 〃 မွဖ်သီ ကာရီ စအီးဒ် ဆွာဟစ်ဗ် အဂ်ျရာရဝီ
〃 〃 ရှိုင်ခွလ်ဟဒီးစ် ဇကရီယာ ဆွာဟစ်ဗ် ကာန်ဒလ်ဝီ
〃 〃 အိဒ်ရီးစ် ဆွာဟစ်ဗ် ကာန်ဒလ်ဝီ

# သင်ယူဆည်းပူးခဲ့သောနိစာဗ်ကျမ်းစာအုပ်များ

## သတ္တမတန်း

ဟောဒါယသွန်းနဟ်ဝ်
ကာဖီယဟ်
ကုဒူရီ
မိရ်ကာသ်–သဟ်ဖိဗ်
ကိရာအသ်– ဂျမာလွလ်ကုရ်အာန်
မုဖီဒွသ့်သွာလိဗိန်
နဖ်ဟာသွလ်ယံမန်
အွရ်ဒူအဒဗ်
အရ်ဗီစာစီစာကုံး

## အဋ္ဌမတန်း

ရှရဟ်ဂျာမိ
ကန်ဇွလ်အကာအိဒ်
အုစူလွရ်ရှာရှိ
သလ်ခီစွလ်မိဗ်သာဟ်
ရှရဟ်သဟ်ဖိးဗ်
ကွသ်ဗီ
ဂျဝါဟိရွလ်အဒဗ်
နဖ်ဟာသွလ်အရဗ်
ကိရာအသ်ဖဝါအိဒေမက္ကိယဟ်

## နဝမတန်း

ဟောဒါယဟ်အောက်ဝလိုင်န်
စိရာဂျီ
နူရွလ်အန်ဝါရ်
ဟွစ်စာမီ
မွခ်သစရွလ်မအာနီ
သအ်လီမွလ် မုသအလ္လင်မ်
သရ်ဂျမဟ်ကုရ်အာန်(ကာမိလ်)
ကိရာအသ် မအလ်ဂျဇ်ရီ
မကာမားသ်
စဗ်အ မုအလ်လကဟ်
အရဗီ စာစီစာကုံး
အူရ်ဒူ ။

## ဒသမတန်း

မိရ်ကားသ်ရှရီးဖ်
နွခ်ဗသွလ်ဖိက်ရ်
ဟိဒါယာအာခိရိုင်န်
ရှရဟ်အကာအိဒ်
စွလ်လမွလ်အုလူမ်
ဒီဝါန် မုသဗန္နဟ်
သာရီခွလ်ခုလဖာ
အူရ်ဒူ/အရဗီ
စာစီစာကုံး

## ကေဒသမတန်း
## (ဘွဲ့လွန်)

မွတ်စ်လင်မ်ရှရီးဖ်
မုအသ်သွာအေမာမ်မာလိက်
အဗူဒါဝူဒ်ရှရီးဖ်
ဗုခါရီရှရီဖ်
သဟာဝီရှရီဖ်
မုအသ်သွာအေမာမ်မုဟမ္မဒ်
နစာအီရှရီဖ်
အိဗ်နေမာဂျဟ်
သိရ်မိဇီရှရီးဖ်
ရှမာအိလေသိရ်မိဇီ

F 3.B

## မဓာဟာ်ရဲ့ ကျောင်းဆင်းနှစ်

## (၁၉၃၈) မှ (၁၉၄၃) အထိ

၁၉၄၃–ခုနှစ်၊ အသက်၂၃–နှစ်တွင် ဖာရစ်ဂ်ဖြစ်သည်။ သင်ရိုးညွှန်းတန်း နိစာပ်အပြည့်အစုံကို ''ကာမိလ် ဖာဇိလ်အာလင်မ်ဗာအမလ်'' အနေဖြင့် အောင်မြင်ခဲ့သည်။

ထို့နောက် (၁၉၄၃) မှ (၁၉၄၅) ၂–နှစ်တိုင်တိုင် ဒါရွလ်အိုလူမ်ဒေယိုဗန်ကျောင်းတွင် အိဖ်သာ–သဖ်စီရ်နှင့် အဒဗ်ဘာသာရပ်ကို ''အထူးဘွဲ့လွန်'' အနေဖြင့် ဆည်းပူးစဉ်မှာပင် အသက် ၂၅–နှစ်ပြည့်ခဲ့သည်။

## ကျောင်းဆင်းပြီးနောက်

(၁၉၄၅) မှ (၁၉၄၆) နှစ်ဆုံးတိုင် ၂၆–နှစ်အရွယ်တွင် ဂွဂျ်ရာသ်ပြည်နယ် ကာထီယာဝါရ်မြို့တွင် ဗလီရှေ့ဆောင်အိမာမ် အဖြစ်တာဝန်ထမ်းဆောင်ခဲ့သည်။

ထိုစဉ်က မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းပိုက်ထားသည်။ တိုင်ပြည်မအေးချမ်းသေးသဖြင့် ချက်မြုပ်နိုင်ငံသို့ ပြန်လာရန် ကြိုးစားသော်လည်း အခွင့်အရေးမရခဲ့ပေ။ ရှေ့ဆောင်တာဝန်ထမ်းဆောင်စဉ်က ဒေလီနေဇာမွဒ်ဒီးန်သို့သွားရန် အခွင့်အလမ်းနည်းပါးသဖြင့် ဟာဇရသ်ကြီးမော်လာနာ ယူစွဖ်ဆပ်ထံ ခစား၍ ဒအ်ဝသ်ကြိုးပမ်းမှုလုပ်ငန်းကို ဆည်းပူးခွင့် မရသော်လည်း စာအားဖြင့်ဆက်သွယ်မှုထားကာလုပ်ငန်းကို သင်ယူဆည်းပူးခဲ့ပါသည်။ ဟာဇရသ်ကြီးမှလည်းပြန်စာပို့ပေးလေ့ရှိသည်။

## မဒေါဟိရ်ကျောင်းတော်မှအပြန်

မုဖပ်စ်စီရှလ်ကုရ်အာန် မော်လာနာ အိဒ်ရီးစ်ဆွာဟိဗ်ကာန်ဒလ်ဝီ ထံသွားရောက် မုလာကာသ်ပြုသောအခါ ဆရာတော်က–

– အလ္လာဟ်အသင့်ကို ကျယ်ပြန့်များပြားသော ရိုဇီများပေးတော်မူပါစေ။
– လိမ္မာရေခြားရှိသော သားသမီးများပေးတော်မူပါစေ။
– ဒီးန်ရေးရာအတွက် အကျိုးဆောင်ခွင့်များပေးတော်မူပါစေ။
– အဆုံးကောင်းသောအခြေအနေများကို ချီးမြှင့်တော် မူပါစေ ဟူသော အထူးဒိုအာများချီးမြှင့်ခဲ့သည်။

အမိနိုင်ငံကော်သို့ပြန်ရောက်လာစဉ်မှစ၍ ဆရာတော်၏ထို ဒုအာများ ဟာဇရသ်၏ဘဝသက်တန်းတစ်လျှောက်လုံးတွင်တရွေ့ရွေ့ ပြည့်ဝနေခဲ့သည်။ ဤသည် ဟာဇရသ်၏ ကံကောင်းခြင်းလက္ခဏာပင် ဖြစ်သည်။

## ရန်ကုန်သို့

ဒုတိယကမ္ဘာစစ်ကြီးပြီးဆုံး၍ အင်္ဂလိပ်အစိုးရစွန့်ခွာသည့် (၁၉၄၇)နှစ်ဦးပိုင်းတွင် ရန်ကုန်ပြန်ရောက်ခဲ့သည်။ ထိုစဉ်က ဟာဇရသ် ၏အသက်မှာ ၂၇– နှစ်ရှိပေပြီ။

## မုဟာမ္မဒ်ဂျာန်ဗလီ

ရန်ကုန်ရောက်သည်နှင့်ဦးစွာပထမ တာမွေမုဟာမ္မဒ်ဂျာန်ဗလီတွင် ရှေ့ဆောင်တာဝန်ထမ်းဆောင်သည်။ နှစ်ပေါင်း ၂၀–တိုင် ဗလီခတ်ဒ်မသ် ပြုခဲ့သည်။ ရမဇာန်လမြတ်များ၌ နှစ် ပေါင်း၂၀–စလုံး သရာဝီနမာဇ် ကိုလည်း တစ်ဦးတည်းရှေ့ဆောင်၍ဝတ်ပြုခဲ့သည်။ ဟာဇရသ်သည် ကုရ်အာန်ကိုကျွမ်းကျင်စွာ ဟာဖိဇ် အာဂုံဆောင်ထားသူဖြစ်သည်။ ရန်ကုန် (မရ်ကဇ်)တခြမ်းပွဲ့ဗလီ တွင်လည်း ၁၉၆၇–ခုနှစ်မှစ၍၁၉၉၇ခုနှစ် အထိ နှစ်(၃၀)တိုင်တိုင် သရာဝီဟ်နမာဇ်ကိုဦးဆောင်ခဲ့သည်။

## ရန်ကုန်ဒါရွလ်အုလူမ်

ကမ္ဘာစစ်ပြီးနောက်(၁၉၄၇) ခုနှစ်၊ ဧပြီလ ၁၇–ရက်နေ့တွင် ဟာဇရသ်သည် ကျောင်းသား(၁၀)ဦးနှင့်စတင်ပြီးဒါရွလ်အုလူမ်ကျောင်းကို ပြန်လည်ဖွင့်လှစ်ကာပညာသင်ကြား ပို့ချခဲ့သည်။ ထိုစဉ်က ဟာဇရသ်၏ အသက်မှာ ၂၇–နှစ်သာရှိခဲ့သည်။

## ထိမ်းမြားမင်္ဂလာ

ဟာဇရသ်၏အသက်(၂၈)နှစ်ပြည့်သည့် ၁၉၄၈ခုနှစ်၌မိမိ၏မာမူ ၏သမီး ညီမဝမ်းကွဲတော်စပ်သူ အာအိရှာဟ် ဗင်န်သေ အွတ်စ်မာန် ဆွဟိဗ်နှင့်ရန်ကုန်မြို့စူရသီဗလီကြီးတွင် ဟာဇရသ် မွဖ်သီ မဟ်မူဒ် ဒါဝူးဒ် ယူစွဖ် (رحمة الله عليه)က နိကာဟ်ဖတ်လက်ထပ်ပေးခဲ့သည်။ဟာဇရသ်တွင် သား(၄)ယောက်နှင့် သမီး(၅)ယောက် ထွန်းကားခဲ့ပြီး မလေးရှားနိုင်ငံ

ကွာလာလန်ပူရ်မြို့တော်ရှိ ဟာဖိဇ်ကျောင်းတွင် ပညာပို့ချနေသော သားကြီး မော်လာနာ ဟာဖိဇ် အုမရ်ဖာရူးက်နှင့်မိသားစုတို့မှအပ ကျန်မိသားစုအားလုံး မိမိတို့၏အိမ်ထောင်ဘက်များနှင့်တကွ ရန်ကုန်မြို့တွင်ပင် နေထိုင်လျက်ရှိကြသည်။

## ဟာဇရသ်နှင့်ဒါရွလ်အုလူမ်

ဒါရွလ်အုလူမ်၏ ပထမခေတ် (၁၉၃၆)ခုနှစ် တွင် ဟာဇရသ်သည် ကနဦးပိုင်းကျောင်းသားဖြစ်ခဲ့ပြီး ဒုတိယခေတ် (၁၉၄၇)ခုနှစ်တွင် ပထမဦးဆုံးကျောင်းဆရာဖြစ်သည်။

ထိုစဉ်က ဟာဇရသ်တစ်ဦးတည်းသာ ကျောင်းဆရာအဖြစ်တာဝန်ယူသင်ကြား ပို့ချလျက် ရှိခဲ့သည်။ များမကြာမီကာလတွင် ဟာဇရသ် မော်လာနာ ဘရှီရွတ်လ္လာဟ် ဆွာဟစ်ဗ်(ရှိုင်ခွလ်ဟဒီးစ်၊ မြန်မာနိုင်ငံ) ကလည်း ဤကျောင်းတော်တွင် ပညာသင်ကြားပို့ချပေးရန် ကြွမြန်းလာရာ ဟာဇရသ်က ဝမ်းသာအားရစွာ ကြိုဆိုကာ ကျောင်းတော်၏ပညာရေးအခန်းကဏ္ဍကို ဦးဆောင်တာဝန်ယူပေးပါရန်မိမိ၏သဘောဆန္ဒဖြင့် ရှိုင်ခွလ်ဟဒီးစ်အား အပ်နှင်းဂုဏ်ပြုခဲ့သည်။ ထို့နောက်ဟာဇရသ်ကိုယ်တိုင်က ယင်းကျောင်းတော်တွင်သာမန်ကျောင်းဆရာတစ်ဦးအဖြစ်ဆက်လက်၍ ပညာသင်ကြားပေးခဲ့သည်။

ဟာဇရသ်၏ဖော်ပြပါအပြုအမူသည် အာလင်မ်နှင့်ဂိုင်ရ်အာလင်မ် များ အားလုံးအတွက် အစ်ကရာမ်၏ အမြင့်ဆုံးသောစံနမူနာပင် ဖြစ်ပေသည်။

## အိုလမာအဖွဲ့နှင့်ဆက်သွယ်ထားခဲ့ပုံ

(၁၉၁၆) မှ အဟ်လေဟပ်က်များဦးစီးခဲ့သော အိုလမာအဖွဲ့၌ (၁၉၄၇) မှစ၍ အဖွဲ့ဝင်အမှု ဆောင်အဖြစ်ပါဝင်ခဲ့သည်။အိုလမာအဖွဲ့မှ လိုအပ်လာတိုင်း နှီးနှောပွဲ ဆွေးနွေးပွဲများတွင် ပါဝင်ခဲ့ရုံမက လကြည့် စီစစ်ရေး၊ ဖိသ်ရာဟ်နေစာဗ်၊ ဇကားသ်မစာအိလ်၊ နေကာဟ် သွလားက်နှင့် အမွေဆိုင်ရာကိစ္စရပ်များတွင် အိုလမာအဖွဲ့၏ဆောင်ပုဒ်ကို သရုပ်ဖော်ပေးခဲ့သည်။

(၁၉၇၂)နှစ်တွင် အိုလမာအဖွဲ့၏ နှစ်ပတ်လည်ညီလာခံကို ကျောက်မဲမြို့ တွင်ပြုလုပ်ခဲ့ရာ ယင်းညီလာခံမှ ဟဇရသ်ကို အိုလမာ အဖွဲ့ချုပ်၏ ရာသက်ပန် ဒုတိယဥက္ကဋ္ဌအဖြစ် ရွေးချယ်ခဲ့သည်။

ထိုစဉ်က ပထမဦးဆုံးဥက္ကဋ္ဌသည် အလ္လာမဟ် စိုင်ယဒ် ဟကီးမ် အိုင်ရှ် ဆွာဟိဗ်(رحمة الله عليه) ဖြစ်၍ ၎င်းနောက်မှ မော်လာနာ **အစ်ဗ် ရာဟီးမ် အဟ်မဒ် မဇာဟေရီ**ဆွာဟိဗ်သည် ဥက္ကဋ္ဌအဖြစ်ဆက်လက် တာဝန်ယူခဲ့သည်။ ထိုစဉ် ဟဇရသ် မွဖ်သီ **မဟ်မူဒ် ဒါဝူးဒ် ယူစွဖ် ဆွာဟိဗ်**က မွဖ်သီချုပ်ဖြစ်ခဲ့သည်။ မော်လာနာ **မဇှာဟေရီ** ဆွာဟိဗ် ကွယ်လွန်သည့်အခါ မွဖ်သီချုပ်က ဥက္ကဋ္ဌတာဝန်ကို အသက်ထက်ဆုံး ပူးတွဲယူခဲ့သည်။

# ဟာဇရသ်ပြန်ရောက်ခဲ့စဉ်က မြန်မာနိုင်ငံမွတ်စလင်မ်များအခြေအနေ

စက်ရုံအလုပ်ရုံများ၊ လုပ်ငန်းကြီးများကိုပိုင်ဆိုင်မှုကြောင့်ကုန်သည်အုပ်စုများ၏ အခြေအနေအလွန် ကောင်းမွန်ခဲ့သည်။ သို့သော် ဒီးန်သာသနာရေးရာတွင် စိတ်ဝင်စားမှုအားနည်းကာ ကြွယ်ဝချမ်းသာမှုကြောင့် အတွေးအခေါ်များ ချွတ်ချော်နေသည်။ ဇိမ်ယစ်ဇိမ်ခံရာတွင် နစ်မွန်းနေကြသည်။ မြင်လောင်းကစားလျက် ဟလာလ်၊ ဟရာမ်ကို ဂရုမမူကြသောကြောင့် အစ္စလာမ့်ပတ်ဝန်းကျင်ကွယ်ပျောက် ခဲ့ရကာ သားသမီးလူငယ်များတွင် အလ္လာဟ့်ရစူလ်၏ အချစ်ကင်းမဲ့ခဲ့သည်။ ဟာဇရသ်သည် မွတ်စ်လင်မ်ကြီးငယ်မဟူတို့၏ အဖြစ်ကိုကြည့်ပြီး အလွန်ပင် ရတတ်မအေးရှာတော့ဘဲ သောကမီးဝေဖြာခဲ့ရသည်။

အစ္စလာမ့်အသိုင်းအဝိုင်းထူထောင်ရန် မွတ်စလင်မ်ရာနှုန်းပြည့် ဒီးန်ကို ကိုင်းရှိုင်းလာရန် စွန္နသ်တော်များကို လက်ကိုင်ပြုလာရန်၊ အရှင်မြတ်၏အကြောက်တရား အစဉ်ကိန်းအောင်းလာရန် သောကပိုက်ခဲ့သည်။

ဟာဇရသ်၏ ပင်ကိုယ်စိတ်ထားတွင် သိမ်မွေ့ယုယချစ်ခင်မှုများရှိပြီးဖြစ်၍ ဗလီနှင့်ကျောင်းတာဝန် ပြီးလျှင်ပြီးချင်း ဒအ်ဝသ်သဗ်လီးဂ်လုပ်ငန်းမွန်တွင် သာသနာ့သောကပိုက် ထွေးချက်ကုရ်ဗာနီမုဂျာဟဒဟ်နှင့်တကွ ဒုက္ခပေါင်းစုံကို သောက်မြိုကာ အချိန်များစွာပေးခဲ့သောကြောင့်

ယနေ့နိုင်ငံအနှံ့တွင် **အာလင်မ် ဟာဖိဇ် ဟာဂျီ ဒါအီများ**ကို အလ္လာဟ်အလိုတော်နှင့် မျက်ဝါးထင်ထင် မြင်နေခြင်းဖြစ်သည်။

## သအ်လီးမ်နှင့်သဗ်လီဂ်အတွက်သာ

ဟာဇရသ်သည်(၁၉၄၇)နှစ်မှစ၍ ဗလီမဒ်ရစဟ်နှင့်ဒအ်ဝသ်ကြိုးပမ်းမှုတွင် အပြည့်အဝအချိန်ပြည့် နစ်မြှုပ်ထားခဲ့သည်။ မုဟာမ္မဒ်ဂျာန်ဗလီတွင်ရှေ့ဆောင်အဖြစ်နှစ်ပေါင်း (၂၀)ကြာ ထမ်းဆောင်စဉ်ကပင် ဒအ်ဝသ်ကြိုးပမ်းမှုနှင့် သအ်လီမ်ကိုပါ ပူးတွဲဆောင်ရွက်ခဲ့သည်။

ဟာဇရသ်သည် သဗ်လီဂ်ခရီးများထွက်ပြီး ရန်ကုန်ပြန်ရောက်လာလျှင် မဒ်ရစဟ်များသို့ သွားရောက်၍ ဟဒီးဆ်ပို့ချခဲ့သည်။အကြောင်းမဲ့ကျောင်းပျက်ရက်မရှိခဲ့၊ မိမိကိုယ်ကိုသအ်လီးမ်နှင့်သဗ်လီးဂ်အတွက်အပြည့်အဝအပ်ထားသဖြင့် အထက်ပါတာဝန်အသီးသီး ပြီးဆုံးပြီးမှ အိမ်သို့ပြန်လေ့ရှိသည်။

ဗလီနှင့် မဒ်ရစဟ်တာဝန်ကို စတင်ထမ်းဆောင်စဉ်က ဒအ်ဝသ်သဗ်လီဂ်လုပ်ငန်းသည်လည်း အချို့သောကရှင်များ၏ ပါဝင်ပံ့ပိုးမှုဖြင့် အနည်းငယ်ဖြစ်ထွန်းလျက်ရှိသည်။ ဟာဇရသ်ကမူ ဗလီနှင့်ကျောင်းတာဝန်များကြောင့် ဒအ်ဝသ်လုပ်ငန်းတွင် အပြည့်အဝမပါဝင်နိုင်သော်လည်း အခွင့်အရေး ရသမျှ ပါဝင်ခဲ့သည်။ ထိုအခါမှပင် ဟာဇရသ်ကြီးမော်လာနာမုဟာမ္မဒ်ယူစွဖ်ဆပ်ထံ စာရေးသားလျက် အဆက်အသွယ်များထားခဲ့ ရာအကြံဉာဏ် လမ်းညွှန်နှင့် နည်းစနစ်များကို သိခွင့်ရခဲ့သည်။ကျောင်းဆင်းသည်နှင့် သဗ်လီးဂ်ကြိုးပမ်းမှုပြုနေရာသို့ သွားရောက်ပါဝင်ခဲ့သည်။

## ဂျာမိအဟ် ဆူဖီယဟ်နှင့် ဆက်စပ်မှု

လက်ရှိကျောင်းအုပ်ကြီး မော်လာနာ ရှမ်စွဒ်ဒိုဟာ(မဇာဟေရီ) သည် ဂျာမေအဟ်ဒါရှုလ်အုလူးမ်သို့ ကျောင်းဝင်ခွင့် စာမေးပွဲဖြေဆို ရန်ရောက်လာရာ ဟာဇရသ်ကပင် စစ်ဆေး၍၎င်း၏ပညာအရည်အချင်း အရ အဋ္ဌမတန်းတွင် လက်ခံခဲ့သည်။ (၁၉၅၅)ခုနှစ်တွင် ကျောင်းဆင်းပြီး ဒေါင်ရာဖတ်ရန် မဇာဟ်ရှုလ်အုလူးမ်(စဟာရန်ပူရ်)သို့ တစ်ဖန်ခရီး ဆက်ခဲ့ ရာမှပြန်လာကာ (၁၉၅၇) ခုနှစ်မှစ၍ ဒါရှုလ်အိုလူမ်တာမွေ့၌ကျောင်းဆရာ တာဝန်ကို (၁၉၆၂)ခုနှစ်အထိ ထမ်းဆောင်စေခဲ့သည်။

ထို့နောက် ဟာဇရသ် မွဖ်သီဆွာဟိဗ်နှင့် ဟာဇရသ်တို့၏ အကြံပြု ဆုံးဖြတ်မှုကြောင့်မော်လာနာအားဆူဖီယဟ်၏ပညာရေးမှူးတာဝန်အပ်နှင်း ကြသည်။ ထိုစဉ်ကဆူဖီယဟ်၏ကျောင်းအုပ်မှာ စေတနာ့ရှင် မရ်ဟူးမ် 'ဟကီးမ် အဗ်ဒွလ်အဇီးဇ်'ဖြစ်ခဲ့သည်။

(၁၉၆၅)ခုနှစ်မှစ၍ ဟာဇရသ်ကိုယ်တိုင် ကျောင်း ကော်မတီဥက္ကဌ အဖြစ်လည်းကောင်း၊ (၁၉၆၇)ခုနှစ်တွင် ဆူဖီယဟ်ကျောင်း၏ပညာရေးမှူး အဖြစ်လည်းကောင်း တာဝန်ယူခဲ့ရသည်။

## ကျောင်းများနှင့်ဆက်သွယ်မှု

မော်လာနာ မက္ကဆူးဒ်အဟ်မဒ်ခါးန်၏ဖခင် ဟာဖိဇ်မဟ်မူဒ်ခါးန် (رحمة الله عليه)သည် မဒ်ရစဟ်ဆွာဒီကီယဟ်ကျောင်းကိုစတင်တည်ထောင် သည်။ ဟာဇရသ်သည် ဟာဖိဇ်ကြီးခေတ်မှပင် လက်တွဲပံ့ပိုး ကူညီခဲ့သည်။

(၁၉၆၅)ခုနှစ် နောက်ပိုင်းမှ ဟာဖိဇ်ဟာရှင်မ် ဘိုဒီ (ဟာဖဇ်ကြီး၏ တပည့်) ကျောင်းအုပ်ဖြစ်လာချိန်မှစ၍ ဟာဇရသ်ကွယ်လွန်ချိန်ထိ စာမေးပွဲ–ဆုပေးပွဲ မှာပါဝင်၊ ပညာရေးနှင့်စပ်လျဉ်း၍ အကြံပြုကာ ကျောင်းနာယကအဖြစ် သက်ဆုံးတိုင် တာဝန်ထမ်းဆောင်ခဲ့သည်။ ဟာဇရသ်သည် ဟာဖိဇ်ဟာရှင်မ်ဘိုဒီဆပ်ကို အလွန်ချစ်ခင်သည်။ ဟာဖိဇ် ဟာရှင်မ်ဘိုဒီကလည်း ဟာဇရသ်ကိုအလွန်ကြည်ညိုသည်။ ကျောင်းအပေါ် ကျရောက်လာသောအခက်အခဲကို ဟာဇရသ်ကိုယ်တိုင် ပါဝင်၍ ဖြေရှင်း ပေးခဲ့သည်။ ဟာဖိဇ်ဖာရူးက်နှင့် ဟာဖိဇ်အိလ်ယားစ်သည်လည်း ဆွာဒီကီယာဟ်ကျောင်းထွက်၊ ဟာဖိဇ်ဟာရှင်မ်ဘိုဒီဆပ်၏တပည့်များ ဖြစ်ကြသည်။

အပ်စ်အဒီယဟ်ကျောင်းစတင်ဖွင့်လှစ်ချိန်မှစ၍ သက်ဆုံးတိုင် ဘက်စုံ ပံ့ပိုးခဲ့သည်။ ဟာဇရသ်မော်လာနာ ကာရီ ယူစွဖ် အပ်စ်အဒီ သည် ဟာဇရသ်၏ တပည့်ရင်းလည်းဖြစ်၍ လိုအပ်သည့် အခါ အားပေး ပံ့ပိုးသမှုလည်း ပြုခဲ့သည်။ ပညာရေးနှင့်အရေးပါသောကိစ္စဟူသမျှ၌ တတ်နိုင်သမျှ လက်တွဲခဲ့သည်။

ကာရီဆပ်ကလည်း ဟာဇရသ်ကို အခြားဆရာသမားများထက် ပိုမိုလေးစားခယရိုကျိုးလေ့ ရှိသည်။ ဟာဇရသ်သည် မိမိသားငယ်ကို ပထမဦးဆုံး ပညာသင်ကျောင်းသားများတွင် ပါဝင်စေရန် ကိုယ်တိုင်ပင် အပ်စ်အဒီယာကျောင်းသွားအပ်ခဲ့သည်။

ဤသို့ပင် သဃ်ာန်းကျွန်းရှိ မော်လာနာ ဟာဖိဇ် ဆုလိုင်မာန်

(မော်လမြိုင်) ဦးစီးကြပ်မတ်သောကျောင်း၊ ရန်ကုန် တာမွေရှိ မဂ်ျဒီယဟ် ဟိဖ်ဇွလ်ကုရ်အာန်ကျောင်း၊ မော်လနာ ဟာဖိဇ် နေစာရ် အဟ်မဒ် မော်လမြိုင်၏ ဆိဆုံကျောင်း၊ မော်လာနာ ဟာဖိဇ်မုဟမ္မဒ် ဆွာဟိဗ်၏ လှိုင်ကျောင်း ၊ မော်လာနာယူစွဖ်၏ မြိတ်ပသောင်းကျောင်း၊ မဇာဟိရေ အိုလူမ် ပျော်ဘွယ်ကျောင်း၊ မဒီနသုလ်အိုလူမ် ယင်းတော် ကျောင်း၊ အဇီဇီယဟ် မိတ္တီလာကျောင်း၊ ဂျာမိအသွလ်အိုလမာ ကန့်ဘလူ ကျောင်းစသည်များကို တန်ဖိုးထားသောအမြင်ဖြင့် တယုတယ ဆက်ဆံ ကာ မြေတောင်မြှောက်ပေးလေ့ရှိသည်။ ကျောင်းအုတ်မြစ်ချပေးခဲ့သည်။ ဗုခါရီကျမ်း အစပျိုးနောက်ဆုံးသင်ခန်းစာပို့ချ၍တစ်မျိုး၊ ကျောင်းသားများ ကို စာမေးပွဲစစ်ပေး၍တစ်ဖုံ ကူညီအားပေးခဲ့သည်။

နိုင်ငံအနှံ့အပြားရှိ ကျောင်းကြီးငယ်တိုင်း၏ နာယက၊ ဥက္ကဋ္ဌ၊ ကော်မတီဝင်၊ အတိုင်ပင်ခံအဖြစ်နှင့် အသိအမှတ်ပြုထားကြသည်။

## ပညာပို့ချခြင်း

ဟဇရသ်သည် ဒါရွလ်အူလူမ်တာမွေတွင် (၁၉၄၇) မှစ၍ လည်း ကောင်း၊၊ ဂျာမိအဟ်ဆူဖီယဟ် ဗိုလ်တထောင်တွင် (၁၉၆၀)မှ စတင်၍လည်းကောင်း၊ ကျမ်းမာရေးကောင်းနေသည်နှင့်အမျှ (၁၉၉၅) ခုနှစ်အထိ ကျောင်းပျက်ရက်မရှိဘဲ ပညာပို့ချခဲ့သည်။ သဗ်လီးဂ် ခရီးစဉ်ကြောင့် ကျောင်းသို့မရောက်ဖြစ်ခဲ့သော်လည်း(၁၉၉၅)နောက်ပိုင်း နှစ်တွင်နှစ်ကျောင်းစလုံးသို့သွားရောက်၍ နစာအီကျမ်းကိုပို့ချခဲ့သည်။

အသက်ထောက်ကာ ကျန်းမာရေးချို့တဲ့နေသည့်ကြားမှ နှစ်စဉ်

ဂျာမိအဟ် မဒရ်ဆဟ်များနှင့် ဟိဖ်ဇ်ကျောင်းများ၏ စနဒ်ဘွဲ့လက်မှတ်နှင့် ဆုချီးမြှင့်သည့်အခမ်းအနားသို့ သက်ဆုံးတိုင်ထိ တက်ရောက်ပါဝင်အား ပေးခဲ့သည်။ ဒီးန်အတွက် အသက်ကိုပင် မငဲ့နမထားသော သူတော်စင် တို့၏စံနမူနာပင်။ اللهم اغفر له وارحمه واسكنه فى الجنة

## သင်ကြားပေးခဲ့သောကျမ်းစာအုပ်များ

- ဂျာမေအဟ် ဒါရွလ်အိုလူမ်တွင် (၁၉၄၇) မှ (၁၉၆၇) ထိ စတုတ္ထတန်း မှ သတ္တမတန်းစာအုပ်များ၊
- (၁၉၆၈) မှ (၁၉၈၈) အထိ နဝမတန်းစာအုပ်များ၊
- (၁၉၈၉) မှ (၁၉၉၅) အထိ ဒသမတန်းတွင် ဟဒီးစ်ကျမ်းကြီး များ၊အထူးသဖြင့် **နစအီကျမ်း**ကိုဦးစားပေးသင်ကြားပို့ချခဲ့သည်။

သင်ရိုးညွှန်းတန်းမှာမဇ္ဇာဟေရွလ်အုလူမ် စဟာရန်ပူရ် အတိုင်းပင် ဖြစ်သည်။

## သင်ကြားပို့ချပုံ

ဟဇရသ်၏သင်ကြားပုံမှာအလွန်ဆန်ကြယ်သည်။ အလွန်ချိုမြ သောစကားကိုသာသုံးသည်။ကျောင်းသားများ အလွယ်တကူနားလည် နိုင်သောပုံစံဖြင့်ရှင်းပြသည်။ ဟဇရသ်သည် အလွန်တည်ကြည်တည့် မတ်ပြီး စာသင်နေချိန်တွင်မည်သူ့ကိုမျှ မျက်နှာသာမပေး၊ တပြေးညီ ဆက်ဆံသောကြောင့် အပေါ်ယံအားဖြင့် ကြည့်လျှင် သူစိမ်းပမာမြင် တတ်ကြသည်။

ကျောင်းဆင်းလျှင် အချို့ကျောင်းသားများသည် ဟာဇရည်၏ အိမ်မှုရေးရာတွင် ဝိုင်းဝန်းခစ်ဒ်မယ်လုပ်ကြသည်။ ထိုအခါတွင် သားနှင့် အဖ၊ သူငယ်ချင်းမိတ်ဆွေပမာ ဆက်ဆံတတ်သည်။ ညီရင်းအစ်ကိုသဖွယ် ကျောင်းသားများနှင့် ထမင်းအတူစားသည်။ ထိုအချိန်က တာမွေစာတိုက်ရှေ့ရှိ မာမ်ဆာဝင်းတွင် နေထိုင်ခဲ့သည်။ ဟာဇရည်ကတော့သည် ကျောင်းသားများအဖို့ မိခင်ရင်းသဖွယ်ဖြစ်ခဲ့သည်။ မိဘများနှင့် အလှမ်းဝေးနေကြသည့် ကျောင်းသားများက မိဘသဖွယ်အရိပ်ခိုကြရ၍ ကျောင်းသားများသည် အလွန်ပျော်ရွှင်ကြသည်။ ဈေးဝယ်ပေးကြ၊ ကလေးထိန်းပေးကြ၊ အဝတ်လျှော် အိမ်တိုက် ပေးကြကာ အိမ်မှုကိစ္စတွင် ဝင်ကူခဲ့ကြသည်။ ဟာဇရည်၏အရိပ်အာဝါသ ခိုခဲ့ကြသော၁၂ကျောင်းသားဟောင်းများသည် ယခုအခါ ဒီးန်၏ခစ်ဒ်မယ် ပြုနေကြသော ကျော်ကြားသည့် အာလင်မ်များတွင် ပါဝင်ကြသည်။

## ဆရာများနှင့် ပြောဆိုဆက်ဆံမှု

မိမိနှင့်အတူ စာပြနေသောဆရာများအား အလွန်ဂုဏ်ပေးလေးစားတတ်သည်။ အားလုံးနှင့် ရောနှောကျိုးငဲ့စွာဆက်ဆံတတ်သည်။ မည်သူနှင့်မျှ မဆန့်ကျင်ခဲ့။

အရေးတကြီး မရှုဝရဟ်လိုအပ်လာသောအခါ လုပ်ဖော် ကိုင်ဖက် အာလင်မ်ကျောင်းဆရာများထံမှ အကြံဉာဏ်တောင်းခံတတ်သည်။ ၎င်းတို့ကလည်း ဟာဇရည်ကို အလွန်ပင်လေးစားတန်ဖိုးထားကြသည်။ ကျောင်းကိစ္စထမ်းဆောင်စရာရှိတိုင်း မခိုမကပ်နောက်ချန်မနေဘဲ အားလုံး

၏လေးစားကြည်ဖြူမှု ရယူကာ ကိုယ်တိုင်ကိုယ်ကျ ဆောင်ရွက်တတ်သည်။ ဟာဇရယ်၏ ထိုသို့သော အပြုအမူကြောင့် ဆရာများအတွင်း ချစ်ခင်လေးစားမှုကို ပို၍ရရှိစေသည်။ ဆရာသမားချင်း လေးလေးစားစား ဆက်ဆံပုံမှာ ကျွန်တော်များအဖို့ အတုယူဖွယ်ရာပင်။

## ခေတ်ပြိုင်အာလင်မ်များနှင့်အတူ

ဟာဇရယ်သည် ပြည့်ဝသောအာလင်မ်၊ အမလ်မြဲသူဖြစ်သည်။ မုဖပ်စိရ်၊ မုဟဒ်ဒီစ်၊ ဖြစ်သည့်ပြင် ကိရာအသ်၊ ဝေရာစသ်ကိုလည်း ကျွမ်းကျင်သူဖြစ်သည်။

အာလင်မ်များကို ကျိုးငဲ့ဂုဏ်ပေးပုံမှာ ဟာဇရယ်သည် ၎င်းတို့၏ တပည့်ပမာ ဆောင်နေသည်။ မိမိကိုယ်ကို သေးသိမ်သူ၊အခြားအာလင်မ်များကိုမြင့်မြတ်သူဟုခံယူကာ ဒိုအာအတွက်မေတ္တာရပ်ခံလေ့သည်။ မည်သည့်အာလင်မ်နှင့်မျှ ကတောက်ကဆဖြစ်သည်ဟူ၍ မရှိခဲ့။

## ဒအ်ဝသ်ကြိုးပမ်းမှုနှင့်ဆက်သွယ်မှု

ကျောင်းသားဘဝမှပင် အားလပ်ရက်များ၌ကျောင်းသားအချို့နှင့်အတူ (၃)ရက်၊ (၁၀)ရက်ဂျမာအသ်ထွက်ခဲ့သည်။ ရမဇာန်လတွင် ကျစ်လ္လာထွက်ခဲ့သည်။

ဟာဇရယ်ကြီးနှင့်အတူ ကျောင်းကြီးများသို့ ရောက်ခဲ့သည်။ ကျောင်းသားများအား ဒအ်ဝသ်ပေးတိုက်တွန်းကာ ဂျမာအသ်ထွက်စေခဲ့သည်။

တစ်နေ့သော် ဟာဇရသ်ကြီးသည် ဘယာန်ပြီးနောက် သရ်ကီးလ်လုပ်ရာ ဟာဇရသ်နှင့် မော်လာနာ စအီးဒ်အဟ်မဒ်ခါးန်(မဒနီ)တို့သာ အမည် ပေးခဲ့ကြသည်။ ၎င်းတို့နှစ်ဦး အသင့်ဖြစ်ကြ၍ ဒိုအာများ ချီးမြှင့်ခဲ့သည်။

နေဇာမုဒ္ဒီးန်၏ မုကီးမ် မော်လာနာမူစာ စူရ်သီဆွာဟိဗ်ကကျွန်တော်နှင့် ဟာဇရသ်အမီးရ်ဆွာဟစ်ဗ်တို့(၁၉၄၆)ခုနှစ်ကဒီယိုဗန်မှာဆုံတွေ့ခဲ့ရတယ်။ ဒေယိုဗန်အိဂ်ျသီမာပြီးနောက် ဟာဇရသ်အမီရ်ဆပ်ကမိတ်ဆွေတွေကိုနေဇာမ္ဒ္ဒီးန်သွားကြဘို့ သရ်ကီးလ်ပြုလုပ်ခဲ့တယ်။ ကျွန်ုပ်ကိုလည်းနေဇာမ္ဒ္ဒီးန်အတွက် တိုက်တွန်းခဲ့တယ်ဟု ဝန်ခံထားသဖြင့် ဟာဇရသ်သည်ကျောင်းသားဘဝဖြစ်သည့် အသက်(၂၆)နှစ်အရွယ်မှာပင် ဒအ်ဝသ်လုပ်ငန်းတွင် ပါဝင်နေခဲ့ကြောင်း သိရှိရသည်။

اللهم اغفر له وارحمه واسكنه فى الجنة

## ကနဦးတွင်ဒအ်ဝသ်ကြိုးပမ်းမှုအတွက်အခက်ခဲနှင့် ပိတ်ဆို့မှုများကြုံတွေ့ခဲ့ရပုံ

ဒအ်ဝသ်ကြိုးပမ်းမှုတွင် ဟာဇရသ်ပါဝင်စအချိန်က ဟာဇရသ်နှင့် လုပ်ဖော်ကိုင်ဖက်မိတ်ဆွေများသည် ခဲယဉ်းမှုများနှင့် ကြုံခဲ့ရသည်။ ထိုစဉ်က ဤကြိုးပမ်းမှုမှာ မယဉ်ပါးသေးပေ။ လူတို့ကလည်း ကြိုးပမ်းမှုအပေါ် အမြင်စောင်းခဲ့ကြသည်။ သဘောမပေါက်သေးသည့် အချို့အာလင်မ်များကလည်း ဝေဖန်ခဲ့ကြသည်။ ကြိုးပမ်းမှုကို ဗစ်ဒ်အသ်ဟု မှတ်ယူခဲ့

ကြသည်။ ဂျမာအသ်များကို ဗလီထဲအဝင်မခံကြရုံမက အချို့ရပ်ကွက်များတွင် ဂရုလှည့်လည်ခြင်းကိုပင် ပိတ်ပင်နှင်ထုတ်တားမြစ်ခဲ့သည်။

အချို့သောအုပ်စုများကလည် ပြင်းပြင်းထန်ထန်ဝေဖန်ခဲ့ကြသည်။ နှုတ်အားဖြင့်၊ စာအားဖြင့် အပြစ်တင်ရှုံ့ချသည့်ပြင် မဟုတ်မမှန်စွပ်စွဲချက်များဖြင့် သဗ်လီဂ်ကြိုးပမ်းမှုများ ပိတ်ဆို့ရပ်တန့် သွားရန် သက်ဆိုင်ရာသို့ တိုင်တန်းခဲ့ကြသည်။

ဆန့်ကျင်သူများဘက်မှ အခွင့်အရေးရတိုင်းကိုယ်ထိလက်ရောက်ဒုက္ခပေးရန် ကြံစည်ခဲ့သော်လည်း အရှင်မြတ်၏အချစ်တော်များကို အရှင်မြတ်ကိုယ်တော်တိုင်က ကာကွယ်ပေးတော်မူခဲ့သည်။

– ဒါအီရဲ့အသွင်ဟာ အမှန်တရားသက်သက်ပါ။

– အမြင်စောင်းသူတို့ကတော့ သင့်အလှကို မမြင်တတ်ကြပါ။

ဆန့်ကျင်သောအဖွဲ့များ၏ ထိုးနက်မှုများကြောင့် သက်ဆိုင်ရာက အိုလမာအဖွဲ့ချုပ်ရုံးခန်းသို့ လာရောက်၍ ဟဇရသ်ကို ၃–ရက် တိုင်တိုင် စစ်ဆေးမေးမြန်းခဲ့သည်။ ဘက်စုံစစ်ဆေးချက်ယူပြီးကြသောအခါ ဒအ်ဝသ်သဗ်လီဂ် ကြိုးပမ်းမှုသည် ဒီးန်ရေးရာကြိုးပမ်းမှု သက်သက်သာဖြစ်ကြောင်း၊ နိုင်ငံရေးမဆန်၊ နိုင်ငံရေးအလုပ်မဟုတ်ကြောင်း၊ မွတ်စလင်မ်များအစ္စလာမ်သာသနာရေးကိုင်းရှိုင်းလာရန်သာဖြစ်သည်။ လောကီရေးအကျိုး မျှော်ကိုးထားခြင်းမရှိကြောင်း သိမြင်သွားကြသည်။သို့ဖြင့်ဟဇရသ်နှင့် ဒအ်ဝသ်ကြိုးပမ်းမှု၏ ရိုးရှင်းမှုပေါ် သာပို၍လေးစားလာကြသည်။ အစစ်ခံရသောနှစ်မှာ ၁၉၇၄–၇၅ခုနှစ်ခန့် ကာလဖြစ်သည်။

ထိုနောက်ပိုင်းတွင် အိဂ်ျသိမာကြီးများဖြစ်မြောက်တိုင်းသက်ဆိုင်ရာမှ၊ ကား၊ ရထား၊ သင်္ဘော၊ လေယာဥ်စသည့်အစီးအနင်းလက်မှတ်များကို အထူးကိစ္စရပ်အဖြစ်စီစဥ်ပေးခဲ့သည်။ ရေမီးများစီစဥ်ပေးကြသည့်အပြင် လုံခြုံရေးများလည်း ချထားပေးခဲ့သည်။

## ဒါအ်ဝသ်ကြိုးပမ်းမှုစတင်လာပုံနှင့် ဟာဇရသ်ကြီး မော်လာနာ ယူစွဖ်ဆပ်၏ဆုံးဖြတ်ချက်

ဟာဇရသ်သည် ဒအ်ဝသ်ကြိုးပမ်းမှုကို ၁၉၄၈ ခုနှစ်တွင်အင်တိုက်အားတိုက် ကြိုးပမ်း အကောင်အထည်ဖော်ခဲ့သည်။ ၁၉၄၇ခုနှစ်မတိုင်မီကပင် အချို့သောမိုဗလ္လိဂ်များက လုပ်ငန်းကို အနည်းအကျဥ်းဆောင်ရွက်နေကြသည်။ သို့သော် ထိုအချိန်အခါထိ ဒအ်ဝသ်လုပ်ငန်းကို မွတ်စ်လင်မ်အများစုမှ သဘောမပေါက် မယဥ်ပါးသေးပါ။ ဟာဇရသ်သည် မော်လာနာယူစွဖ်ဆပ်ကို စာဖြင့်ဆယ်သွယ်ကာ ပေးစာပြန်စာရှိခဲ့သဖြင့် လုပ်ငန်းနှင့်ပတ်သက်သော နက်ရှိုင်းသည့် လေးနက်မှုများကို မေးမြန်းဆည်းပူးခဲ့သည်။ ခက်ထန်သော အခြေအနေကြုံရသောအခါ ဦးစွာ လုပ်ဖော်များနှင့် မရှ်ဝရဟ်ပြုလုပ်သည်။ အဖြေမရှာနိုင်လျှင် ယင်းကိစ္စကို ဟာဇရသ်ကြီးထံတင်ပြသည်။ ထိုခေတ် သမယ၌ မြန်မာနိုင်ငံရှိ မွတ်စ်လင်မ်များမှာဒီးန်နိုးကြားမှုမရှိခဲ့။ ဗလီဝတ်ကျောင်းတော်များ ဆိတ်သုန်းနေခဲ့သည်။ မဒ်ရစဟ်များကို ယသီးမ်ဘသက်ဆိုးတို့၏ မှီခိုရာများသာဟု ခံယူထားကြသည်။ ထို့ကြောင့် ဟာဇရသ်ကြီးသည် ဗလီနှင့်ကျောင်းမှ အားလပ်သည်နှင့် မိမိအချိန်ကို လုပ်ငန်းအတွက် သုံးခဲ့လေသည်။ စတေးခဲ့သည်။

တစ်ဖက်တွင် အိမ်ထောင်စုဝင် သားသမီးများပြားလာသည်။ မိသားစု အခက် အခဲများနှင့် ကြုံတွေ့ရင်ဆိုင်လာရသည်။ ပျဉ်ထောင်အိမ်ငယ် လေးတွင် ပြေလည်တလှည့် မပြေလည်တစ်လှည့် နေထိုင်ခဲ့ရသည်။ နောက်တစ်ဖက်တွင် သာသနာ့သောကရင်ဝယ်ပိုက်ပြီး မွတ်စ်လင်မ် ညီနောင်များထံ သွား၍ ခယရိုကျိုးစွာ ဒီန်အတွက် ဒအ်ဝသ်ပေးဖိတ်ခေါ်မှု ကို လုံပမ်းရသည်။ ညဉ့်အမှောင်၌ အရှင်မြတ်ထံပါးတွင် အွမ္မသ်၏ ဟေဒါယသ်အတွက် ငိုကြွေးတောင်းခံနေသည်။ ဟာဇရသ်သည် မိမိ ကျန်းမာရေးနှင့် အသက်ကိုပင် မငဲ့ကြည့်နိုင်တော့ပေ။

ဒအ်ဝသ်လုပ်ငန်းတွင် နှစ်မြုပ်ထားရသည်။ ကြိုးပမ်းမှုနှင့် မရှဝရပ်ကြောင့် အချိန်ကြာမြင့်နေရာ ညနက်သန်းခေါင်မှအိမ်ပြန်လာ ရသည်။ တစ်ခါတစ်ရံဘတ်စ်ကားဖြင့် တစ်ခါတစ်ရံခြေလျင်ဖြင့်သမိုင်း မရ်ကဇ်မှ တာမွေသို့ ပြန်လာခဲ့ရသည်။ ဟာဇရသ်ကတော်သည် ည မှောင်မိုက်သွား သည်အထိ စောင့်မျှော်နေလေ့ရှိသည်။ မုဂျာဟာဒါအဲဆုံး အစွန်သို့ရောက်ခဲ့ပုံကို တင်ပြရသော် လုပ်ငန်းတွင် ကုရ်ဗာနီပေးသည့် နှင့်အမျှ သကာဇာများ လာတော့၏။ (၃)ရက်၊ (၅) ရက်၊ (၁၀) ရက် အတွက် အနီးအဝေးသို့ မကြာခဏ ထွက်နေရသည်။

ထိုအခါ ဗလီနှင့်ကျောင်းမှ စည်းကမ်းချက်များ သတ်မှတ် လာသည်။ လုပ်ငန်းမှာလည်း ထိုက်သင့်သလောက် မဖြစ်၊ ဟာဇရသ်ကြီး မော်လာနာ ယူစွဖ်ဆွာဟိဗ်ထံ စာရေးတင်ပြ၍ လုပ်ငန်းတိုး တက်မှုရရှိရန် မည်သို့ဆောင်ရွက်ရပါမည်နည်းဟု စာဖြင့်ရေး၍မေးခဲ့သည်။

ထို့နောက် ၁၉၅၀ ခုနှစ်၏နေ့တစ်နေ့ နံနက် (၁၀ း၀၀)နာရီခန့်တွင် စာပို့လုလင်တစ်ဦးသည် ဟာဇရယ်၏ အိမ်တံခါးကြား၌ စာတစ်စောင်ထည့်ပေးသွားသည်။ ဟာဇရယ်ကတော်သည် ထိုစာကိုဖွင့်ဖောက်ကြည့်ရာ ဟာဇရယ်ကြီးထံမှ စာဖြစ်နေသည်။ဟာဇရယ်ကတော်သည်စာပါအကြောင်းအရာများကိုဖတ်ရှုပြီး ချုံပွဲချငိုချလိုက်သည်။ ပြီးနောက် စာကိုစာအိတ်တွင်းပြန်ထည့်၍ ငိုယိုနေစဉ် ဟာဇရယ်သည် ကျောင်းမှပြန် ရောက်လာသည်။ (ထိုစဉ်က ဟာဇရယ်သည် နံနက် ၁၀ း ၀၀ ခန့် ကျောင်းမှပြန်လာလေ့ရှိသည်။) အိမ်ရောက်ရောက်ချင်း ကြာရှ်နမာဇ်ဖတ်သည်။ ဟာဇရယ်ကတော်သည် ဟန်မပျက်နေကာ စာကို ဂျာနမာဇ်အပေါ် အသာအယာချထားပြီး ဟာဇရယ်မသိအောင် အိမ် အတွင်း၌ ကြိတ်၍ငိုနေရှာသည်။ စိုးနစ်ကြေကွဲနေသည်။ သားသမီးများတွင်နို့စိုအရွယ်ကလေး နှစ်ယောက်ရှိသည်။ မိသားစု စားစရိတ်မလောက်မငှဖြစ်ပြီး တစ်ခါတစ်ရံ အကြွေးချေးငှားပြီး စခန်းသွားနေရသည်။ ဟာဇရယ်ကတော်သည် ယင်းကိစ္စတွေစဉ်စားပြီး ငိုနေရှာသည်။ ဟာဇရယ်သည် ကြားရှ်နာမာဇ်ဝတ်ပြုပြီးနောက် စာကိုယူဖတ်သည်။ စာဖတ်ပြီးသောအခါ ထပ်မံနဖိလ်နှစ်ရကာအသ်ဖတ်သည်။ အတန်ကြာသည်ထိ ငိုယို၍ ဒိုအာတောင်းနေသည်။

ဟာဇရယ်ကြီး၏စာတွင် . . .

(လုပ်ငန်းတိုးတက်လိုလျှင် မဒ်ရစဟ်၊ အေမာမယ်နှင့် အရဗီကျူရှင်ကို လစာမယူဘဲ လိလ္လာဟ် အလ္လာဟ်အရှင်မြတ်အတွက်သာ ခိဒ်မယ်ပြုလုပ်နေပါ) ဟု သာပါရှိသည်။

ထိုအခါ ဟာဇရသ်က ဇနီးသည်အား မေးမြန်းသည်မှာ–

'အာအေရှာ၊ မင်းဒီစာကို ဖတ်ပြီးပြီလား။ ဘယ်လိုသဘောရလဲ၊ မင်းဆန္ဒဘယ်လိုရှိသလဲ'ဟု မေးသည်။ ထိုအခါ ကျွန်ုပ်တို့၏မိခင်ကြီးသည် မျက်ရည်စက်လက်နှင့် 'ကျွန်မသည်းခံဆွဗရ် လုပ်ပါမည်။ အစ္စလာမ် သာသနာတော်အတွက် ကျွန်မနှင့်ကလေးများပါ ရှင်နှင့်တူ ဥစ္စပစ္စည်း လက်မဲ့ဖြစ်ပါစေ။ စိတ်ဆင်းရဲဒုက္ခရောက်၍ စားဝတ်နေရေး ပြဿနာနှင့် ရင်ဆိုင်နေရသော်လည်း အပြုံးမပျက် ခံယူပါမည်။ အရှင်မြတ်အား အားကိုး၍ ဟာဇရသ်ကြီး မှာကြားသည့်အတိုင်း နာခံကြမည်ဟု ကြွေကွဲဝမ်းနည်းစွာဖြေကြားသည်။ ၎င်းကာလမှစ၍ သက်ဆုံးတိုင် မည်သည့်လခမျှ မယူဘဲ အလ္လာဟ့်အတွက် အနစ်နာခံ ကျိုးပမ်းခဲ့သည်။

၎င်းနောက်ပိုင်း အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ဂိုင်ဘီနှစ်ရည်များ ရခဲ့သည်။ ပြေလည်သည့်အခါ ရှုကွရ်၊ မပြေလည်သည့်အခါ ဆွဗရ် လုပ်ကာ ကြိတ်မှိတ်ပြီး သဝက္ကလ်လုပ်နေလေသည်။ စစ်မှန်သည့် ဒါအီတိုင်းအား အလ္လာဟ်အရှင်မြတ်စမ်းသပ်မည်မှာ အမှန်ပင်ဖြစ်သည်။ လုပ်ငန်းကို ကြံ့ကြံ့ခံ၍ အိစ်သေကာမသ်နှင့် လုပ်နေရမည်ကို လက်တွေ့ကျင့်သုံးပြသခဲ့သည်။

ခက်ထန်လှသော ဟာဇရသ်တို့မိသားစု၏ ကုရ်ဗာနီကိုအရှင်မြတ် လက်ခံသောကြောင့် အမျိုးသားလောကပင်မက ယနေ့အမျိုးသမီးများပင် မတ်စ်သူရာသ်မဟ်ရမ် ဂျမာအသ်များ ထွက်လာကြပါပြီ။ အမှန်ပင် ဘက်စုံမှ ခက်ခဲမှုများ ရင်ဆိုင်ရသော်လည်း မည်သူ့ကိုမျှ အသိမပေး၊

မိသားစု ကလည်း မျက်နှာမပျက် အသံမထွက်ဘဲ နေထိုင်ကြ၍ ကုရ်ဗာနီ စံချိန်မီသွားသည်နှင့် အကွယ်မှနွစ်ရည်တံခါးများ ပွင့်လာတော့သည်။ ယနေ့ လူကြီးလူငယ် အလ္လာအသီးသီးတို့ထံ မြင်နေရသမျှ ဒီးန်နိုးကြားမှုများသည် ဟာဇရသ်၏ ကုရ်ဗာနီ မုဂျာဟာဒဟ်ရဲ့ ရောင်ပြန်ပင်ဖြစ်ပေသည်။ အလ္လာဟ် အရှင်မြတ်သည် ဟာဇရသ်အား အဆင့်မြင့်သော ဂျန္နသွလ်ဖိရ်ဒေါစ် ချီးမြှင့်တော်မူပါစေ။ ဟာဇရသ်၏ မိသားစုအား ဒီးန် အတွက် လက်ခံကဗူလ်ပြုတော်မူပါစေ။

اللهم اغفر له وارحمه واسكنه فى الجنة

**ပိုင်ဒလ်နှင့်သုံးကျစ်လ္လာ**

ဒအ်ဝသ်ကြိုးပမ်းမှုအစပြုစဉ်က နာရီပိုင်းအတွက်သာ သရှ်ကီးလ် လုပ်ခဲ့ပါလျက် ခဲရာခဲဆစ် အချိန်ပေးကြသော်လည်း နောက်ပိုင်းကွင် ဟာဇရသ်၏ကုရ်ဗာနီဖြင့် ကြိုးပမ်းလာရာ နောက်ပိုင်းတွင် အချိန်တိုး၍ ပေးလာကြသည်။ ၁၉၅၂–၅၃ခုနှစ်မှစ၍ လစဉ်(၃)ရက်ဂျမာအသ် ဗလီတိုင်းမှထွက် လာကြသည်။

**ဒအ်ဝသ်လုပ်ငန်း ကနဦးအစတွင် ဟာဇရသ်နှင့်အတူ လက်တွဲခဲ့သော မာမူရ်များ**

၁။ ဟာဇရသ် မော်လာနာ၊ အဗ်ဒုရ်ရဟ်မာန် ကာဲစေမီ ဆွာဟိဗ်(ကံဘဲ့)

၂။ ဟာဇရသ် မော်လာနာ ရှရီဖ် ဆွာဟိဗ်(ထောက်ကြံ့)

၃။ ဟာဖိဇ် မဟ်မူးဒ် ဘာဂီးယာ ဆွာဟိဗ်

၄။ ဟာဂျီ အဟ်မဒ်ခါန်း ဆွာဟိဗ် (မဒါးဗလီ)

၅။ ဟာဂျီ ယူနုစ် ကျက်ကီး ဆွာဟိဗ်

၆။ စုလိုင်မာန် ဦးထင်အောင် ဆွာဟိဗ်

၇။ ဘိုင်အာဒမ် ဘာဝါ ဆွာဟိဗ်

၈။ ဘိုင်ရှရီးဖ် ဆွာဟိဗ် (ကာလာဘတ်စ်တီ)

၉။ ဘိုင်စုလိုင်မာန် ဒီဆာအီ ဆွာဟိဗ်

၁၀။ ဟာဂျီဂုလာမ် (ဟာဂျီ ဂုလ်) ဆွာဟိဗ်

၁၁။ ဟာဂျီ ဦးအောင်စိန် ဆွာဟိဗ်

၁၂။ ဟာဂျီ အိဗ်ရာဟီးမ် ဖန်စီဘာဝါး ဆွာဟိဗ်

၁၃။ ဟာဂျီ ဟူစိန် ဦးလှမြင့်

၁၄။ ဟာဂျီ ဦးချစ်

၁၅။ ဟာဂျီ ယအ်ကူးဗ် အချ်ချား

၁၆။ ဟာဂျီ အဗ်ဒွလ် အဇီးဇ် မေမန်

၁၇။ ဟာဂျီ ဂုလာမ် မုဟမ္မဒ် (နှစ်သက်စရာ)

၁၈။ ဒီးန် မုဟမ္မဒ် (နောင်မွတ်စ်လင်မ်)

၁၉။ ဘိုင်ဖကီးရ် မုဟမ္မဒ် မဒ်ရာစီ

၂၀။ ဟာဂျီ ဦးသာထွန်း

၂၁။ ဟာဂျီ ဝလီ (မြိတ်)

၂၂။ ဘိုင်အဗ်ဒွဆ်ဆသ်သားရ် (မြောက်ဥက္ကလာ)

၂၃။ ဟာဂျီ ဂိုရာ ပတေးလ်

၂၄။ ဟာဂျီ မဂျီးဒ် စူရ်တီ

၂၅။ ဟာဂျီ ကာစင်မ် ဒါဒါ

၂၆။ ဟာဂျီ ဟာဖိဇ် အဗ်ဒွဆ်ဆသ်သားရ် ဆေးထ်

၂၇။ ဟာဂျီဆာဒိက် (မော်လမြိုင်)

၂၈။ ဟာဂျီ မုဟမ္မဒ် ဆွာလေ (မော်လမြိုင်)

၂၉။ ဟာဂျီ မဟ်မူဒွလ္လာဟ် (မဟ်မူဒီ)

၃၀။ ဟာဂျီ စုလိုင်မာန် – လူလားသ် (မန္တလေး)

၃၁။ ဟာဂျီ အီးအီး မွလ္လာဟ်

၃၂။ ဟာဂျီ အစ္စမာအီးလ် မိုင်န်ဘာဝါ

၃၃။ ဟာဂျီ အဟ်မဒ် လဲဟ်ရီ (မော်လမြိုင်)

၃၄။ အလ်ဟာဂျ် ပရော်ဖက်ဆာ အလီ (မန္တလေး)

၃၅။ ဟာဖိဇ် ဟူစိန် ရှဟီးဒ် (မော်လမြိုင်)

၃၆။ ဟာဖိဇ် မုဟမ္မဒ် ဂျီဝါး (မော်လမြိုင်)

၃၇။ ဟာဂျီ ဦးသိန်းဟာန် (လက်ပံ)

၃၈။ ဘိုင်ဖာရူက် အာဘူဝသ်

## သက်ရှိထင်ရှားရှိနေသောရှေးဦးမာမူရီးန်များ

၁။ ဟာဂျီ ဦးဘနီ

၂။ ဟာဂျီ အိစ်မာအီးလ်မ နီ

၃။ ဘိုင် ဂျူနိုက်ဒ် (ဘန်ဂါလီစု)

၄။ ဟာဂျီ ဟနီးဖ်ခါန်

၅။ ဟာဂျီ ဒါဝူ ဒ်ကရ်ဝါး

၆။ ဟာဂျီ ယာစီးန် ဗတန်

၇။ ဘိုင် မူဆာကြီး ကြာကြာ (သင်္ကန်းကျွန်း)

၈။ ကာရီ အိစ်မာအီလ် ပတေးလ် (မန္တလေး)

၉။ ဟာဂျီ နူးရ်မုဟမ္မဒ် ဦးမောင်နု (ရေမွှေး)

၁၀။ ဘိုင်အိဗ်ရာဟီးမ် မာယယ်

အထက်ပါ ပုဂ္ဂိုလ်များ လက်လှမ်းမီသလောက် သိရှိ၍ ဖော်ပြထားခြင်းဖြစ်ပါသည်။ နောက်ထပ်လည်း ပုဂ္ဂိုလ်များ ကျန်နိုင်ပါသေးသဖြင့် ၎င်းတို့၏အမည်များကို သိရှိရပါက အင်ရှာအလ္လာဟ် ဒုတိယတွဲတွင် ဆက်လက်ဖော်ပြပေးပါမည်။

## ကနဦးပိုင်းပြည်ပသို့ ထွက်ခဲ့သော ဂျမာအသ်များ

- ဟာဇရသ်သည် (၁၉၅၅)ခုနှစ် အသက် ၃၅–နှစ်တွင် ပထမအကြိမ် နေဇာမွဒ်ဒီးန်သို့လည်းကောင်း၊
- (၁၉၅၇)ခုနှစ် အသက် ၃၇–နှစ်အရွယ်တွင် ဒုတိယအကြိမ် နေဇာမွဒ်ဒီးန်နှင့် ရိုင်ဝါန် သို့လည်းကောင်း ဂျမာအသ်ထွက်ခဲ့သည်။
- (၁၉၆၀)ခုနှစ်တွင်ဟာဂျီအဗ်ဒွလ်ဝလီဆပ်(မြိတ်)နှင့် မိတ်ဆွေအချို့သည်လည်းကောင်း၊
- (၁၉၆၂)တွင် ဟာဂျီယူနွစ်ကျပ်ကို၊ ဟာဂျီဟာနီးဖ်ခါန်တို့သည်လည်းကောင်း အိန္ဒိယ၊ ပါကိစ္စတန်အပြင် မိုင်သွလ်မုကာဒ်ဒပ်စ်သို့ ဂျမာအသ်ထွက်ခဲ့ကြသည်။

ဟာဇရယ်သည် ပြည်တွင်း၊ ပြည်ပသို့ ဒအ်ဝယ်ခရီးထွက်ခွါသည့်အခါ ''ယခု၊ ကျွန်တော် ဒီးန် သင်ယူဆည်းပူးရန် သွားနေတာပါ'' ဟုပြော လေ့ရှိသည်။

နေဇာမွဒ်ဒီးန် ရိုင်ဝါန်သို့ရောက်သွားသောအခါ လိုလား တောင်း တမှုအပြည့်ဖြင့် ရိုကျိုး နှိမ့်ချစွာ အကာဗိရ်၏စကားများကို နာယူတတ် သည်။ နားမလည်သောအချက်များကို ကျောင်းသားတစ်ဦးပမာ ဆည်းပူး တတ်သည်။

## ဟာဇရယ် ၏ဒအ်ဝယ်ခရီးစဉ်

နေပူမိုးရွာမရှောင်၊ အေးစက်နေသောဆောင်းတွင်းလည်းမချန်၊ ရေ့နောက်တောင်မြောက် မြို့ရွာ၊ ဇနပုဒ်မကျန် ခက်ခဲသောတောင်များ ကိုကျော်လွှားလျက်ရေပြင်၊ ဝေဟင်ခရီးများနှင့်အာလင်မ်၊ ဟာဖိဇ်ကုန်သည်၊ လယ်သမားများထံသွားရောက်၍ ဒအ်ဝယ်ပေးခဲ့သည်။ ကျန်းမာရေး အင်အားချိနဲ့သော်ငြားလည်း စိတ်ဓာတ်မလျှော့ခဲ့ပေ။

## ရခိုင်ပြည်နယ်ကိုသွားခဲ့သော ဒအ်ဝယ် ခရီးစဉ်

(၁၉၆၆)–ခုနှစ်အစပိုင်း၌ လုပ်ဖော်ကိုင်ဖက်များနှင့်အတူ ပထမဦးဆုံး ရခိုင်သို့သွားခဲ့သည်။ စစ်တွေမြို့သို့ရောက်ရာ မုစ်လင်မ်ညီနောင်များက အင်တိုက်အားတိုက် ကြိုဆိုလျက် နာဇီရ်ပါရာဟ်မရ်ကဇ်သို့ ခေါ်ဆောင်သွားကြသည်။

နေဇာမွဒ်ဒီးန်တွင်တစ်နှစ်၊ ဟာဇရယ်ရှိုင်ခွလ်ဟာဒီးစ်ထံတွင်တစ်နှစ်၊

အချိန်ပေးပြီး ပြန်လာသည့် မော်လာနာအဗူဗကရ်နှင့် နှုတ်ဆက်ခွင့်ရသည်။ ၎င်းမော်လာနာဆပ်သည် အရည်အချင်းခြောက်ရပ်ကို အကျယ်တ ဝန့် တင်ပြနိုင်သူဖြစ်သောကြောင့် ဟဇရသ်သည်မိမိနှင့်တစ်ပါတည်း ရန်ကုန် သို့ခေါ်လာခဲ့သည်။

ကျပ်ကျီပါရာဟ် ရက်ကွက်တွင် မော်လာနာ ရှာဟာဗွဒ်ဒီးန်ဆပ်က အလွန် နွှဆ်ရသ်ပြုပါသည်။ ၎င်းမော်လာနာသည် အလွန် ထက်မြက်သောအာလင်မ်၊ အများကြည်ညိုလေးစားသောဒါအီ ဖြစ်ပါသည်။ အခြားအာလင်မ်များကလည်း အတူလိုက်ပါ၍ နွှဆ်ရသ်ပေးကြပါသည်။

ထို့နောက်ဘူးသီးတောင်သို့ သင်္ဘောဖြင့် ခရီးဆက်ရာ ဟဇရသ်၏ တပည့်ရင်းဖြစ်သူ မော်လာနာဖိုင်ဇွလ်အစ္စလာမ်(ဟဇရသ်မဒနီ၏တပည့်လည်းဖြစ်၊ ခလီဖဟ်လည်းဖြစ်သူ)တို့နှင့် ဆုံတွေ့ခဲ့ပါသည်။ အာလင်မ် အဝါမ်များကလည်း အားပါးတရကြိုဆို၍ နွှဆ်ရသ်ပြုကာ၊ 'ဤဒအ်ဝသ် လုပ်ငန်းကို ဇောက်ချ၍ ကြိုးပမ်းပါမည်'ဟု ကတိပြုကြပါသည်။

ထို့နောက် ကျောက်တော်သို့ ရောက်ခဲ့ရာ မွစ်လင်မ်ညီနောင်များ က'အီးဒ်'နေ့သဖွယ် ဝမ်းမြောက်ပျော်ရွှင်စွာဖြင့် လှိုက်လှိုက်လှဲလှဲ ကြိုဆိုကြ၏။ ၎င်းတို့ကလည်း 'ဤဒအ်ဝသ်လုပ်ငန်းတွင် ဇောက်ချ၍ ကြိုးပမ်းကြမည်'ဟု သံန္နိဋ္ဌာန်ပြုကြပါသည်။

အထူးတင်ပြလိုသည်မှာ . . .

စစ်တွေရှိမွတ်စလင်မ်များသည် အလွန်ဆင်ရဲနွမ်းပါးသူများဖြစ်၍ ကျစ်လ္လာ ထွက်သည့်အခါ မိမိတို့အိမ်မှ ဆန်၊ပဲ၊ငါးခြောက်၊ခရမ်းသီး၊

ဆား၊နန္နင်း၊စသည်များကို ကိုယ်စီကိုယ်စီယူလာကြပြီး ရောနှောကာ စုပေါင်းချက်ပြုတ် စားကြရရှာလေသည်။

အောရန်ဂ်ဇေ့ဗ်ဘုရင်နှင့် စစ်ရှုံးကာ မောင်းတော်သို့ထွက်ပြေးလာသော ရှာဂျဟာန်ဘုရင်တပ်များနေထိုင်သည့် ရွာသို့လည်းရောက်ခဲ့သည်။

ထိုပြင် နှစ်ပေါင်းသုံးရာမတိုင်မီက တည်ဆောက်ထားသော ရှေးဗလီကြီး တစ်လုံးကိုလည်း ကျောက်တော်မြို့တွင်တွေ့ခဲ့ရသည်။ အာရဗ်နွယ်ဖွား မွတ်စလင်မ်ကျေးရွာသားများနှင့်လည်း တွေ့ခဲ့ရသည်။ ထိုခရီးစဉ်တွင် ဟဇရသ်နှင့်အတူလိုက်ပါခဲ့သော ပုဂ္ဂိုလ်များမှာ–

မော်လာနာ ကာရီ အဗ်ဒွလ်ရဟ်မာန် ကာစီမီ(رحمة الله عليه)(ကန်ဘဲ့)

မရ်ဟူမ် အဗ်ဒွလ်ဂဖားရ်ခန်း (ပျော်ဘွယ်)

မရ်ဟူမ် ဘိုင်ဆွလာဟွဒ်ဒီးန် (မအူကုန်း)

မရ်ဟူမ် ဘိုင်အဟ်မဒ်ခန်း (မအူကုန်း)

မရ်ဟူမ် ဟာဂျီ ယူနွတ်(စ်) ကျပ်ကျိ(မအူကုန်း)

မရ်ဟူမ် ဟာဂျီ မဟ်မူဒွလ္လာဟ် (မော်လမြိုင်)

မရ်ဟူမ် ဟာဂျီ ယဟ်ယာဆပ် (ကော့ကရိတ်)

ဟာဂျီ ဒါဝူဒ် ကရ်ဝါဆပ်တို့ဖြစ်ပါသည်။ ၎င်းဒအ်ဝသ်ခရီးစဉ်သည် အလွန်အောင်မြင်သော ခရီးစဉ်ဖြစ်ခဲ့ပါသည်။

## ဟာဇရသ်၏နောက်ဆုံးဒအ်ဝသ်ခရီးစဉ်

၂၀၀၅ခုနှစ်၊ ဖေဖော်ဝါရီလ (၅-၆-၇)ရက်နေ့များတွင် မန္တလေးမြို့၌ ပထမဆုံးအကြိမ် (၃)ကျိုလ္လာဂျိုရ်ဖြစ်ခဲ့ရာ ဟာဇရသ်သည် ကျန်းမာရေးချို့တဲ့နေသည့်ကြားမှ သားများဖြစ်သော ဟာဂျီမုဟမ္မဒ်ဆပ်၊ မော်လဝီဟာဖိဇ်အိလ်ယာစ်ဆပ်နှင့် ဟာဇရသ်၏အရင်းအချာ မာမူရ် ဖြစ်သည့် ဟာဂျီအိစ်မာအီးလ်ဆပ်၊ ဟာဇရသ်၏ခါဒင်မ်များဖြစ်သည့် ဖိုင်နွလ်အာဗိဒီးန်(ဒီန်ဘိုင်)နှင့် ဘိုင်အုမရ်တို့က လေယာဉ်ခရီးစဉ်ဖြင့် ဟာဇရသ်ကို မန္တလေးသို့ ခေါ်လာခဲ့သည်။ သမီးကြီးဖိုင်နပ်ဘီအိမ်တွင် တည်းခိုသည်။ အားအင်ချည့်နဲ့နေသော်လည်းအာလင်မ်များ အတွက် သီးသန့်အစဉ်အစဉ် ရှိရာသို့ ကြွမြန်းလာခြင်းဖြစ်သည်။

ဘယ်သူပဲဖြစ်ဖြစ် အစ်ခ်လားဆ့်နဲ့ မရှ်ဝရဟ်နဲ့အလုပ်လုပ်ရင် အရှင်မြတ်ကူညီတော်မူမယ်' လို့လည်း ဟာဇရသ်ကမိန့်ကြားပါတယ်။

ဤသည် ဟာဇရသ်၏နောက်ဆုံးခရီးဖြစ်သည်။ 'ကြိုးပမ်းလျက် သေရမည်။ သေရင်းနဲ့လည်းကြိုးပမ်းနေရမည်' ဟူသောဟာဇရသ်၏အဆို ကို လက်တွေ့ပြသသွား ခြင်းဖြစ်သည်။

اللهم اغفر له وارحمه واسكنه فى الجنة

## အမျိုးသမီးသအ်လီးမ်

ဟာဇရသ်သည် အမျိုးသမီးများ၏အခန်းကဏ္ဍကိုလည်း လျစ်လျူရှုမထားဘဲ ဟာဇရသ်၏သောကနှင့်ကျိုးပမ်းမှုကြောင့်(၁၉၆၀)ခုနှစ်

တွင်ကန်တော်ကလေး၊ ၉၃–လမ်းရှိ ဟာဂျီဦးချစ်အိမ်တွင် အမျိုးသမီး သအ်လီ‌‌‌း မ် စဖြစ်၏။ တစ်ဖြည်းဖြည်းနှင့် အခြားရပ်ကွက်တွင်လည်း အပတ်စဉ်အမျိုးသမီးသအ်လီ မ် ပြန့်နှံ့လာသည်။

ပထမဦးဆုံးမပ်စ်သူရာသ် မဟ်ရမ် ဂျမာအသ်ကိုလည်း ဟာဂျီ ဟူစိုင်န်၏၁၂၃–လမ်းအိမ်တွင် စတင်စုရုံးကာ ထွက်ခဲ့သည်။ မပ်စ်သူရာသ် ဂျမာသ်၏ကြိုးပမ်းမှုကြောင့် အမျိုးသမီးလောကတွင်ဒီးန် နိုးကြားလာခဲ့ သည်။ ဤသည်ဟဇရသ်၏ တစိုက်မတ်မတ်ကြိုးပမ်းမှု၏ ရလဒ်ပင်။ ရဲရဲတင်းတင်းဖြင့် လုပ်ငန်းကိုအကောင်အထည်ဖော်ပေးခဲ့သည်။

ယနေ့ ၉၀–ရာခိုင်နှုန်းမျှ လူငယ်လောက၊ အမျိုးသမီး လောက နှင့် လူမမယ်ကလေးများအတွင်း၌ပင် ဒီးန်ကို မြတ်နိုးလာကြသည်။

၁၉၉၇ခုနှစ်တွင်းမဒါးဗလီမကာမိမှ အောက်ပါပုဂ္ဂိုလ်များသည် ပြည်ပသို့ ပထမဦးဆုံး မပ်စ်သူရာသ်ဂျမာအသ်ထွက်ခဲ့သည်။

၁။ အဗ်ဒွရ်ရှကူရ်ဘိုင်နှင့် ဇနီး

၂။ မုဟာမ္မဒ်ရှရိဖ်ဘိုင် (ခ) ကိုစိန်လွင်နှင့် ဇနီး

၃။ ဟာဂျီ အဗ်ဒွလ်ကာဒိရ်နှင့် ဇနီး

၄။ ကိုမြင့်ဆွေနှင့် ဇနီး(ကွယ်လွန်)

အချို့သူများက မပ်စ်သူရာသ်ဂျမာအသ်ထွက်သည့်ကိစ္စနှင့် ပတ်သက်ပြီး စောဒကတက် ဝေဖန်နေကြသော်လည်း ဟဇရသ်သည် မည်သူ့ကိုမျှ အဖြေမပေး၊ အငြင်းအခုံမလုပ်၊ အလ္လာဟ်အလုပ်ကိုသာ တစ်စိုက်မတ်မတ်၊ တိတ်တဆိတ်ထမ်းဆောင်နေခဲ့သည်။

ဟာဇရည်၏ ဟာစ်က်မယ်ကြောင့် ဗာသိလ်များပင် တစတစနှင့် လုပ်ငန်းတွင် ပါဝင်လာကြပြီး စိမ်းကားသူများပင် မိတ်ဆွေဖြစ်လာကြလေတော့သည်။

## အေမာရည်သက်တမ်း

(၁၉၅၀) ခုနှစ်မှစ၍ ၅၅–နှစ်တိုင်တိုင် အေမာရည် (အမီးရ်တာဝန်) ကို မဆုတ်မနစ် ကြံ့ခိုင်ပြတ်သားစွာ ထမ်းဆောင်ခဲ့သည်။ စတင် တာဝန်ထမ်းဆောင်စဉ်က အသက်(၃၀)မျှသာရှိမည်။

ဟာဇရည်ကြီး ၃–ပါးစလုံး၏ ခေတ်ကို မှီခဲ့သူဖြစ်ရာ သဗ်လီဂ်ကို နေရာနှံ့အောင် ကျေးရွာ ဖနပုဒ်နေ မွတ်စလင်မ်ညီနောင်တစ်ဦးကို ပင်မချန်ဘဲ ကြိုပမ်းခဲ့သည်မှာ အသက်၊ စည်းစိမ်နှင့် သားသမီးတို့ထက်သည်ပင် ပို၍ဦးစားပေးခဲ့သည်။

ခေါ်ယူတင်ပြရေးထက် သွားရောက်ဒအ်ဝသ်ပေးရန် ဦးစားပေးတိုက်တွန်းလေ့ရှိသည်။ စာပို့ရင် စာသာပြန်လာမယ်။ လူပို့ရင် လူပါပါလာလိမ့်မယ်ဟုပြောလေ့ရှိခဲ့၏။ ဟာဇရည်ကိုယ်တိုင်ကပင် ဤသို့ကျင့်သုံးခဲ့သည်။

သွားလိုရာစခန်းသို့ ရောက်ပြီဆိုလျှင် ဦးစွာဟာဂျသ်ဖတ်၍ ဒိုအာတောင်းလေ့ရှိသည်။ ဒိုအာကို အလွန်အားကိုးသည်။ ဒိုအာဖြင့် လုပ်ငန်းတိုင်းကို ပြီးပြတ်အောင် ဆောင်ရွက်သည်။

# ဟာဇရည်၏လူမှုဆက်ဆံရေး

ဆုံကြုံမိသူတိုင်ကိုဟာဇရည်ကပင်ဦးစွာစလာမ်ပေးကာ မိသားစု၏ ကျန်းမာရေးကိုမေးလေ့ရှိသည်။ လူထု၏အချစ်တော်ပီပီ ချိုသာလေး စားစွာ ဆက်ဆံတတ်သည်။ ဟာဇရည်သည်ငါ့ကိုအချစ်ဆုံး၊အခြားသူထက် ပို၍ အဆက်အသွယ်အထားဆုံး ဟုလူတိုင်းကခံယူကြသည်။ မည်သည့် ပုဂ္ဂိုလ် မည်သည့်အုပ်စုကိုမျှ အသာပေးလေ့မရှိမည်သူ့အပြစ်အနာအဆာ ကိုမျှ နားထောင်လေ့မရှိ။

လုပ်ဖော်ကိုင်ဖက်တိုင်းအား ၎င်း၏အရည်အအသွေးနှင့်အညီ ချိုသာနူးညံ့စွာဆက်ဆံတတ်သည်။ တစ်ဦးတစ်ယောက်ကပစ်ပစ်ခါခါ ဆက်ဆံလာလျှင်လည်း ခံနိုင်ရည်သည်းခံမှုအပြည့်ဖြင့် နှုတ်ဆိတ်နေလေ့ ရှိသည်။ လူသစ်၊ လူဟောင်း၊ အာလင်မ်၊ အဝါမ်၊ မွတ်စလင်မ်တိုင်းကို ဂုဏ်ပေးလေးစားကာ ဆက်ဆံတတ်သည်။

## အမယ်တစ်ရပ်

ဟာဇရည်သည် ဂျမာအသ်သို့ရောက်သည့်အခါဖြစ်စေ၊မရ်ကဇ်သို့ ရောက်လာသည့်အခါဖြစ်စေ၊ အစီအစဉ်တိုင်းတွင်ပါဝင်လေ့ရှိသည်။ လူသစ်လူငယ် စကားပြောနေလျှင်လည်း တပ်မက်သောအသွင်ဖြင့် နားထောင်လေ့ရှိသည်။

စကားမှားနေလျှင် ၎င်းထိုင်လိုက်သောအခါ ဟာဇရည်က နောက်ဆုံး သရ်ကီးလ်ပြုသည့်ဟန်ဖြင့် လူငယ်၏စကားကိုလည်း ပြင်ပေး လေ့ရှိသည်။ ဤသို့ ကျောင်းဆင်းစအာလင်မ်များကိုလည်းကောင်း၊

လူသစ် လူရွယ်များကိုလည်းကောင်း၊ ဖော်ရွေစွာဆက်ဆံပြုပြင်ပေး လေ့ရှိသည်။ ဟာဇရယ်သည် ဗလီထဲသို့ဝင်သည်နှင့် သဟီယသွလ်မတ်စ် ဂျစ်ဒ်နမာဇ်ကို အမြဲဖတ်လေ့ရှိသည်။ မည်သည့်အခါမျှ လက်မလွှတ်ခဲ့ပေ။

## ပြေရှင်းမှုတစ်ရပ်

ဟာဇရယ်သည် မိမိလုပ်ဖော်ကိုင်ဖက်များအနက်မှ တစ်ဦးတစ် ယောက်သည် အများကြည်ညိုသည့် (သို့မဟုတ်) လေးစားသည့် ပုဂ္ဂိုလ် တစ်ဦးဦးနှင့် ကတောက်ကဆဖြစ်လျှင် ကိုယ့်မိတ်ဆွေအား တစ်ဦးချင်း ခေါ်တွေ့သည်။ ကိုယ့်ဖက်မှ မှန်နေသော်ငြားလည်း တောင်းပန်ခြင်းအား ဖြင့်မည်သို့အကျိုးရှိသည်။ တစ်ဖက်သူရဲ့ အပြစ်အမှားပင်ဖြစ်စေ၊ ခွင့်လွှတ်ခြင်းအားဖြင့် မည်သို့အကျိုးထူးသည်များကို တင်ပြကာ မိမိ ဘက်မှ ဦးဦးဖျားဖျား သွားရောက်တောင်းပန်ရန် တိုက်တွန်း၍ ချက်ချင်း စေလွှတ်လေ့ရှိသည်။ ဤသို့ဖြင့် တစ်ဖက်မှပုဂ္ဂိုလ်သည် ဟာဇရယ်ကိုပို၍ လေးစားစိတ်ဖြစ်ပေါ်လာပြီး လုပ်ငန်းကမည်သို့ ဩဇာရှိသည်ကိုလည်း လက်တွေ့ကျကျ မြင်ရပေသည်။

## ဟာဇရယ်၏တင်ပြချက်တစ်ရပ်

စဟာရန်ပူရ်မှာ ကျောင်းတက်စဉ် ကြသပတေးနေ့တိုင်း စဟာရန်ပူရ် မရ်ကဇ်သို့သွားကာ အိဂျ်သိမာမှာ ပါဝင်လေ့ရှိပါသည်။ မေဝါသီများတင်ပြရာတွင် ခြောက်ခွန်းကိုသာပြောလေ့ရှိသည်။ ခြောက်ခွန်း အနက် အစ်က်ရာမေမွတ်စလင်မ် အပိုဒ်ကိုကြားရတိုင်း ဒအ်ဝသ်ကြိုးပမ်းမှုကို စိတ်ထဲမှာ စွဲလန်းသွားရပါတယ်။

# ဟာဇရည်၏အမြော်အမြင်ကြီးမှုနှင့်ဒအ်ဝသ်အကျိုးဆက်

မြန်မာနိုင်ငံ၏ဒအ်ဝသ်ကြိုးပမ်းမှု ပြန့်နှံ့စ ပြုပြီဖြစ်၍ ဟာဇရည် နှင့်အနီးကပ်နေကာ မရှ်ဝရဟ်ပေးနိုင်ရန်အတွက် ၁၉၇၃ခုနှစ်တွင် မော်လဝီ မဟ်မူဒ် မာမ်ဆာအပါအဝင် ရှုရာ(၅)ဦးကို နေဇာမွဒ်ဒီးန် မရ်ကဇ်မှ သတ်မှတ်ပေးခဲ့ပါသည်။ ဟာဇရည်သည် ထိုရှုရာ များနှင့် လက်တွဲ၍ ဆက်လက်ကြိုးပမ်းခဲ့ပါသည်။

၂၀၀၀ခုနှစ်နောက်ပိုင်းတွင် ဟာဇရည်သည် ကျန်းမာရေးချို့တဲ့မှု ဖြစ်လာပါသည်။ ၂၀၀၂ခုနှစ်နောက်ပိုင်းတွင် ဟာဇရည်သည် ကျန်းမာရေး အခြေအနေအရ နေ့စဉ်မရ်ကဇ်သို့ မရောက်နိုင်တော့သဖြင့် အရေးတကြီး ကိစ္စများ၊ မရှ်ဝရဟ်များကို ရှုရာ တာဝန်ခံများက အိမ်သို့လာ၍ ဟာဇရည် ထံတင်ပြကာ ဟာဇရည်၏ဆုံးဖြတ်ချက်ကို ရယူလေသည်။

ဟာဇရည်သည် ကျန်းမာရေးချို့တဲ့လာသည့်အပေါ် မိမိမရှိသည့် နောက်ပိုင်း လုပ်ငန်းကို မည်ကဲ့သို့ဦးဆောင်ရမည့်အရေးနှင့် ပတ်သက်၍ သောကဖြစ်လာပါသည်။ ထို့ကြောင့် နေဇာမွဒ်ဒီးန်မရ်ကဇ်သို့ မိမိ၏ ကျန်းမာရေးချို့တဲ့လာမှု၊ ပထမဖွဲ့ပေးထားသော ရှုရာများမှာ အသက် အရွယ်ကြီးရင့်လာပြီး ကျန်းမာရေးချို့တဲ့မှုများဖြစ်ပေါ်နေသောကြောင့် နောက်ထပ်ရှုရာ ထပ်တိုးပေးပါရန် အကာဗိရ်များထံ တင်ပြခဲ့ပါသည်။ ထိုအခါအကာဗိရ်များက ယခင်ရှုရာ (၅)ဦးအပြင် နောက်ထပ်(၈)ဦးကိုပါ ထပ်မံဖြည့်ဆွက်ပေးခဲ့ပါသည်။ ဟာဇရည်သည် မိမိသက်တော်ထင်ရှားရှိ စဉ်မှာပင် ယင်းရှုရာမိတ်ဆွေ(၁၃)ဦးပါ ဂျမာအသ်ကို ပခုံးပြောင်းတာဝန်

အပ်နှင်းခဲ့ပါသည်။ ထိုနောက်ပိုင်းတွင်လည်း ဟဇရသ်သည် ကိုယ်စွမ်း၊ ဉာဏ်စွမ်းရှိသမျှ မရ်ကဇ်သို့လာ၍ လုပ်ငန်းတွင်ပါဝင်လေ့ရှိခဲ့သည်။ ယင်းရှုရာများအနက် ဟာဂျီဂိုရာပတေးလ်နှင့်ဟာဖိဇ်ကြီး ဇိုင်နွလ်အာဗိဒီးန် (မုံရွာ)တို့နှစ်ဦးလည်း ကွယ်လွန်သွားရှာလေပြီ။ ယခုမူကား ဟဇရသ်သည်လည်း အလ္လာဟ်အမိန့်တော်ကို ခံယူခဲ့ရရှာပြီ။ اِنَّالِلّٰهِ وَاِنَّا اِلَيْهِ رَاجِعُوْنَ

ယင်းရှုရာဂျမာအသ်အနေဖြင့် ဆက်လက်၍ ဆောင်ရွက်နေသမျှ အကျိုးဆက်များကိုလည်း ဟဇရသ်မှရနေဦးမည်ဖြစ်သည်။

مٹادی تو اپنی ہستی کو بغیر اغراض کے اے پدر
کہ تو خاک میں ملکر بھی فیضِ صالح بخشتا ہے

**အိုဖေဖေ၊ဖေဖေသည်လောကီရမ္မက်ကင်းစွာဖြင့်**
**မိမိကိုယ်ကိုမိမိဖျောက်ပစ်ခဲ့သည်**
**ဖေဖေ၊အာခေရသ်သို့ကူးပြောင်းသွားသော်လည်း**
**မိမိ'ဖိုက်ဇ်'ကိုဝေစာစေလျက်ပါ**

(الیاس صالحی)

# ပြည်လုံးကျွတ်အိဂ္ဂျသိမာအ်ဖိတ်ကြားလွှာ

၁၃၉၂- ပဟာရ်ရမ် ၂၆/ ၂၇/ ၂၈
ခလောက်ကွန်ဒိင် အိဂ္ဂျသိမာ

**သာသနာ့ညီနောင်များနှင့် လူကြီးမင်းများထံ**

اَذَاقَنَااللّٰهُ وَاِيَّاكُمْ حَلَاوَةَالْاِيْمَانِ وَذَوْقَ الْيَقِيْنِ

السلام عليكم ورحمة اللّٰه وبركاته

အာခိရသ်ကိုအလှဆင်၊ ဒွန်နယာကိုပြင်ဆင်ရန်အလို့ငှာ သဗ်လီးဂ် အမည်ဖြင့် ကြိုးပမ်းမှု တစ်ရပ်ကို သင်ယူနေကြပါတယ်။အရှင့်အလိုတော်နှင့်ယင်း၏ ဗရကာသ်ရလဒ်နှင့် အဖူးအပွင့်များ ထင်ရှားပေါ်လွင်နေတယ်။ အရှင်မြတ် ထပ်ဆင့်ကဗူလ်ပြုတော်မူပါစေ။

လူသားတစ်ရပ်လုံး ထာဝရအောင်မြင်ဖို့ တမန်တော်မြတ်က ကြိုးပမ်းမှုတစ်ရပ်ကို ဆောင်ကြဉ်လာတော်မူတယ်၊ လူတိုင်းသည်ကြိုးပမ်းအားထုတ်၍ အီမာန်၊ ယကီးန်နှင့် ခန္ဓာကိုယ်မှ ထွက်ပေါ်လုပ်ဆောင်သည့် အမလ်များကို တိကျလာအောင်ပြုရမယ်။

အကယ်၍လူသားသည် မိမိယကီးန်၊အမလ်နှင့်အခ်လားက်(ကိုယ်ကျင့်တရား)ကို ပြုပြင်လိုက်ကြလျှင် အရှင်မြတ်က ယင်းတို့ကိုနှစ်ဌာန၏ အောင်မြင်မှုကို ချီးမြှင့်တော်မူမည်။

အကယ်၍ယကီးန်နှင့်အမလ်ကိုမှန်အောင်မပြု၊ ကမ္ဘာအနှံ့ အရာဝတ္ထု၏ ယုံကြည်မှုဖြင့်သာ ရုပ်ဝတ္ထုပစ္စည်းကို ရရှိစုဆောင်းရန်အတွက်သာ ကြိုးပမ်းနေကြရင်၊ အရှင်မြတ်က တစ်ခါတစ်ရံရှင်းလိုချင်တာ

ကို ချီးမြှင့်တာရှိပြီး တစ်ခါတစ်ရံ လုံးဝမချီးမြှင့်တာလည်းရှိသည့်အလား တစ်ခါတစ်ရံ ပေးပြီးပြန်ယူတာလည်းရှိပါတယ်။ မည်သို့ပင် ဖြစ်စေ၊ ဤအောင်မြင်မှုသည် ယာယီခေတ္တခဏအတွက်သာဖြစ်ပါတယ်။ ထာဝရ အစစ်အမှန်အောင်မြင်မှုမှာ အီမာန်၊အစ်ခလားစ်နှင့်တကွ ကိုယ်တော်မြတ် ယူဆောင်လာသော အအ်မာလ်နှင့်အခ်လာက်နှင့် ကိုက်ညီရန်လို အပ်ပါ တယ်။ ဤအချက်သည် လူသားအပေါင်းတွင် ပြန့်နှံ့လာသော် အရှင်မြတ် သည် အားလုံးအတွက် မခြားမနား ၊ ရဟ်မသ် ဟိဒါယသ်၏ဆုံးဖြတ် ချက်ကိုချတော်မူမယ်။ တစ်ဦးချင်းအတွင်း ယင်းအရည်အချင်း များဖြစ် ပေါ်လာပါက တစ်ဦးချင်းအဖို့ ဟိဒါယသ်တံခါး ပွင့်လာမည်။ အချုပ်မှာ အောင်မြင်မှု၏စံကတော့ တမန်တော်မြတ်ယူဆောင်လာသည့် ကြိုးပမ်းမှု နှင့် သက်တမ်းသာဖြစ်တယ်။

ဤရည်မှန်းချက်ပြည့်ဝရန် သဗ်လီဂ်က အသံပြုနေသည်မှာ–

မိမိအသက်နှင့် ဥစ္စာစည်းစိမ်များကိုယူပြီး ဆွဟာဗဟ်များ၏ ဖဝါးခြေထပ်အတိုင်း မြို့ရွာတိုင်းပြည်အနှံ့ သွားလာကူးလူးကာ အရည် အချင်း (၆) ရပ်ကို လေ့ကျင့်ယူရပါမယ်။

ဤရည်ရွယ်ချက်ကိုကြိုးစားဆွတ်ခူးသောအားဖြင့်ရန်ကုန်တိုင်း၊ မင်္ဂလာဒုံမြို့နယ်၊ခလာက်ကွန်ဒိုင်ကျေးရွာတွင် သုံးရက်တာ အိဂျ်သိမာ တစ်ခုကို ၁၉၇၂–ခုနှစ်၊ မတ်လ ၁၃/ ၁၄/ ၁၅ ရက် (တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး)နေ့များတွင် စီစဉ်ထားပါတယ်။

မိတ်ဆွေများ ဂျမာအသ်နှင့်အတူ ကြွရောက်စေလိုပါတယ်။

ဤအိဂ်ျသိမာသည် ရဟ်မသ်ပြည့်ဖြိုး၍အများသူငှာဟေဒါယသ် ရရှိစရာ အကြောင်းခံအဖြစ် ကဗူလ်ဖြစ်စေရန်လည်း ဒိုအာပြုကြစေလို ပါတယ်။ မိတ်ဆွေများအား စလာမ်မပ်စ်နူးန်

فقط

ဗန္ဒဟ် မုဟာမ္မဒ် ဆွာလေဟ်

## အိဂ်ျသိမာများ

၁၉၅၁ ခုနှစ် သက်န်းကျွန်း အိဂ်ျသိမာ နှင့် နောက်ပိုင်းတွင် ရောက်ခဲ့ကြသော ပြင်ပတာဝန်ခံများ၏ သွန်သင်မှုဖြင့် အိဂ်ျသိမာများကို အောက်ပါအတိုင်း လုပ်ဆောင်နိုင်ခဲ့သည်။

၁၉၆၄ ခုနှစ်၊ ပထမဦးဆုံးအဖြစ် ၊ မန္တလေး/မိတ္ထီလာ

၁၉၆၇ ခုနှစ်၊ မြင်းခြံ

၁၉၆၈ ခုနှစ်၊ မော်လမြိုင်

၁၉၆၉ ခုနှစ်၊ ကျောက်မဲ

၁၉၇၀ ခုနှစ်၊ ပျဉ်းမနား (ပထမအကြိမ်)

၁၉၇၁ ခုနှစ်၊ မန္တလေး (ဒုတိယအကြိမ်)

၁၉၇၆ ခုနှစ်၊ ရွှေဘို

၁၉၇၈ မင်းဇီ

၁၉၇၉ / ၈၀ – ယင်းတော

၁၉၇၂ ခုနှစ်၊ မင်္ဂလာဒုံခလောက်ကွန်ဒိုင်အိဂျိသိမာတွင် တတိယဟာဇရသ်ကြီးမော်လာနာ အင်န်အာမွလ်ဟစန်နှင့် မော်လာနာ အုမရ် ပါလန်ပူရီတို့အပါအဝင် တာဝန်ခံကြီးများ ကြွရောက်ခဲ့သည်။ အိဂျိသိမာအတွက် ကြိုးပမ်းမှုပုံစံနှင့်လိုအပ်ချက်များကို အသေးစိတ်ညွှန်ပြခဲ့သည်။ လူနှစ်သောင်းကျော် ပါဝင်ပြီး လူတစ်သောင်းခန့် ဂျမာအသ်ထွက်ခဲ့ကြသည်။ နောက်ပိုင်း ဖြစ်ခဲ့သမျှသော အိဂျိသိမာများတွင်လည်း ပြည်ပအကြီးအကဲများပါဝင်ခဲ့ကြပြီး ပါဝင်သူနှင့် ဂျမာအသ်ထွက်သူတို့ အချိုးအစားမညီမှုကို ထောက်ပြကာ ကြိုးပမ်းရမည့်ပုံစံကိုချပြခဲ့ကြသည်။

၁၉၇၉/၈၀ခုနှစ် – ယင်းတော်အဂျိသိမာတွင် ပါကစ္စနိုင်ငံ၊ ကရာချိမြို့မှ ဘိုင်အမီးန်အပါအဝင် တာဝန်ခံအချို့နှင့် အိန္ဒိယ၊ ဘင်္ဂလာဒေ့ရှ်မှ တာဝန်ခံများကြွလာကြသည်။ အိဂျိသိမာအ်တွင်ပါဝင်သူ နှစ်သောင်းကျော်အနက် တစ်ထောင်ခန့်သာ ဂျမာအသ်ထွက်ခဲ့သဖြင့် ထပ်မံကြိုးပမ်းရန် လမ်းညွှန်ခဲ့သည်။

၁၉၈၄ခုနှစ် – အကာဗိရ်များ၏ လမ်းညွှန်မှုအရ အိဂျိသိမာအ်မတိုင်မီ တစ်နှစ်အရင်ကြိုတင်ကာ တိုင်းနှင့်ပြည်နယ်အလိုက် ဂျိုရ်နှစ်ကြိမ်လုပ်ကာ ကြိုးပမ်းခဲ့သည်။ လူနှစ်သောင်းခွဲကျော်နှင့် ပြည်ပမှ အကြီးအကဲတာဝန်ခံများစွာ ကြွရောက်ခဲ့သည်။ ပါဝင်သူများပါလျက်

ဂျမအာအသ်ထွက်သူ တစ်ထောင်ကျော်သာရှိခဲ့၍ အကြီးအကဲများက အားပေးစကားများစွာပြောကြားကာ စိတ်လက်မပျက်ဆက်လက်ကြိုးပမ်းရန် မိန့်ကြားခဲ့သည်။

၁၉၈၄ခုနှစ်ပျဉ်းမနားအိဂျ်သိမာအ်တွင် ပြည်ပသြေ့သည်အများအပြား ကြွရောက်ခဲ့၍ သက်ဆိုင်ရာကကြိုးပမ်းမှုကို ကန့်သတ်ခဲ့သဖြင့် တိုင်းနှင့်ပြည်နယ်အလိုက် စိလ်စေလာကျစ်လ္လာဂျမာအသ်များသာ ထွက်ခဲ့ရသည်။

ဂျမာအသ်ထွက်မှုလျော့နည်းလာသဖြင့် မြို့နယ်အလိုက်ဟာလ်ကာပုံစံဖြင့် ၁၉၉၀ခုနှစ်မှစ၍ ကြိုးပမ်းခဲ့ရာမှ ၁၉၉၆ ခုနှစ်မှစ၍ နှစ်နှစ်ခြားနိဇာမွဒ်ဒီးန်မရှ်ဝရဟ်သို့ သွားရောက်ကာ မကာမီအလိုက်ကြိုးပမ်းရတော့သည်။ ယနေ့အထိ မကာမီအလိုက်ကြိုးပမ်းပြီး မကာမီအလိုက် အမလ်ငါးရပ်ကို အကောင်အထည်ဖော်ကာ ကျစ်လ္လာ၊သုံးကျစ်လ္လာ၊ မတ်စ်သူရားသ်ဂျမာအသ်များ သရ်သီးဗ်ချ၍ ထုတ်နေကြရသည်။ ထိုသို့ ကြိုးပမ်းနိုင်ရေးအတွက် အကြီးအကဲတို့က ရန်ကုန်တွင် တစ်ပြည်လုံးအတိုင်းအတာဖြင့် တစ်နှစ်လျှင် နှစ်ကြိမ်၊ နယ်များတွင် (၂) လလျှင်တစ်ကြိမ်စီ မုဇာကရာလုပ်ခွင့်ပေးခဲ့သည်။ ဟာဇရာသ်သည် ထိုလမ်းညွှန်မှုကို မြေ့ဝယ်မကျ နာခံ၍ မိမိ၏မာမူရ်များအား ဦးဆောင်လမ်းညွှန်ခဲ့သည်။

## ဟာဇရသ်ကြီး မော်လာနာ မုဟာမ္မဒ် အိလ်ယာစ် (رحمة الله عليه)ဆွာဟာစ်ဗ်နှင့် ဆက်သွယ်ခဲ့ခြင်း

ဟာဇရသ်သည်ကျောင်းသားဘဝမှပင်ဟာဇရသ်ကြီးအားကြည်ညို လေးစားခဲ့သည်။ ကျောင်းပိတ်ရက်များတွင် ဟာဇရသ်ကြီးနှင့်အတူ သဗ်လီးဂ်ခရီး ထွက်ခဲ့သည်။ဟာဇရသ်ကြီးနှင့်အတူ (လွတ်လပ်ရေးမရ သေးမီ) ပါကစ္စတန်သို့ ခရီးထွက်ခဲ့သေးသည်။

မဇာဟိရ်ကျောင်းသို့ ဟာဇရသ်ကြီး မကြာခဏကြွလာတိုင်း ဟာဇရသ်သည် ဟာဇရသ်ကြီးအား ခြေဆုတ်လက်နယ် ခိဒ်မသ်ပြုခွင့် ရသဖြင့် ဟာဇရသ်ကြီးက ဒိုအာများချီးမြှင့်ခဲ့သည်။ ဟာဇရသ်ကြီး၏ဒိုအာ နှင့်အာရုံရရှိခြင်းကြောင့် ဟာဇရသ်ကို ဒအ်ဝသ်ကြိုးပမ်းမှုအတွက် အရှင်မြတ်က လက်ခံကဗူလ်ပြုတော်မူခဲ့သည်။

၁၉၄၄ခုနှစ်တွင် ဟာဇရသ်ကြီးကွယ်လွန်သဖြင့် ဟာဇရသ်ကြီး၏ ဂျနာဇဟ်တွင် ပါဝင်ခဲ့ရသည်။ ထိုအချိန်တွင် ဟာဇရသ်၏အသက်မှာ ၂၄–နှစ်မျှသာ ရှိခဲ့ပြီး ဟာဇရသ်ကြီးအား ခိဒ်မသ်ပြုခဲ့ရသဖြင့် ဒုအာနှင့် ဖိုင်ဇ်သဝဂျ်ဂျဟ်များရရှိခဲ့သည်။

## ဟာဇရသ်ရှိုင်ခွလ်ဟာဒီးစ်နှင့် ဆက်သွယ်မှု

ဟာဇရသ်သည် ကျောင်းနေဘဝမှပင် ဟာဇရသ်ရှိုက်ခ်နှင့်နိစ်ဗသ် ထားခဲ့သည်။ ကျောင်းပိတ်တိုင်း ဟာဇရသ်ထံသွားရောက်လေ့ရှိခဲ့သည်။ အတန်းကြီးလာသည်နှင့်အမျှ စာအားဖြင့် အဆက်အသွယ်ပြု၍ သိလို

သည့်များကို မေးမြန်းခဲ့သည်။ ရက်ရှည်ကျောင်းပိတ်လျှင်မူ ဟာဇရသ်ရှိုက်ခ်၏ ခါန်ကာတွင် သွားရောက် ဖိုက်ဇ်ယူလေ့ရှိသည်။

## ဟာဇရသ်မော်လာနာစအီဒ်အဟ်မဒ်ခါးန်နှင့်ဆက်သွယ်မှု

မော်လာနာဆပ်သည် ဟာဇရသ်၏ကျောင်းနေဘက်လည်းဖြစ်၊ မိတ်ဆွေရင်းလည်းဖြစ်သည်။ တစ်ဦးနှင့်တစ်ဦးအလွန်ပင် ညှာတာ၍ အနစ်နာခံကြသည်။

"ဟာဇရသ် မော်လာနာ စအီဒ်အဟ်မဒ်ခါန်သည် အလွန်အဆင့်မြင့်ပုဂ္ဂိုလ်ကြီးများအနက်မှ ဖြစ်ကြောင်း၊ ကျွန်တော့ရဲ့ငယ်ပေါင်းကြီးဖော်မိတ်ဆွေရင်းချာဖြစ်ကြောင်း ကျွန်တော်တို့ ကျောင်းသားဘဝမှာပင် မော်လာနာအား သဗ်လီးဂ်နှင့် အဆက်ထားရန် တိုက်တွန်းလေ့ရှိသည်။ တစ်ချိန်မှာ မော်လာနာလည်း လုပ်ငန်းနှင့် ဆက်သွယ်မှုရသွားလေသည်။ ဂျမာအသ်ထွက်သည့်အခါ ကျွန်တော်နှင့်လိုက်ပါလေ့ရှိသည်။

ယနေ့ဆိုလျှင် သဗ်လီးဂ်၏ အကာဗိရ်တွင် ပါဝင်ပြီး "ဟာကီမွလ်သဗ်လီးဂ်" သဗ်လီးဂ်လုပ်ငန်း၏သမားတော် ဟူ၍ ခေါ်တွင်လေသည်။ ဟာဇရသ်ကြီး၏ အတွင်းသဘောကို နားလည်သည့်အပြင် အလွန်ပီပြင်သော ဒါအီတွင်ပါဝင်သည်။

ဟာဂျီများအထူးသဖြင့် ဟာရမ်ရှရီးဖ်တွင် နေထိုင်ကြသူ အရပ်များလောက၌ ကြိုးပမ်းခဲ့ရာ အလွန်ပင် အကျိုးဖြစ်ထွန်းခဲ့သည်ဟု ရန်ကုန်မရ်ကဇ် (၂)လပတ်ဂျိုရ်တွင် ဟာဇရသ်မိန့်ကြားခဲ့သည်။

( ၆၇ )

## ကျေးဇူးရှင်နှစ်ပါးကွယ်လွန်

(၁၉၆၅) တွင် ဟာဇရသ်ကြီး မော်လာနာ မုဟမ္မဒ်ယူစွဖ်ဆွာဟိဗ် ကွယ်လွန်သည်။ ထိုအခါက ဟာဇရသ်၏အသက်မှာ ၄၅–နှစ်ရှိမည်။

ဟာဇရသ်ကြီးသည် ပါကစ္စတန်မှ မြန်မာနိုင်ငံသို့ကြွလာရန် စီစဉ်ထားသော်လည်း လာဟိုတွင် ကျန်းမာရေးချို့တဲ့လာ၍ ကွယ်လွန်ရှာလေသည်။ ၁၉၈၂ခုနှစ်တွင် ဟာဇရသ်ရှိုင်ခွလ်ဟဒီဆ်ဆပ်သည်လည်း မဒီနာရွှေမြို့တော်၌ အလ္လာဟ်အရှင်မြတ်အမိန့်တော် ခံယူသွားသည်။ အရှင်မြတ်သည် မော်လာနာဆပ်အား နှစ်ဌာန၏အောင်မြင်မှုကို ချီးမြှင့်တော်မူပါစေ။ ကျွန်တော့်အားလည်း အကျိုးရလဒ် ချီးမြှင့်တော်မူပါစေ။



# ဟာဇရတ်ရှိင်ခ်၏ဝဖာတ်ကြေကွဲဝမ်းနည်းစာ

باسمہ سبحانہ

آہ! شیخ الحدیث رح

موت العالِم موت العالَم — دردناک

ہم انتہائی گہرے رنج و صدمہ کے ساتھ آپ حضرات کو ایک دردناک حادثہ کی خبر دے رہے ہیں کہ قطب الاقطاب، برکۃ العصر، رأس المخلصین، مجدد زمانہ شیخ حضرت مولانا الحاج الحافظ محمد زکریا کاندھلوی مہاجر مدنی رحمۃ اللہ علیہ رحمۃ واسعۃ مدینہ منورہ میں ۲۵ مئی ۱۹۸۲ء کو رحلت فرماگئے ہیں۔

انا للہ وانا الیہ راجعون

حضرت شیخ الحدیث نوّر اللہ مرقدہ کے فیوض و برکات ساری دنیا میں عام ہو رہے ہیں۔ آپ دہلی نظام الدین اولیاء کی تبلیغی جماعت کے سرپرست تھے۔ آپ کی مشہور تصانیف عربی، اردو تصانیف میں تبلیغی نصاب کی کتابوں سے امت کو بہت ہی فائدہ ہو رہا ہے۔ ہر کتاب کے چودہ پندرہ زبانوں میں ترجمہ ہو چکا ہے!

اب امت حضرت شیخ الحدیث کی وجود بابرکت سے محروم ہو گئی البتہ ان کی کتابوں کا مطالعہ کرنا ان کی صحبت اور برکات کا بدل ہے۔ حق تعالیٰ حضرت شیخ کو بہی شایان شان درجات عالیہ نصیب فرمائے۔ آپ حضرات انفرادی طور پر جو کچھ ہو سکے اور جتنا ہو سکے ایصال ثواب کرتے رہیں۔ سب سے بڑا ایصال ثواب کی صورت یہ ہے کہ فی سبیل اللہ دعوت و تبلیغ میں لگے رہیں۔ اس کا ثواب شیخ الحدیث نوّر اللہ مرقدہ کو پہنچایا جائے۔

بندہ ... مظاہری ۱۴۰۲ھ

## باسمہ تعالیٰ

## အို - ရှိင်ခွလ်ဟဒီစ်ဆွာဟာစ်ဗ် (رحمۃ اللہ علیہ)

## مَوْتُ الْعَالِمِ مَوْتُ الْعَالَمِ

အာလင်မ်၏သေခြင်းသည်အာလမ်(စကြာဝဠာ)၏သေခြင်းဖြစ်သည်။

ကျွန်ုပ်သည် အလွန်တရာ ကြေကွဲဝမ်းနည်းစွာဖြင့် မိတ်ဆွေတို့အား စိတ်ထိခိုက်ဖွယ်အကြောင်းအရာတစ်ခုကို သတင်းပေးလိုပါသည်။ ကုသွဗ်များ၏ထိပ်ခေါင်၊ မျက်မှောက်ခေတ်၏ဗရ်ကသ်၊ အိခ်လားဆွ်ရှင်များ၏ခေါင်းဆောင်၊ ဟဒီစ်ပါမောက္ခများ၏ဂုဏ်ယူဖွယ်ရာပုဂ္ဂိုလ်၊ ဆရာများ၏ဆရာဖြစ်သော ကျွန်တော့်ဆရာသခင် ကျေးဇူးရှင် ဟဇရသ် မော်လာနာ အလ်ဟာဂျ် အလ်ဟာဖိဇ် မုဟမ္မဒ် ဇကရီယာ ကာန်ဒလဝီ မုဟာဂျိရေမဒနီ (အလ္လာဟ်အရှင်မြတ်၎င်းအပေါ်သို့ ကျယ်ပြန့်သော ရဟ်မသ်တော်များ ချပေးသနားတော်မူပါစေ) သည် (၁၉၈၄) ခု၊ မေလ(၂၅)ရက်နေ့တွင် မဒီနာမုနောင်ဝရဟ်၌ အလ္လာဟ်အရှင်မြတ်အမိန့်တော်ခံယူသွားခဲ့ပါသည်။

ဟဇရသ် ရှိုင်ခွလ်ဟဒီစ်(အလ္လာဟ်အရှင်မြတ်၎င်း၏အနားယူအိပ်စက်နေရာကို နူးရ်များဖြင့် လင်းဝင်းအောင်ပြုပေးသနားတော်မူပါစေ)၏ ဖိုင်ဇ်နှင့်ဗရ်ကသ်မင်္ဂလာများသည် တစ်လောကလုံးတွင် များပြားစွာပြန့်နေပါသည်။ ၎င်းရှိုင်ခွလ်ဟဒီစ်ဆွာဟိဗ်သည် ဒေလီမြို့ရှိ ဗတ်စ်တီနေဇာမွဒ်ဒီးန် အောက်လိယာရှိ သဗ်လီဂ်ဂျမာအသ်၏ဦးစီးနာယကဖြစ်ပါသည်။ ၎င်း၏မရေတွက်နိုင်သော အရဗီ အုရ်ဒူစာအုပ်များထဲမှ သဗ်လီဂ်

ဆိုင်ရာကျမ်းစာအုပ်များကြောင့် အွမ္မသ်ထုသည် များစွာအကျိုးခံစားနေရပါသည်။ စာအုပ်တိုင်းကို (၁၄-၁၅) မျိုးသောဘာသာဖြင့် ဘာသာပြန်ဆိုပြီးဖြစ်ပါသည်။

ယခုအွမ္မသ်သည် ရှိုင်ခွလ်ဟာဒီစ်၏ဗရ်ကာသ်ရှိဖွယ်ဘဝမှ လက်မဲ့ဖြစ်ရပြီး။ သို့သော်၎င်းရေးခဲ့သောစာအုပ်များကိုကြည့်ခြင်းအားဖြင့် ၎င်း၏ဆွဟ်ဗသ်နှင့်ဗရ်ကာသ်၏အစားဖြစ်ပါသည်။ အလ္လာဟ်အရှင်မြတ်အနေဖြင့် ဟာဇရသ်ရှိုင်ခ်ကို မိမိနှင့်ထိုက်တန်သည့် အဆင့်အတန်းမြင့်မားမှုကို ချီးမြှင့်တော်မူပါ။

မိတ်ဆွေတို့အနေဖြင့် တတ်နိုင်သရွေ့ ဖြစ်နိုင်သရွေ့ အီဆာလေစဝါဗ်ပြုလုပ်နေပါ။ အကောင်းဆုံးအီဆာလေစဝါဗ်ပြုလုပ်နည်းမှာအလ္လာဟ်အရှင်မြတ်လမ်းတော်၌ ဒအ်ဝသ်ဖိတ်ခေါ်မှုနှင့်သဗ်လီဂ်တွင်ထွက်၍ ၎င်း၏ဆဝါဗ်ကို ရှိုင်ခွလ်ဟာဒီစ်ဆပ်မရ်ဟူမ်အား ပို့ပေးကြပါ။

အလ္လာဟ်အရှင်မြတ်သည် ၎င်း၏အိပ်စက်အနားယူရာနေရာကို အေးမြအောင်ပြုပေးတော်မူပါ။

မှ- ဗန္ဒာ မုဟမ္မဒ်ဆွာလေဟ် (မဇ္ဇာဟေရီ)

ဟဂ်ျရီ ၁၄၀၂ခုနှစ် ယုအ်ဗာန်လ (၉)ရက်

# ဟာဇရသ်ကြီးမော်လာနာအင်န်အာမွလ်ဟာစံ (رحمة الله عليه) ကြွမြန်းလာခြင်း

(၁၉၇၂)ခုနှစ်တွင် ဟာဇရသ်ကြီး မော်လာနာအင်န်အာမွလ်ဟာစံသည် မော်လာနာ မုဟာမ္မဒ်အုမရ် ပါလန်ပူရီ၊ မော်လာနာမုဟာမ္မဒ်ဟာရူန် (ဒုတိယဟာဇရသ်ကြီး၏သား)၊ မော်လာနာအိဗ်ရာဟီမ် ဒေဃိုလာ၊ မွန်ရှီဗရှီးရ်ဆပ်စသည်တို့နှင့်အတူ ခလောက်ကွန်ဒိုင် အိဂ်ျသိမာသို့ ကြွမြန်းလာခဲ့သည်။ ယင်းသို့ကြွမြန်းလာရခြင်းမှာ

ဟာဇရသ်က'ကျွန်တော်တို့သည်အိမ်နီးချင်းနိုင်ငံသားများဖြစ်၍ ဟာဇရသ်ကြီးကြွလာဖို့ ထိုက်တန်ပါသည်'ဟု အကြံပြုတင်ပြရာ ဟာဇရသ်ကြီးက လက်ခံ၍ ကြွလာခြင်းဖြစ်သည်။

လေယာဉ်စင်းလုံးပြည့်ငှား၍ မော်လမြိုင်၊ မန္တလေးသို့လည်း သွားခဲ့ကြသည်။ ရန်ကုန်မှအာလင်မ်များအနက် ကာရီယူစွဖ်အပ်စ်အဒီနှင့် မော်လာနာ မဟ်မူဒ်မာမ်ဆာဆပ်တို့လည်း လိုက်ပါခဲ့ကြသည်။

ဘာသာပြန်ဆိုရန်အတွက် မော်လာနာ အဗ်ဒွလ်ဝဟားဗ်ဆပ် (ဘဂ်ါလီဗလီ) မော်လာနာအဇ်ဟာရ် ဆရာတင်ဖေ၊ မော်လာနာယအ်ကူဗ်ဆပ်မိတ္တီလာ၊ မော်လာနာဟာဗီဗွ်ဒ်ဒီးန် ပျော်ဘွယ်တို့ အသီးသီး တာဝန်ယူကြသည်။ အကာဗိရ်တို့၏ ကြွမြန်းလာမှုကြောင့် လုပ်ငန်းအလွန်ကျယ်ပြန့် လာခဲ့သည်။

(၁၉၉၅)ခုနှစ်တွင် ဟာဇရသ်ကြီး ကွယ်လွန်သည့်အခါဟာဇရသ်၏ အသက်မှာလည်း ၇၅-နှစ် ပြည့်ပြီဖြစ်သည်။

ဟာဇရသ်ကြီး သက်ရှိထင်ရှားရှိစဉ်က နှစ်ကြိမ်တိုင်ခစားခွင့်ရခဲ့သည်။ ဟာဇရသ်ကြီးသည် ဟာဇရသ်အား အလွန်လေးစားပျူငှာစွာကြိုဆို၍ မိမိအခန်း၊ မိမိအနီးတွင် ထိုင်ခိုင်းလေ့ရှိသည်။ ထို့နောက် (၁၉၉၆-၉၈-၂၀၀၀)ခုနှစ် မရှ်ဝရဟ်သို့လည်း ဟာဇရသ်သွားရောက်ပါဝင်ခဲ့သည်။

## ပြည်ပမှအကာဗိရ်များ

၁၉၅၁ခုနှစ်တွင် ဟာဖိဇ်မဟ်မူဒ်ဘာဂီယာခေါ်လာခဲ့သော ပထမဦးဆုံးဂျမာအသ်၌

၁။ **မော်လာနာ အစ္စဟာက် ပါလန်ပူရီ**

၂။ **ကာဇီ အဗ်ဒွလ်ဝဟာဗ်** (ဘုံဘေ)

၃။ **ဟာဂျီ အမီးန် ဆွာဟိဗ်** (ကရာချိ)

၄။ **ဟာဂျီ အဗ်ဒွလ္လာဟ်** (မြင်းခြံ)တို့ပါဝင်သည်။

**ဘိုင်အဗ်ဒွလ်မာလစ်က်**(ရိုင်ဝါန်ဒ်)၊ **ဟာဂျီ အဗ်ဒွလ်မုကီးသ်** (ဒါကာ)၊ **မော်လာနာ အဗ်ဒွလ်မာလစ်က်ဆပ်**တို့လည်း ကနဦးပိုင်း ဂျမာအသ်များတွင်လာရောက် ပါဝင်ကြိုးပမ်းခဲ့သည်။

နှစ်ကာလအနည်းငယ်အတွင်းမှာပင် **ကျစ်လ္လာနှင့် ပိုင်ဒလ်** ဂျမာအသ်များ ထွက်လာနိုင်ခဲ့သည်။ **ပိုင်ဒလ်**ဂျမာအသ်များကြောင့် ဒီးန်နိုးကြားလာခဲ့သဖြင့် တဖြည်းဖြည်း (၃) ကျစ်လ္လာ ဂျမာအသ်များလည်း ထွက်နိုင်ခဲ့သည်။

## ၁၉၄၅ မှ ၁၉၅၅ထိ ကြားကာလ

မော်လာနာဒါဝူဒ် မေဝါသီဆွာဟိဗ်သည်(၃)ကြိမ်တိုင် ရန်ကုန် ရောက်ခဲ့သည်။ မွန်ပြည်နယ်၊ ကရင်ပြည်နယ်ဘက်တွင် များစွာကြိုးပမ်း ခဲ့သည်။ ဟာဖိဇ်ဟုစိုင်န် ရှဟီး၁်၊ ဟာဖိဇ် အဟ်မဒ်ဂျီဝါးဆွာဟိဗ်တို့သည် အချိန်ပြည့် နှဆ်ရယ်ပေးခဲ့ကြသည်။

၁၉၅၁ခုနှစ် မှ ၁၉၇၅ခုနှစ်အကြား မက္ကာဟ်မုရှိုင်ခ်မအ်သူက်ဆပ်၊ ဆူဒါန်မှ ရှိုင်ခ်အာမိရ်ဆွာဟိဗ်၊ လေး–ငါးဦးပါဂျမာအသ်သည်(၂)ကြိမ် (၃)ကြိမ်ရောက်ခဲ့သည်။ တစ်ကြိမ်တွင် မလစ်က် အဗ်ဒွလ်ဟပ်က်ဆွာဟိဗ် လည်း လိုက်ပါခဲ့သည်။

၁၉၆၄–ခုနှစ်တွင် ဆိုင်ယဒ်ဖရီဒီဆွာဟိဗ် ရောက်လာခဲ့ပြီး အာလင်မ်များလောကကို ထိုးဖောက်နိုင်သဖြင့် ဒအ်ဝသ်ကြိုးပမ်းမှုလည်း ကျယ်ပြန့်လာခဲ့သည်။

မော်လာနာ အစ်ဗ်ရာဟီးမ်အဟ်မဒ် မဇ္ဇာဟိရီကလည်း အိုလမာ အဖွဲ့ရှိ အာလင်မ်များအား ထပ်ဆင့်တိုက်တွန်းခဲ့သည်။ မိမိကိုယ်တိုင် လည်း သမိုင်းရှိမရ်ကဇ်သို့ သွားရောက်ပါဝင်ခဲ့သည်။

၁၉၇၀ခုနှစ်တွင် မလေးရှားမှ ရှိုင်ခ်ဆွာလေဟ်အပါအဝင် ဒါကာမှ မော်လာနာ အလီအက္ကဗရ်၊ မော်လာနာ လွှသ်ဖွရ်ရဟ်မာန်တို့ပါ ရောက်လာခဲ့သည်။

## ကာကရေးလ်ဒါကာ၏ အာလင်မ်ပညာရှင်များ

(၁၉၇၅)ခုနှစ် လုပ်ငန်းအစပိုင်းတွင် ကာကရေးလ်မှ အကာဗိရ်များ အဆက်မပြတ်ရောက်လာကြသည်။ ၎င်းတို့မှာ -

၁- မော်လာနာ လွှသ်ဖွရ်ရဟ်မာန်ဆပ်

၂- မော်လာနာ အလီအပ်က်ဗရ်ဆပ်

၃- မော်လာနာ အရှ်ရဖ်အလီဆပ်

၄- မုရဗ္ဗီ မော်လာနာ အဗ်ဒွလ်အဇီးဇ် ခွလ်နဝီ

၅- မော်လာနာ အဗ်ဒွလ်ကာဒိရ်

၆- မော်လာနာ အဗ်ဒွရ်ရရှီးဒ်တို့ဖြစ်သည်။

သြစတေးလျ၊ ဇမ်ဗီယာ၊ အင်္ဂလန်၊အမေရိက၊တောင်အာဖရိက၊ ဆူဒန်၊ ဆော်ဒီအာရေဗျမှလည်း သောကရှင်တာဝန်ခံများ ရောက်လာ၍ ကြိုးပမ်းခဲ့သည်။ ဤသို့ ဂျမာအသ်များရောက်သည့်အခါ ဟာဇရသ်၏ မျက်နှာမှာ လင်းဝင်းနေ၏။ ခရီးဦးကြိုပြု၏။ လိုလေးသည်မရှိ ပြုစု၏။



## ပြည်ပခရီးတွင် အကာဗိရ်များနှင့်တွေ့ဆုံခဲ့ရပုံ

(၁၉၉၁)ခုနှစ်၊ ဟဂ်ျအရီးစဉ်တွင် ၄၅-နှစ်မျှ ကြာညောင်းပြီးနောက် (မဇာဟိရွလ်အုလူမ်ကျောင်း မှခွဲခွာပြီး) မက္ကာဟ်ရွှေမြို့တော်တွင် ဟာဇရသ် မော်လာနာ စအီဒ်အဟ်မဒ်ခါန်ဆွာဟိဗ်နှင့် ပြန်လည်ဆုံတွေ့ခွင့် ရရှိသည်။

ဤသို့ပင်တောင်အာဖရိက၏တာဝန်ခံ အလ်ဟာဂျ်ဂူလာမ်ဟူစိန် ဆွာဟိဗ်နှင့် (၁၆)နှစ်ကြာမှ မက္ကာဟ်တွင် ပြန်လည်ဆုံတွေ့သည်။ ၎င်းဟာဂျီဂူလာမ်ဟူစိန် ပါဒီယား ဆွာဟိဗ်သည် (၁၉၇၅)ခုနှစ်က ရန်ကုန်တွင်အချိန်ပေးခဲ့သည်။

ထိုဟာဂျ်၌ပင် ဟဇရသ် မော်လာနာ အုမရ် ပါလန်ပူရီဆွာဟိဗ်နှင့်(၁၉)နှစ်ကြာခဲ့ပြီးမှ ပြန်လည်ဆုံတွေ့ပြီး မော်လာနာ အဟ်မဒ်လာဒ်ဆွာဟိဗ်နှင့်လည်း (၉)နှစ်ကြာမှပြန်လည် မုလာကားသ်ဖြစ်သည်။ မော်လာနာအဟ်မဒ်လာဒ်သည်၂၀၀၀-ခုနှစ်က ရန်ကုန်ဂျိုရ်သို့ ရောက်ခဲ့သည်။

ကာကရေလ်တာဝန်ခံ မော်လဝီအလီ အပ်က်ဗရ်ဆပ်နှင့် (၁၈)နှစ်နောက်မှ ပြန်လည်ဆုံတွေ့သည်။ ၎င်းသည်လည်း ၁၉၇၃-ခုနှစ်က ရန်ကုန်သို့ရောက်ရှိလာခဲ့သည်။

ထိုဟာဂျ်၌ပင် ဆူဖီယဟ်ကျောင်းထွက် မော်လာနာ ဟူစိန်အဟ်မဒ်ဆပ်နှင့်လည်းကောင်း၊ ဟဇရသ်၏တပည့်ရင်း မော်လာနာအဗ်ဒွလ် ဟမီးဒ်နဒဝီနှင့်လည်းကောင်း၊လူဟောင်းမိတ်ဆွေကြီး အလ်ဟာဂျ်အဟ်မဒ်မနီးဆပ်နှင့်လည်းကောင်း၊ နှစ်(၄၀)ကြာမှ မက္ကာဟ်ရွှေမြို့တော်၌ဆုံတွေ့ခွင့် ရရှိသည်။

# ဟာဂျ်ခရီးစဉ်၏ကာရ်ဂုဇာရီ

၉.၇.၁၉၉၁

သို့
မော်လာနာ မဟ်မူဒ်မာမ်ဆာ ဆွာဟိဗ်

السلام عليكم ورحمة الله وبركاته

မော်လာနာဆပ်နှင့်တာဝန်ခံမိတ်ဆွေများထံ ကျွန်တော်စာရေးလိုက်ပါသည်။ ပို့သသော ဒိုအာကြောင့်ကျွန်တော်နှင့်မိတ်ဆွေများကျန်းမာစွာဖြင့် သာသနာ့ကျင့်စဉ်အရပ်ရပ်ကို ဆောင်ရွက်လျက်ရှိပါတယ်။ ထိုနည်းတူ မြန်မာနိုင်ငံမှ သာသနာ့မိတ်ဆွေလည်း၊ ကျန်းမာစွာဖြင့် သာသနာ့အကျိုးသယ်ပိုးနိုင်ရန် ဒိုအာကဗူလ်ဖြစ်သည့် နေရာများတွင် အထူးဒိုအာပြု ပို့သလျက်ရှိပါတယ်။

ကျွန်တော်နှင့်မိတ်ဆွေများ ၁၁–ရက်နေ့တွင် ဂျိဒ်ဒဟ်မှ မက္ကဟ်သို့ရောက်ရှိပြီး နောက်နေ့ဖဂျရ်အပြီး အွမ္မရာလုပ်ခွင့်ရရှိခဲ့ပါတယ်။ အွမ္မရာအပြီး မော်လဝီဟူစိန်နှင့် တွေ့ဆုံ၍ ၎င်း၏အိမ်၌ ကျွန်တော်နှင့် မိတ်ဆွေ ၄–ဦးကို နေထိုင်ရန် အစီအစဉ်လုပ်ပေးပါတယ်။ ၎င်း၏အိမ်တွင် နေထိုင်စဉ် မက္ကဟ်ရှိတာဝန်ခံများ၏ မရှ်ဝရဟ်အရ မြန်မာနိုင်ငံမှ အာလင်မ်များအစီစဉ်နှင့် ပြည်ပနိုင်ငံများမှ ရောက်ရှိနေသည့် ဂျမာအသ်(၁၅၀)တွင်ပါဝင်သော မိတ်ဆွေအချို့၏အစီစဉ်များ၌ ပါဝင်တွေ့ဆုံခွင့်ရရှိခဲ့ပါတယ်။ မော်လဝီဟူစိန်ဆွာဟိဘ်၏ စီစဉ်မှုဖြင့် ဟဇရသ်မော်လာနာ အုမရ် (ပါလန်ပူရီ)၊ ကာရီဇဟီးရ်ဆပ်၊ မော်လာနာ ဇိုဗိုင်ရ်ဆပ်၊ ဘိုင်အဗ်ဒွလ်ဝဟာဗ်ဆပ်၊ မွဖ်သီဇိုင်နွလ်အာဗိဒီးန်ဆပ်၊ မော်လာနာအဟ်မဒ်

လားတ်ဆပ်၊ မော်လာနာ စအီးဒ်အဟ်မဒ်ခါးန်ဆပ်တို့နှင့် မိုလာကါသ် လုပ်ခွင့်ရရှိခဲ့ပါတယ်။ ဟဂ်ျအစီအစဉ်ကို ၂၀-ရက်နေ့တွင် အစပြု၍ မေနာသို့ထွက်ခွာခဲ့ပါတယ်။ မိနာတွင် မြန်မာဟာဂျီ (၁၅၀)ဦးနှင့်အတူ နေထိုင်ခွင့်ရရှိခဲ့ပါတယ်။ မိနာအာရဖာသ်တွင် မြန်မာဟာဂျီများနှင့်အတူ သအ်လီးမ်၊ အစ်ဂ်ျတေမာအစီအစဉ်များ လုပ်ခွင့်ရရှိခဲ့ပါတယ်။ သရှ်ကီလ် အစီအစဉ်ဖြစ်ရာ မိတ်ဆွေများလည်း ရန်ကုန်ပြန်ရောက်လျှင် အလ္လာဟ့် လမ်းထွက်ရန် နာမည်ပေးထားကြပါတယ်။ ပြည်ပနိုင်ငံမှ ဟာဂျီသိန်း(၂၀) ခန့် လာရောက်သည်ဟု သတင်းကောင်းရရှိပါတယ်။

မိနာ အာရဖာသ်တွင်ရှိစဉ် ဂျမာအသ်မှ မိတ်ဆွေကြီးများက ဟာဂျီများအပေါ် ကြိုးပမ်းနေခြင်းကိုလည်း မြင်တွေ့ရပါသည်။ လုပ်ငန်း ထင်ပေါ်မှု မရှိသော်လည်း မရှ်ဝရဟ်ဖြင့် အလုပ်ဖြစ်နေသည်ကို မြင်တွေ့ရပါတယ်။ မိနာ၊ အာရဖာသ်၊ မုဇ်ဒလေဖာ၊ သဝါဖေဇေယာရသ် အစရှိသည့် ဟဂ်ျကျင့်စဉ်များကို အရှင်မြတ်အလိုတော်နှင့် အစီအစဉ် အတိုင်း ပြုခွင့်ရရှိခဲ့ပါတယ်။ မိတ်ဆွေများ ဟဂ်ျ၏မဆ်အလာများကိုလည်း လာရောက်မေးမြန်းကြပါတယ်။ အရှင်မြတ်အလိုတော်နှင့် ဟဂ်ျခရီးစဉ် တစ်ခုလုံး ချောမောလွယ်ကူစွာပြီးမြောက်ခဲ့ပါတယ်။ အရှင်မြတ်လက်ခံ သော ဟဂ်ျဂျေမက်ဘူလ်ဖြစ်ရန် အထူးဒိုအာပြုပါ။

ဟဂ်ျအပြီး မက္ကာဟ်ရွှေမြို့တော်တွင် နေထိုင်ကြသော မြန်မာ ပြည်သားများအပေါ် ကြိုးပမ်းမှုအစီအစဉ် ဖြစ်ခဲ့ပါတယ်။ မော်လာနာ အရှ်ရဖ်အလီ (ဘင်္ဂလားဒေ့ရှ်)၊ မော်လာနာ အုမရ် (ပါလန်ပူရီ) မွဖ်သီ

ဖိုင်နွယ်အာဖိဒီးန် ဆွာဟိဗ်၊မော်လာနာ အဟ်မဒ်လားတ် ဆွာဟိဗ်တို့၏ အစီအစဉ်များတွင်လည်း ပါဝင်ခွင့်ရရှိခဲ့ပါသည်။ တောင်အာဖရိကမှ ဘိုင်ပါးဒီးယား၊ ဘိုင်အဗ်ဒွရ်ရရှိုးဒ်တို့နှင့်လည်း မိုလာကာသ် လုပ်ခွင့်ရပြီး မြန်မာပြည်သို့ ပြန်လည်လာရောက် ကြိုးပမ်းရန် ဆန္ဒပြုကြပါသည်။ အလ္လာဟ်အရှင်မြတ်လက်ခံ ကဗူလ်ပြုတော်မူပါစေ။ ၎င်းတို့ဂျမာအသ် ဟဂ်ျအပြီး၊ လန်ဒန်သို့ သွားရောက်ကြိုးပမ်းမည် ဖြစ်ကြောင်းနှင့် စလာဟုဒ်ဒီးန်ဘိုင်တို့ ဂျမာအသ်ဖိလစ်ပိုင်သွားမည်ဖြစ်ကြောင်း သိရပါ တယ်။ အလ္လာဟ်အရှင်မြတ် မြန်မာနိုင်ငံမှ မိတ်ဆွေများ အားလုံးကိုလည်း ကမ္ဘာ့တဝှမ်းလုံးဒအ်ဝသ်မဲဟ်နသ်အတွက် လက်ခံတော်မူပါစေ။

အထူးအားရစရာ မြင်ကွင်းများ မြင်တွေ့ရပြီး အရှင့်အလိုတော်နှင့် မဒီနာခရီးဆက်ခွင့် ရရှိခဲ့ပါတယ်။ အရှင်မြတ်အလိုတော်နှင့် မဒီနာရွှေမြို့ တော်မှ မိတ်ဆွေများလည်း အကူအညီပေးကြပါတယ်။ နမာဇ်အကြိမ် (၄၀) မတ်စ်ဂျိဒေနဗဝီတွင် ဖတ်နိုင်ရန်၊ လွယ်ကူမှုရရှိစေရန် ဒိုအာပြုပါ။ မြန်မာဟာဂျီများ နှစ်စဉ်အလ္လာ့ဟ်လမ်းထွက်သည့်အတိုင်း ထုတ်ပေးပါရန် နှင့် ဆရာကြီးဦးဘသော်နှင့် ဂျမာအသ်တစ်ဖွဲ့ကိုကျောက်ဆည်ဂိုရှ်သို့ပို့ရန် စီစဉ်ပေးစေလိုပါတယ်။ မဒီနာမှ ဂျစ်ဒါ၊ ဂျစ်ဒါမှ ဘန်ကောက်၊ ဘန်ကောက်မှ အချိန်ပေး၍ မလေးရှားသွားရန် အစီအစဉ်ရှိပါတယ်။ အပြန်တွင် အလ္လာဟ်အရှင်မြတ် အလိုတော်တူလျှင် အိန္ဒိယ၊ ပါကစ္စတန် သို့ သွားရန်အစီအစဉ်ရှိပါတယ်။ အလ္လာဟ်အရှင်မြတ် လက်ခံရန် လွယ်ကူရန် အထူးဒိုအာပြုပါ။ **ဗန်ဒဟ်–မုဟာမ္မဒ်ဆွာလေဟ်**

သို့။

မော်လာနာ မဟ်မူးဒ်မာမ်ဆားဆပ်နှင့် သောကရှင် မိတ်ဆွေများ၊

السلام عليكم ورحمة الله وبركاته

မော်လာနာဆပ်နှင့်မိတ်ဆွေအားလုံး၏ ဒိုအာဖြင့် ကျွန်တော်နှင့် တကွ ဂျမာအသ်သားအားလုံး ကျန်းမာစွာရှိကြပါတယ်။ ထိုနည်းတူစွာ မော်လာနာဆပ်နှင့် မိတ်ဆွေအားလုံး ကျန်းမာစွာဖြင့် သာသနာ့အကျိုး သယ်ပိုးနိုင်ရန် အစဉ်ဒိုအာပြုလျက်ရှိပါတယ်။

အရှင်မြတ်၏အလိုတူမှုနှင့် အားလုံး၏ဒိုအာဖြင့် ဒအ်ဝသ်ခရီးစဉ် တွင် ဟာဂျ်ပြုခွင့်၊ ချောမောလွယ်ကူစွာရခဲ့ပါတယ်။ အလ္လာဟ်အရှင်လက်ခံ ကဗူလ်ပြုတော်မူပါစေ။ ဟာဂျ်မှအပြန် ဒအ်ဝသ်ခရီးစဉ်တွင် ထိုင်းနိုင်ငံ၌ ရက်သတ္တပတ်မျှ နေထိုင်ခဲ့ပါတယ်။ ထိုမှတစ်ဆင့် မလေးရှားနိုင်ငံသို့ ထွက်ခွာခဲ့ပါတယ်။ ဗန်ကောက် ဆွန်ဂိုင်ဂလုတ် (မလေးရှားနယ်စပ်) ခရီးစဉ်မှာ ကီလို-၈၀၀ခန့် ရှိပါတယ်။ **ဆွန်ဂိုင်ဂိုလုပ်**တွင် မော်လဝီဖာရှုက်ဆပ်၊ ဟာဂျီအဟ်မဒ်ဆပ်၊ အဗ်ဒွလ္လာဟ်ဘိုင်တို့လာရောက် ကြိုဆိုကာ ဇိုဟိုရ်၊ အဆရ်နမာဇ်၊ နယ်စပ်မရ်ကဇ်ပလီတွင်ဖတ်ခါ မလေးရှားနိုင်ငံသို့ ဗီဇာယူပြီး ဝင်ရောက်ခဲ့ပါတယ်။ မလေးရှားနယ်စပ် မြို့တွင်၂-ရက်ခန့် နေထိုင်ကြိုးပမ်းခဲ့ပါတယ်။ မိတ်ဆွေ ၅-ဦး မလေးရှား တွင်ရှိနေသောရက်၌ အချိန်ပြည့် နှစ်ရသ်ပေးရန် အသင့်ဖြစ်ခဲ့ပါတယ်။ **ကလန်တန်း**နယ်စပ်မြို့မှ ကွာလာလမ်ပူသို့ နံနက် ကား၂-စီးဖြင့် ကီလို-

၅၀၀ ခရီးစခဲ့ပါတယ်။မလေးရှားနိုင်ငံမှာသာယာလှပခန့်ညားသည့်ဗလီကြီးများတွင် နမာဇ်ဖတ်ခွင့်၊ ခေတ္တနားခွင့်ရရှိခဲ့ပါတယ်။

ကွာလာလမ်ပူ သို့ ည–၁၁း၀၀ နာရီတွင် ရောက်ရှိပါတယ်။ ယာယီမရ်ကဇ်တွင် ညအိပ်ခါ မြို့ပေါ်တွင် ၅–ရက်ခန့် အချိန်ပေးခွင့်ရရှိခဲ့ပါတယ်။ အိန္ဒိယဗလီ၊ပါကစ္စတန်ဗလီတို့ကိုသွားရောက်ကာမလေးရှားရောက် မြန်မာနိုင်ငံသားများနှင့် တွေ့ဆုံကြိုးပမ်းခွင့် ရရှိခဲ့ပါတယ်။ ဟာဖိဇ်အိလ်ယားစ်၊ သာဂျဒ်ဒီးန် (၅၂–လမ်း)၊ ဟာနီးဖ်ဘိုင် (လမ်း၃၀)၊ ကိုထွန်းထွန်း၊ဗိုလ်မှူးထွန်းညို၊လူငယ်လူကြီး မိတ်ဆွေတော်တော်များများနှင့် မိုလာကာသ်လုပ်ခွင့် ကြိုးပမ်းခွင့် ရရှိခဲ့ပါတယ်။ မိတ်ဆွေအားလုံးလည်း ဂျမာအသ်ကိုအချိန်ပြည့်၊ အချိန်ပိုင်း အထူးနွစ်ရသ် ပြုကြပါတယ်။ ၃–ရက် ဂျမာအသ်တစ်ခု၊ မြန်မာပြည်မှ မိတ်ဆွေများရဲ့ သီးသန့်ဂျမာအသ်တစ်ခုကို လက်ငင်းထုတ်နိုင်ခဲ့ပါတယ်။ ၎င်းဂျမာအသ်တွင် ဆရာညဏ်မြင့်လည်း ပါဝင်ပါတယ်။ ဗိုလ်မှူးထွန်းညိုအိမ်တွင် သီးသန့်အစီအစဉ်တစ်ခုဖြစ်ခဲ့ပါတယ်။ ဟာနီးဖ်ဘိုင်၊ သာဂျဒ်ဒီးန်ဘိုင်တို့ အိန္ဒိယခရီးစဉ်အတွက် နာမည်ပေးထားပါတယ်။

ကွာလာလမ်ပူတွင်ရှိစဉ် အစီအစဉ်၌ မြန်မာ၊ အုရ်ဒူဖြင့် တင်ပြပြီး၊ မလေးလိုဘာသာပြန်ပါတယ်။မလေးရှားဂျမာအသ်မှာခေတ်ပညာတတ်မိတ်ဆွေ အတော်များပြီး ဒေလီနေဇာမွဒ်ဒီးန်သို့ သကာဇာထား၍ ပြည်ပနိုင်ငံများ၊ထွက်ရန်သရ်ုကီလ် ဖြစ်ပါတယ်။ ယခုလကုန်ပိုင်းတွင် မလေးရှားမှတာဝန်ခံမိတ်ဆွေ(၇၀၀)ကျော် နေဇာမွဒ်ဒီးန်မိုဇာကရာသွားရန်

အစီအစဉ်ရှိပါတယ်။ ကွာလာလမ်ပူ မရ်ကဇ်ဆောက်လုပ်နေသော နေရာကိုလည်း ရောက်ရှိတွေ့မြင်ခဲ့ပါတယ်။ ဂျမာအသ်သား အင်ဂျီနီယာ၊ ပန်းရံဆရာ၊ လက်သမားများဖြင့် အပြင်လူမခေါ်ဘဲ နမာဇ်၊ ဇိက်ရ် ခိဒ်မသ်ဒိုအာ ဖြင့်တည်ဆောက်နေတာကို ဝမ်းသာစရာမြင်တွေ့ရပါတယ်။ (၁၀)ကေရှိတဲ့မြေပေါ်မှာ လူ(၁၀၀၀၀)ကျော် နမာဇ်ဖတ်နိုင်မှာဖြစ်ပါတယ်။ မရ်ကဇ်အစီအစဉ်မှာ တာဝန်ခံလူဟောင်း မိတ်ဆွေများ သီးသန့် အစီအစဉ် များပြုလုပ်ပါတယ်။ ကွာလာလမ်ပူမှကီလို(၅၀၀)ကျော်ဝေးသော ဂျိုဟိုရ် တွင်လည်း ဗယာန်ဖြစ်ပါတယ်။ ဟာဖဇ်ခါနာမှ လူငယ်လေးများမှာ ဂွျဒ်ဘတ်၊ ပကရီဖြင့် လေးလေးစားစား သာသနာ့ပညာ သင်ယူနေတဲ့ မြင်ကွင်းကို မြင်တွေ့ရပါတယ်။ ဒီက မရ်ကဇ်တိုင်းလိုလိုမှာ မဒ်ရဆဟ်၊ ဟာဖိဇ်ခါနာပါ တွဲပြီး ရှိနေပါတယ်။ ဂျိုဟိုရ်မှ ကလန်တန်မြို့တော်ရှိ သာဘာရှူးမရ်ကဇ်သို့ ရောက်ခဲ့ပါတယ်။ ကီလို (၆၀၀)ကျော်ကိုကားဖြင့် ခရီးဆက်ခဲ့ရာလမ်း၌ ဟာဇရသ်ကြီး(رحمة الله عليه)၊မလေးရှားတွင်ပထမဆုံး အုတ်မြစ်ချပေးခဲ့သော မဒ်ရစဟ် ကလန်ဒန် ဟိဖ်ဇ်ခါနာကျောင်းကြီးကိုလည်းဝင်ရောက်ကာ ကျောင်းသားများကို အမှာစကားပြောခွင့်ရရှိပါတယ်။ ဒီကျောင်းအရင် မလေးရှားမှာ ဟာဖိဇ်ခါနာမရှိခဲ့ကြောင်း သိရပါတယ်။ ဂျမာအသ်၏ဗရ်ကသ်ဖြင့် ပြောင်းလဲမှုပုံစံများကိုလည်း မြင်တွေ့ရပါတယ်။ ဒီနေ့ကမ္ဘာ့မြေပုံကို ရှေ့မှာထားပြီးနိုင်ငံခြား တိုင်းပြည်များသို့ သရ်ကီးလ်လုပ်ပို့နေတာ တွေ့ရပါတယ်။ ကျောင်းသားတော်တော်များများကိုလည်း အိန္ဒိယ၊ ပါကစ္စတန်သို့ ပို့ထားပါတယ်။ကျွန်တော်တို့ ဂျမာသ်ကို

မြင်ပြီး မြန်မာနိုင်ငံမှာလည်း ဂျမာသ်လုပ်ငန်းဖြစ်ရဲ့လား၊ ဗလီတွေမဒ်ရစဟ် တွေရှိရဲ့လားလို့ ရိုးသားစွာမေးကြပါတယ်။ ဝမ်းနည်းစရာကတော့ မလေးရှားနိုင်ငံကို မြန်မာနိုင်ငံမှ အလွှာစုံတို့လာရောက်နေကြပေမယ့် ဂျမာအသ်က ယခုမှ ပထမဆုံးရောက်ရှိလို့ပါပဲ၊ အခြေအနေပြောပြတော့ မိတ်ဆွေတော်တော်များများ မြန်မာနိုင်ငံကိုလာရန် စာရင်းပေးကြပါတယ်။

မလေးရှားမှအပြန်ခရီးတွင် ယာလာ၊ ဟတ်ချိုင်၊ ရနောင်းမြို့များ သို့ ရောက်ရှိပါတယ်။ ထိုင်းနိုင်ငံ မြို့များတွင်လည်း မလေးစကား ပြော ပြည်နယ် (၄)ခုသာ ရှိပါတယ်။ အထူးသဖြင့် ယာလာမရ်ကဇ်မှာ အတော်ကြီးပါတယ်။ ဧက(၂၀)ကျော်ကျယ်ပါတယ်။ မရ်ကဇ်ညအစီအစဉ် ကို အစ်ဂျ်တေမာကြီးတွေလို ကွင်းပြင်ထွက်လုပ်ရပါတယ်။ အစီအစဉ်ပြီး သရှ်ကီးလ်မှာ လူ (၄၀)၊ (၅၀)၊ သုံးကျစ်လ္လာအတွက် လက်ငင်းအမည်ပေး ကြပါတယ်။ လူ(၃၀၀၀)၊(၄၀၀၀)အစီအစဉ်မှာပါဝင်ပါတယ်။ အမျိုးသမီး ဂျမာအသ်လည်း ထွက်ပါတယ်။

လက်ရှိကျွန်တော့်ရဲ့ဂျမာအသ် ရနောင်းမှာ ရှိပါတယ်။ ကော့ သောင်းမှမိတ်ဆွေများ သတင်းရသည်နှင့် လာရောက်တွေ့ဆုံ နှစ်ရသ်ပြု ကြပါတယ်။ လက်ငင်းဂျမာအသ်တစ်ခု ရန်ကုန်သို့ လကုန်ပိုင်းတွင် သွားရန် အမည်ရထားပါတယ်။ ကော့သောင်း၊ ချန်းဖန်း၊ ဘုတ်ပြင်းမှ မိတ်ဆွေများ ရန်ကုန်မှဂျမာအသ်ကို အထူးမျှော်လင့်နေကြပါတယ်။ မရ်ကဇ်မှ ကျစ်လ္လာဂျမာအသ် ပို့ပေးစေလိုပါတယ်။ ကျွန်တော့်ရဲ့ပတ်စ်ပို့ဒ် မလေးရှားနိုင်ငံ မြန်မာသံရုံးမှာ ဆော်ဒီ၊ အိန္ဒိယ၊ ပါကစ္စတန်၊

ဘင်္ဂလားဒေ့ရှ် နိုင်ငံတိုးခွင့်လျှောက်ရာ အရှင်မြတ်အလိုတော်နှင့် ရခဲ့လျှင် ထိုနိုင်ငံများသို့သွားကြပါမယ်။ မဲဆောက်၊ မဲဆိုင် ခရီးစဉ်ပြီးလျှင် အိန္ဒိယ၊ ပါကစ္စတန် သွားရန်ရှိပါတယ်။ လွယ်ကူမှုနှင့် အရှင်မြတ်လက်ခံကဗူလ် ပြုရန် အထူးဒိုအာပြုပါ။ ဟာဂျီဟူစိန်သား အာရစ်ဖ်ဘိုင်ကို ဘန်ကောက်သို့ ရှေ့ခရီးစဉ်လိုက်ရန် ပို့ပေးစေလိုပါတယ်။ ကော့သောင်းမှမိတ်ဆွေများ ပြောပြချက်အရ မော်လာနာမာမွတ်မာမ်ဆာဆပ်နှင့် မော်လာနာအယားဇ်ဆပ် ရေနံချောင်းခရီးစဉ်သွားနေသည်ကို သိရ၍ အထူးဝမ်းသာပါတယ်။ ဟာဂျီများဂျမာအသ်ကိစ္စ၊ လက်ပံဂျိုရ်၊ ရန်ကုန်လုပ်ငန်း၊ ကာရ်ဂိုဇာရီကို သိလိုပါတယ်။ ဗန်ကောက်သို့ ကာရ်ဂိုဇာရီ ရေးပို့ပေးစေလိုပါတယ်။

အလ်ဟမ်ဒုလစ်လ္လာ၊ ‘ဒီနေ့မလေးရှားနိုင်ငံနဲ့ ထိုင်းနိုင်ငံမှာ မြင်တွေ့ရတဲ့ သာသနာ့ကြိုးပမ်းမှုမြင်ကွင်းကို မြင်တွေ့ရပြီး အထူးအားရကျေနပ်မိပါတယ်။ အလ္လာဟ်အရှင်မြတ် မြန်မာနိုင်ငံကိုလည်း လက်ခံကဗူလ်ပြုတော်မူပါစေ။ အာမီးန်း၊ မိတ်ဆွေများလည်း ဒိုအာပြုပါ။ ဒေါက်တာစချစ်ပွင့်၊ ဟာဂျီအဟ်မဒ်(မြဝတီ)၊ ဟာဂျီယအ်ကူဗ်တို့ မလေးရှားမှ မြန်မာနိုင်ငံကို ပြန်ကြပါတယ်။ ဒေါက်တာဆပ် ကျန်းမာရေး သိပ်မကောင်းပါ။ ဒီ့အတွက်ပြန်ခွင့်ပြုလိုက်ပါတယ်။လက်ရှိကွျန်တော်နှင့် မော်လာနာ အိဒ်ရီးစ်၊ အာရစ်ဖ်ဘိုင်၊ ဟာဂျီအဗ်ဒွလ်လတီးဖ် (မယ်ဆိုင်)၊ တို့ခရီးဆက် ရန်ရှိပါတယ်။ ဟာဂျီအဟ်မဒ် ချယ်ရီမြိုင်စတိုးနှင့် ဟာဂျီအဟ်မဒ် (ကော့သောင်း) တို့ကလည်း ဆန္ဒပြုထားပါတယ်။ ဗီဇာအဆင်ပြေလျှင်လိုက်ရန်ရှိပါတယ်။ ပြီးခဲ့သည့်ခရီးစဉ်ကို လက်ခံကဗူလ်

ပြုရန်နှင့် ရှေးခရီးစဉ်ကို ကျန်းမာစွာနှင့် အဆင်ပြေလွယ်ကူမှုရှိရန် အထူးဒိုအာပြုပေးပါ။ နယ်မှဂျမာအသ်အမီရ်များနှင့် မိတ်ဆွေများကို ကျွန်တော့်ဖက်မှ စလာမ်ဆိုပါတယ်။ ကာရီဆပ်နှင့် ဂေါပကအဖွဲ့မှ မိတ်ဆွေများကို စလာမ်ပြောပါ။ အဗ်ဒွလ်ဟမီးဒ်ဘိုင်၊ အဗ်ဒွလ်မဂျီးဒ်ဘိုင်၊ စစ်ဒီးက်ဘိုင်၊ ဒေါက်တာယူစွဖ်၊ ဟာဂျီဟူစိန်၊ ဟာဂျီဘနီ၊ ဟာဂျီဒါဝူးဒ်ကရ်ဝါ၊ ဟာဖိဇ် ဂျဟာန်ဂီရ်၊ အန်ဝရ်ဘိုင်၊ ဘာဘူဘိုင်၊ အန်ဝရ်ဘိုင် (သဃာန်းကျွန်း) ဘာဘူဘိုင် (လင်းစ်ဒေါင်း) နှင့် ကျန်မိတ်ဆွေအားလုံးကို စလာမ်ပြောပါ။

ဆဖရ်လ (၂) ရက်
၁၃ – ၈ – ၁၉၉၁
မှ/ မော်လာနာ မုဟမ္မဒ်ဆွာလေဟ်
ခေတ္တ – ရနောင်း

# ရှေ့ခရီး စဉ်

(၁၉၉၁)ခုနှစ် အိန္ဒိယ၊ ပါကစ္စတန်ခရီးစဉ်တွင် မဇာဟိရ်အိုလူမ်၊ ဒါရွလ်အိုလူမ်ဒေယိုဗန်ဒ်၊ ရိုင်ပူရ်၊ ဂျလာလ်အာဗာဒ်၊ ထနာဗဝန်ဂန်ဂိုး သို့ရောက်ခဲ့တယ်။

မော်လာနာမုဟမ္မဒ်သလ်ဟာ၊ မွဖ်သီ မဟ်မူဒွလ်ဟစံ(ဒေယိုဗန်) မော်လာနာ အပ်စ်အဒ်မဒနီ၊ မော်လာနာမုဇဖ်ဖရ်ဟူစိန်၊ မော်လာနာ မစီဟွလ္လာခန်၊ မက္ကာဟ်မှာ မော်လာနာ အဗ်ရာရွလ်ဟပ်က်၊ မော်လာနာ

ဟာကီးမ် အဓ်သရ်ဆပ် စသည့်အာလင်မ်များနှင့် ဆုံတွေ့ပါတယ်။

ရိုင်ဝါန်အိဂ်ျသိမာ၊ တုံကီအိဂ်ျသိမာ၊ ဒေလီအိဂ်ျသိမာတွင်လည်း တက်ရောက်ခွင့်ရရှိပါတယ်။

## အကာဗိရ်များ၏ပေးစာများ

၁၉၇၁၊ ဒီဇင်ဘာလ၊ ၁၃–ရက်
ဟစ်ဂ်ျရီ ၁၃၈၁ ခုနှစ်

**ဟဇရသ်ကြီးထံမှ**

လေးစားအပ်သော မော်လာနာ မုဟမ္မဒ်ဆွာလေဟ်နှင့်မိတ်ဆွေများထံ–

وفقنا الله وایاکم لما تحب وترضی

السلام علیکم ورحمة الله وبرکاته

အသေးစိတ်ပေးစာ ရရှိပါ၏။ အရှင်မြတ်မှ တိုးတက်မှုများကို ချီးမြှင့်တော်မူပါစေ။ အခက်အခဲ များကို ဖယ်ရှားပြီး လွယ်ကူမှုများကို သတ်မှတ်တော်မူပါစေ။

အရှင်မြတ်ဘက်သို့ အာရုံပြုကြရန် အလွန်လိုအပ်ပါ၏။ ဒိုအာစံချိန်ကိုလည်း မြှင့်ရပါမယ်။ သို့မှသာ ဟေဒါယသ်ရဲ့တံခါးများကို အရှင်မြတ် ဖွင့်ပေးတော်မူမယ်။ မဲဟ်နသ်ဖြစ်နေကြောင်း၊ လူတို့ပါဝင်လာကြောင်းကို အရှင်မြတ် ကဗူလ်ပြုတော်မူပါစေ။ ဒီးန်နှင့်အွမ္မသ်လန်းဆန်းရာအကြောင်း

ကို ဖော်ထုတ်ပေးတော်မူပါစေ။ မိတ်ဆွေများကို မကာမိကြိုးပမ်းမှုအတွက် အထူးအာရုံလှည့်ပေးရပါမယ်။ ဒါမှ ပတ်ဝန်းကျင်သည် ဒီးန်လေးစားရာဖြစ်လာပြီး လူမှုကျင့်ဝတ်လုပမှုကို မြှင့်တင်နိုင်ပါလိမ့်မယ်။

ထိုင်းအစ်ဂျ်သိမာမှာ ခင်ဗျားက သကာဇာတောင်းခံခဲ့ပါတယ်။ သို့သော် ကျွန်တော်များရဲ့လုပ်ငန်း များပြားရှုတ်ထွေးမှုနှင့်အခြားသကာဇာများလည်း ရှိနေသဖြင့် မည်သူ ၂ ရောက်ဖြစ်မည် မဟုတ်တော့ကြောင်း တောင်းပန်သောအားဖြင့် အသိပေးပန်ကြားအပ်ပါသည်။

فقط

ဟာဇရသ်ကြီး

စာရေးသူ အိဗ်ရာဟီးမ် ခေတ္တ ဘိုပါလ် အိဂျ်သေမာ

---

## ဘင်္ဂလာဝါလီမပ်စ်ကျစ်ဒ်

၁၄၁၃၊ ရဂျဗ်၊ ၁၈–ရက်

၁၉၉၃၊ ဇန္နဝါရီ၊ ၁၂–ရက်

လေးစားအပ်သော မော်လာနာ မုဟမ္မဒ်ဆွာလေဟ်

وفقنا اللهُ وایاکم لما تحب و ترضی

السلام علیکم ورحمة اللهِ وبرکاته

ခင်ဗျားရဲ့ပေးစာကို ဟိဂ်ျရီ၊ ၁၄၁၃ခုနှစ်–ဂျူမာဒတ်စ်စာနီ၊ (၂၄) ရက်နေ့က လက်ခံရရှိပါတယ်။ မိတ်ဆွေများနယ်မှာ ဒအ်ဝသ်လုပ်ငန်းရဲ့

အခြေအနေနှင့် ကာရ်ဂုဇာရီသိရပါတယ်။ မိတ်ဆွေများ၏ ကြိုးပမ်းမှုရဲ့ အသီးအပွင့်များကို ဝေဆာမှု ချီးမြှင့်တော်မူပါစေ။

နည်းလမ်းမှန်မှန် အိုစူလ်နှင့်တကွ ကြိုးပမ်းလျက် လုပ်ငန်းအခြေခိုင်၊ တိုးတက်မှုကို အကောင်းဆုံးဖြစ်အောင် စီစဉ်ပေးတော်မူပါစေ။

တရုပ်နယ်စပ်ရဲ့ ဒီန်ကြိုးပမ်းမှုအခြေအနေကိုလည်း သိရပါတယ်။ ကြိုးပမ်းပြီး အဲဒီနယ်ရဲ့ မိတ်ဆွေများကို မိမိပတ်ဝန်းကျင်သို့ ခေါ်၍ ဒီးန်ရဲ့အရေးကြီးတဲ့ အချက်များကို သင်ကြားနားချရန် ကြိုးစားကြစေလိုပါတယ်။

မိတ်ဆွေများ နယ်တွေရဲ့ လတ်တလောအခြေအနေနဲ့ စပ်လျဉ်းပြီး မေးမြန်းထားတာကို ဖြေကြားလိုက် ပါတယ်။ သီးခြားစီပို့တဲ့ စာနှစ်စောင် စလုံးလည်း လက်ခံရရှိပါတယ်။

ကြိုးပမ်းတဲ့နေရာမှာ အရှိန်အလျော့လျက် ထိပ်တိုက်ရင်ဆိုင် တိုးတဲ့ သဏ္ဌာန်မျိုးလည်း မဖြစ်စေရဘူး။ ဥပဒေကိုထိပါးစရာလည်းမဖြစ်စေရဘူး။

အရှင်မြတ်– မိတ်ဆွေများကို အပြည့်အဝ ကူညီတော်မူပါစေ။ အိခ်လာဆ္ဂနှင့်အိစ်သိကာမသ်လည်း ချီးမြှင့်တော်မူပါစေ။

فقط والسلام

**ဟာဇရသ်ကြီး**

စာရေး–မုဟမ္မဒ်ဂဇာလီ

၁၄၁၄၊ ရမဇာန် ၁၀ ၁၉၉၄၊ ဖေဖော်ဝါရီ၊ ၂၂–ရက်

## ဟာဇရည်ထံမှ အကာဗိရ်များထံသို့ပေးစာ

၁၉၈၇၊ အောက်တိုဘာလ–၁၈ ရက်

**ဂုဏ်ပေးလေးစားအပ်ပါသော–**

**ဟာဇရည်ကြီးမော်လာနာအင်နာအာမ္ဗလ်ဟာစ်**

**ဒါမသ်ဗရကာသုဟွန်မ်**

السلام علیکم ورحمة اللہ وبرکاته

မက္ကာဟ်ရွှေမြို့တော်မှ လှူကြဲဖြင့်ပါးလိုက်သော စာလွှာကိုရရှိ၍ များစွာဝမ်းသာမိပါတယ်။ ဟာဇရည်၏ မုဂျာဟာဒဟ်နှင့်ပေါင်းစပ်ထားသော ဒါအီ၏သက်တမ်းကို အရှင်မြတ် ဘရကာသ်ပေးတော်မူပါစေ။

အလ်ဟာမ်ဒုလစ်လ္လာဟ်၊ ရန်ကုန်မြို့အသီးသီးတွင် 'မတ်စ်ဂျစ်ဒ်ဝါရ်' ကြိုးပမ်းမှုများ ဖြစ်နေပါတယ်။ ဂျမာအသ်အသီးသီးလည်း 'မတ်စ်ဂျစ်ဒ်ဝါရ်'ကြိုးပမ်းမှုနှင့် နူရာနီပြည့်ဝသော အမလ်များကို ယူဆောင်လျက်သွားလာ ကူးလူးလျက်ရှိပါတယ်။ ရန်ကုန်မှမိတ်ဆွေများသည် ၎င်းတို့ထံအခါအားလျော်စွာ နှစ်ရည်ပြုသောအားဖြင့် ၎င်းတို့နှင့်အတူ ကျစ်လ္လာပေးရန်အတွက် သွားကြပါတယ်။ နယ်မှသာသနာ့သောကရင် မိတ်ဆွေများလည်း (၁၀)ရက်မျှအချိန်ယူ၍ ရန်ကုန်မရ်ကဇ်သို့ လာကြပါတယ်။ မရ်ကဇ်တွင်ညအိပ်ခွင့်မရသဖြင့် ပတ်ဝန်းကျင်ဗလီများတွင်ညအိပ်ကာနံနက်ဖဂျရ်အချိန်မရ်ကဇ်သို့လာကြပြီးနေ့ပိုင်းအစီစဉ်တွင်ပါဝင်၍ဟာယာသွစ်ဆွဟာဗဟ်နှင့် ဒိုအာပြီးဆုံးပါက ထိုဗလီများသို့ ပြန်သွားကြပါတယ်။

များစွာသောမွတ်စလင်မ်ညီနောင်များသည် လုပ်ငန်းအပေါ် အမြင်ကြည်ပါတယ်။ နယ်အသီးသီးမှာ မရှ်ဝရာ၊ သအ်လီးမ်၊ အိဂ်ျသိမာ၊ သုံးရက်အမလ်များ လည်ပတ်နေပါတယ်။ အရှင်မြတ်သည် မိမိကျေးဇူးတော်ဖြင့် ကဗူလ်ပြုတော်မူပါစေ။ အတွင်းအပြင်ကို အစ္စလာဟ်ပြုပေးတော်မူပါစေ။ လျှော့နည်းချွတ်ချော်မှုများကို ပလပ်တော်မူပါစေ။

သို့ရာတွင် အချို့မွတ်စလင်မ်ညီနောင်များသည် အခြေအမြစ်မရှိသော စွတ်စွဲချက်များနှင့်တကွ ကျွန်တော်များကိုဆန့်ကျင်၍ စာတိုစာရှည်များရေးတင်နေပါသည်။ သက်ဆိုင်ရာကလည်း မကြာခဏ လာရောက်စစ်ဆေးသောအခါ တိုင်ချက်နှင့်မပတ်သက်သော အချက်များကိုသာတွေ့ရပါတယ်။ အထူးသဖြင့် မွဖ်သီဆပ်နှင့်ကျွန်တော့်ကို ဆန့်ကျင်သူများက''ဤပုဂ္ဂိုလ်နှစ်ဦးသည် ဘာသာရေးဘန်းပြပြီး သူပုန်နှင့်ဆက်သွယ်ကာနိုင်ငံရေးလုပ်နေသည်ဟု တိုင်ချက်ရေးတင်ကြပါတယ်။ ထို့ကြောင့်သက်ဆိုင်ရာမှ အိုလမာရုံးခန်းတွင် ကျွန်တော်တို့နှစ်ဦးကို သီးခြားစီ ခေါ်တွေ့ပြီးစစ်ဆေးကြပါတယ်''

မည်သို့ပင်ဖြစ်စေ၊ ဟာဇရသ်ဘက်မှ ယခုအတိုင်း ဒိုအာချီးမြှင့်နေပါ။ လုပ်ငန်းနှင့် လုပ်ငန်းတွင်ပါဝင်နေသူများအား မတရားကြံစည်သူများ၏ကြံစည်မှုမှ ကာကွယ်တော်မူပါစေ။ နဖ်စ်နှင့် ရှိုင်သွာန် လက်ထဲသို့လည်း ထည့်မပေးပါစေနှင့်။

ကျွန်တော်တို့၏မိတ်ဆွေဟာဂျီဂုလာမ်ဟုစိန် စူစိဝါလာ ကွယ်လွန်သွားပါတယ်။ မဂ်ဖိရသ်အတွက် ဒိုအာတောင်းပေးပါ။

အင်ရှာအလ္လာဟ်၊ ၁၉၈၇–အောက်တိုဘာ(၂၀)ရက်၊ တနင်္လာနေ့ ကျွန်တော် ဒုတိယမျက်စိခွဲရန် စီစဉ်ထားပါတယ်။ ကျန်းမာရေးရရစေဖို့ ဒိုအာတောင်းပေးပါရန်အကြောင်း လျှောက်ထားပါတယ်။

ဟာဇရသ်ကြီးနှင့်အတူရှိသော မော်လာနာအုမရ်ဆပ်၊ မော်လာနာ အုဗိုင်ဒွလ္လာဟ်ဆပ်၊ မော်လာနာ စုလိုင်မာန်ဆပ်၊ မော်လာနာ ဒါဝူဒ်ဆပ် နှင့် အသင့်ရှိနေသူများအား စလာမ်ဆိုကြောင်း ရန်ကုန် မိတ်ဆွေများက လည်း စလာမ်ဆက်သကြပါတယ်။

ထိုင်ဝိုင်းတွင် မော်လာနာ မာမွတ်မာမ်ဆာနှင့် မော်လဝီအိဒ်ရိစ် တို့ရောက်ရှိနေပါက ၎င်းအားလည်း စလာမ်ပြောပါ။

လေးစားစွာဖြင့်

ဗန်ဒဟ်–မုဟမ္မဒ်ဆွာလေဟ် (မဇာဟေရီ)



## ဟာဇရသ်ရှိင်ခွလ်ဟာဒီးစ်ထံမှ

ဟဂ်ျရီ–၁၃၈၁၊ ဇိလ်ကအ်ဒဟ် (၅)ရက်

၁၉၆၄၊ ဧပြီလ(၂၉)ရက်

လေးစားအပ်သော မော်လာနာ မုဟမ္မဒ်ဆွာလေဟ်

စလာမ်မပ်စ်နူးန်

မနေ့က ဖရီဒီဆပ်ရဲ့ အသေးစိပ်စာတစ်စောင် ရရှိပါတယ်။ ရန်ကုန်ရောက်တဲ့ အခြေအနေအရပ်ရပ်ရေးထားပါတယ်။ အယ်ဒီအချိန်မှာပဲ ကိုယ့်အနီး ဘယ်သူမှလည်း မရှိတာနဲ့ ကိုယ်တိုင်ပဲရေးလိုက်တယ်။

စာထဲမှာ မေ(၆)ရက်နေ့ ပြန်မဲ့အကြောင်း ပြန်စာကို ဒါကာရဲ့လိပ်စာနဲ့ ပို့ရမယ့်အကြောင်းရေးထားတယ်။ ပြန်စာသည်လည်း ရန်ကုန်မိတ်ဆွေနဲ့ပတ်သက်နေတော့ဒါကာပို့ရင်လည်းအချည်းနှီးသာဖြစ်မည်စိုး၍မော်လာနာဆပ်ထံသို့ပင် ပို့လိုက်ရပါတယ်။မိတ်ဆွေများကိုလည်းဖတ်ပြပါ။

(အဲဒီစာကိုတစ်ဘက်တွင်ဖော်ပြထားပါသည်။)

فقط والسلام

စဟာရန်ပူရ်



# ဟာဇရည်ရှိင်ခွလ်ဟာဒီးစ် မော်လာနာ မုဟာမွဒ် ဇကာရိယာဆပ် ထံမှ–

၂၉ ဧပြီလ ၁၉၆၄

၅ ဇီကအ်ဒဟ် ၁၃၈၁

မော်လာနာ မုဟာမွဒ် ဆွာလေဟ်မှတစ်ဆင့် လေးစာအပ်သော အလ်ဟာဂျ်အိဗ်သိခါရ်ဖရီဒီဆပ်ထံ–

စလာမ်မာစ်နူးန်နှင့်တကွ

စာရှည်တစ်စောင်ရရှိပါတယ်။ အံ့သြမိပါတယ်။ ယနေ့အထိ မော်လာနာ မုဟာမွဒ် ဆွာလေဟ်ရဲ့ ပေးစာများအရ ရန်ကုန်ရှိ ကျွန်ုပ်၏ မိတ်ဆွေများသည် သဗ်လီဂ်ဂျမာအသ်ရဲ့ ဒအ်ဝသ်ကြိုးပမ်းမှုတွင် ကြိုးစားလုံးပန်းနေကြကြောင်း၊ သို့သော် မိတ်ဆွေ၏စာအရသိရသည်မှာ အချို့မိတ်ဆွေများက သဗ်လီဂ်သည် သအ်လီမ်အတွက် အဟန့်အတားဖြစ်သည်ဟု ယူဆနေကြတယ်။

ထို့ပြင် မဇာဟိဗ်ရဲ့ အကာဗိရ်များကလည်း ဤသို့ပင် ခံယူထားသည်ဟု ၎င်းတို့၏အတွေးအခေါ်မှာလည်း အံ့အားသင့်စရာဖြစ်နေသည်။ ဤသည် အထင်အမြင်မှားသည့်အပေါ်မူတည်သည်။

ဤကြိုးပမ်းမှုသည် ဒီးန်နှင့်အိလ်မ်ကဲ့သို့ပင်။ ဤခေတ်သမယမှာ ယင်းအမလ်များထက်ပင် ပို၍အရာအရောက်ပေသည်။

စင်စစ်ထိုပုဂ္ဂိုလ်များ စဟာရန်ပူရ်တွင်ရှိစဉ်က ဤလုပ်ငန်းသည်အစပြုရုံသာရှိ၍ ခမြာရှာများမိတ်မဖြစ်ခဲ့ပေ။ ယခုဆိုရင် မဇ္ဇာဟေရွလ်အုလူမ်

ဒါရှလ်အိုလူမ်ဒေယိုဗန် နဒ်ဝသွလ်အိုလမာစသည့် ကျောင်းကြီးများမှာ ဒီ လုပ်ငန်းဟာ အလွန်တွင်ကျယ်လျက်ရှိပါတယ်။

အထက်ပါကျောင်းများနှင့် အခြားကျောင်းများမှ အထူးသဖြင့်ရမဇာန် အီဒ် ပိတ်ရက်များမှာဦးရေ အများအပြား နေဇာမွဒ်ဒီးန် သွားလေ့ရှိကြပါ တယ်။

ယခုလည်း မဇ္ဇာဟောရီမှ ဦးရေ (၄၀)ဒေယိုဗန်မှ ဦးရေ (၁၀၀) နဒ်ဝါမှ ဆိုရင် ကျောင်းသားနှင့်ကျောင်းဆရာများပင် ဂျမာအသ်ကြီး များနှင့်တကွ ဒေလီနေဇာမွဒ်ဒီးန်သွားကြပါတယ်။

အထက်ပါ သုံးကျောင်းမှ ကျောင်းသားများသည် ကြာသပတေး ညနေမှ ဂျမာအသ်ငယ်များစီစဉ်ပြီး ပတ်ဝန်းကျင် ကျေးရွာများသို့ ထွက် နေသည်မှာ ကာလကြာညောင်းခဲ့ပါပြီ။ ယင်းဂျမာအသ်များသည် သောကြာနေ့ ညနေ၊ သို့မဟုတ် စနေနေ့မနက်ကို ပြန်လာကြပါသည်။

မွဖ်သီဆပ်သည် ဟဂ်ျသို့အသွားတွင် ဒီမှာတစ်ညအတွက် ကြွလာ သေးတယ်။ ၎င်းက ရန်ကုန်လုပ်ငန်းအသက်ဝင်တိုးတက်လာပုံ၊အိဂ်ျသိမာ ဖြစ်ချင်တဲ့ဆန္ဒ၊ ယင်းအိဂ်ျသိမာသို့ မော်လာနာယူစွဖ်ဆပ် ကြွရောက်ပါ ဝင်ရန် အထူးလိုအပ်ကြောင်းများကို တင်ပြသွားပါတယ်။

ကျွန်တော်နှင့်မွဖ်သီဆပ်အကြားစကားစမြည်ပြောနေပုံအရ ၎င်းမှာ အလွန်ပင်သောကရှိနေကြောင်း ယူဆမိပါတယ်။

မည်သို့ပင်ဖြစ်စေ၊ ကျွန်ုပ်နှင့်မဇာဟိရ်ရဲ့ အကာဗိရ်များဘက်မှ ၎င်းတို့ အား ပြောကြားစေလိုသည်မှာ ဒီးန်ကင်းမဲ့ပြီး ပြဿနာထူပြောကာ အမိုက်

မှောင် ဖုံးလွှမ်းသောခေတ်မှာ ဒီလုပ်ငန်းရဲ့ လိုအပ်ချက်သည် အလွန့် အလွန်ပြင်းထန်လာပေပြီ။ မဒ်ရစဟ်များတိုးတက်ရေးအတွက် အဝါမ်များ သည် ဒီးန်နှင့်ဆက်နွယ်နေဖို့ လွန်စွာအရေးကြီးပါတယ်။ အဝါမ်၌ ဒီးန်ရဲ့အာရုံကင်းမဲ့နေရင် မဒ်ရစဟ်ကို ကူညီဖို့ ဘယ်လိုအာရုံဝင်နိုင်မှာလဲ။ ကိုယ်သားသမီးကို ဒီးန်ရဲ့ပညာသင်ပေးဖို့ စွဲလမ်းစိတ်လည်းရှိမှာမဟုတ် သလို မိမိနှင့်အရှင်မြတ်အကြားဆက်သွယ်မှု အစဉ်အမြဲရှိနေရန် ခါန်ကာဟ် သို့လည်း သွားကြမည်မဟုတ်ပေ။

မော်လာနာအလီမြားဆပ် နဒ်ဝီ၊ မော်လာနာမန်ဇူရ် နွအ်မာနီတို့ ဆိုရင် သူတို့ကျောင်းသားများကို နေဇာမွဒ်ဒီးန်သို့ အမြောက်အများ ရောက်ရှိသွားကြရေးကို အလွန်ပင်ကြိုးစားအားထုတ်ကြပါတယ်။

မွဖ်သီဆပ်ကတော့ အိဂ်ျသိမာအတွက် အားတက်သရော တိုက်တွန်း လောက်ခံသွားပါတယ်။ သို့သော် မွဖ်သီဆပ်ကို ကျွန်တော်ပြောခဲ့တာက 'တစ်နေရာရာမှာ လုပ်ငန်းတောင့်တင်းကြံ့ခိုင်ရန် အတွက် အိဂ်ျသိမာဖြင့် အကျိုးအမြတ်ဤမျှမဖြစ်ထွန်းပေ။ အဘယ်မျှဆိုမူ လူတို့သည် အနည်း ဆုံး ကျစ်လ္လာအတွက် နေဇာမွဒ်ဒီးန်သို့ လာရောက်ခြင်းဖြင့် မြတ်နိုးဖွယ် အကျိုးထူးများ ရရှိဖြစ်ထွန်းလာပေသည်။

အိဂ်ျသိမာကြောင့် လူတို့အတွင်းဝယ် လုပ်ငန်းရဲ့ သိကျွမ်းမှုများစွာ ရကြသော်လည်း နေဇာမွဒ်ဒီးန်တွင် အချိန်ပေးကာ လုပ်ငန်းတွင်ပါဝင် ခြင်းဖြင့် လုပ်ငန်းရဲ့ရသနှင့် စွဲလန်းမှုများ ကိန်းဝတ်သွားကြောင်းကို အတွေ့အကြုံများအရ သိရှိခံယူထားပါတယ်။ ဒီစကားတွေကို မွဖ်သီ ဆပ်မှတဆင့် ရန်ကုန်ရှိမိတ်ဆွေများအားအကြံပြုလိုကြောင်း မှာကြားလို

ပါတယ်။ ဒါကြောင့်မို့ ဦးရေနည်းသည်များသည်ဖြစ်စေ တတ်နိုင်သမျှ ပုဂ္ဂိုလ်များကို ရက်ပိုင်းပင်ဖြစ်စေ နေဇာမွဒ်ဒီးန်သို့ သွားဖြစ်အောင် ကြိုးစားစေလိုပါတယ်။ ဒီလို အစဉ်မပြတ်အစဉ်အဆက်ထားသောကြောင့် လုပ်ငန်းခိုင်ခန့် အခြေတည်သွားတာကို မြင်တွေ့ရပါတယ်။

မနေ့က မော်လာနာ ယူစွဖ်ဆပ် နေကာဟ်တစ်ခုမှာ ပါဝင်ရန်ရောက် လာတယ်။ ၎င်းနှင့်အတူ ဟာဂျီ အိဗ်ရာဟင်မ် ဂျဗ္ဗားရ်ဆပ်လည်းလိုက်ပါ ခဲ့တယ်။ ၎င်းက ဆူဒန်နှင့်အီဂျစ်က ဂျမာအသ်ကြီးတစ်ဖွဲ့ တစ်လအတွက် ပါကစ္စတန်နှင့် နေဇာမွဒ်ဒီးန်သို့လာကြလိမ့်မယ်။

နာဇင်မ်ဆပ် (မော်လာနာ အပ်စ်အဒွလ္လာဟ်) ကလည်း ခင်ဗျားရဲ့စာ ကို နားထောင်ပြီး အတူယူသွားပါတယ်။ ဤစာနှင့်အတူ မိတ်ဆွေရင်း များအတွက် ပူးတွဲစာတစ်စောင်ရေးထားတယ်။ ၎င်းတို့ထံ ပို့ပေးစေလိုပါ တယ်။ မိတ်ဆွေများထံ ဗန္ဒဟ်ဘက်မှ စလာမ်မပ်စ်နူးန်။ ဒီစာကို ဖတ်ပြ လိုက်ပါ။

فقط والسلام

ဇကရိယာ မဇာဟိရ်အိုလူမ်

ဇိကအ်ဒါဟ် ၅ ရက် ၁၃၈၀ ဟိဂ်ျရီ

# ဟာဇရေသ်မော်လာနာ ခအီးဒ်အဟ်မဒ်ခန်းဆပ်ထံမှ ဟာဇရေသ်အမီးရ်ဆပ် ထံသို့ ပေးစာ

ဂုဏ်ပေးလေးစားအပ်ပါသောမိတ်ဆွေ -

السلام عليكم ورحمة الله وبركاته

မိတ်ဆွေ၏ပေးစာကိုရပါတယ်။ လုပ်ငန်းနှင့်ပတ်သက်ပြီးအကျယ်ကိုသိရ၍ အထူးဝမ်းသာပါသည်။ အလ္လာဟ်အရှင်မြတ်သည် အစ်ခ်လားစ်နှင့် လုပ်နေနိုင်သောသောင်ဖီးက်ချီးမြှင့်ပေးသနားတော်မူပါစေ။အစ်ခ်လားစ်မပါသောအလုပ်ဟာ အချည်းအနှီးဖြစ်သွားတတ်ပါတယ်။ သို့ဖြစ်၍ပြည့်ဝသော အစ်ခ်လားစ်နှင့်ပြုလုပ်နိုင်ရန်ကြိုးပမ်းသင့်ပါတယ်။ အူစူလ်စည်းကမ်းကိုလည်း လိုက်နာရန်အရေးကြီးပါတယ်။ တတိယအချက်ကအိက်ရာမ်ဖြစ်ပါတယ်။ အာလင်မ်များ၊ မရှာအိခ်များထံသွား၍ ဒိုအာတောင်းခိုင်းခြင်း၊ အများမွတ်စ်လင်မ်များကို ဒအ်ဝသ်အကြောင်းခံ၍ ၎င်းတို့အားဆက်သွယ်ပြီး အိက်ရာမ်ဂုဏ်ပေးကာ လျှောက်လှမ်းခြင်း၊ အူစူလ်စည်းကမ်းကိုလိုက်နာခြင်း၊ ဤအချက်တို့သည် အရေးကြီးသောအချက်များဖြစ်ပါတယ်။ တစ်ဦးတစ်ယောက်ဘက်မှ တစ်စုံ တစ်ရာနစ်နာဆုံးရှုံးမှုဖြစ်လာလျှင်လည်း ဒအ်ဝသ်ကိုအကြောင်းခံ၍ ထိုသို့သောသူကိုလည်းအိက်ရာမ်လုပ်ရမည်ဖြစ်သည်။ အရေးကြီးဆုံးအချက်ကတော့ မိမိအဖော်များနှင့် စုစည်းညီညွတ်မှုဖြစ်ပါသည်။ အကြွင်သူဟာ စုစည်းညီညွတ်သောစိတ်ဓာတ်ဖြင့် အားလုံးကိုလက်တွဲပြီး ဆောင်ရွက်၍ လျှောက်လှမ်း

သူဖြစ်လာပါက ထိုသူသည် ဤလမ်းကြောင်းတွင် အောင်မြင်သူ ဖြစ်ပေသည်။ ဒါအီ၏အကြီးဆုံးအရည်အချင်းက ဆန့်ကျင်သူကို ထောက်ခံလက်ခံလာသူဖြစ်အောင်ပြုလုပ်နိုင်ခြင်းဖြစ်ပါသည်။ ရန်သူကို မိတ်ဆွေဖြစ်အောင် ပြုလုပ်ခြင်းကို ကျမ်းမြတ်ကုရ်အာန်၏ ကိုယ်ကျင့်တရားကောင်းများအာယသ်တွင် ဖော်ပြထားပါတယ်။

သို့ဖြစ်၍ ဤအချက်ကိုရရှိစေရန် လေ့ကျင့်နေဖို့ အရေးကြီးပါတယ်။ မည်သူတစ်ဦးတစ်ယောက်ကိုမျှ မိမိ၏နှုတ်မှ အတိုက်အခံလုပ်ငန်းကိုဆန့်ကျင်သူဟု မပြောဆိုမိဖို့အရေးကြီးပါတယ်။ ကျွန်တော့်မိတ်ဆွေ အမြင်မရှင်းတာ၊ အမြင်မှားသွားတာဖြစ်တယ်ဟု ပြောဆိုသင့်ပါသည်။ ကျွန်ုပ်တို့၏အခြေအနေမှာ စိတ်ချရသောအခြေအနေ မဟုတ်သေးပါ။ ကျွန်ုပ်တို့သည် အလ္လာဟ့်လမ်းမှာထွက်ပြီး တွေ့ဆုံနေမယ်ဆိုရင် အထင်မှား၊ အမြင်မှားမှုတွေဟာ ပျောက်ကင်းသွားမှာဖြစ်ပါတယ်။ မကောင်းထင်မြင်မှုကို အကောင်းထင်မြင်မှုအဖြစ်၊ မိမိနှင့်ညီနောင်များအကြား ရှိုင်သွာန်၏ထိုးနှက်ချက်ဟုမှတ်ယူ၍ ၎င်းတို့ကို ခွင့်လွှတ်နေပါ။ နမားဇ်ကိုများစွာလေ့ကျင့်ကြိုးစားနေပါ။ ရှုကူအ်လည်းရှည်ရမည်။ စဂျ်ဒဟ်လည်းရှည်ရမည်။ ကောင်မဟ်နှင့် ဂျလ်ဆာကိုလည်း တည်ငြိမ်စွာပြုလုပ်ရမည်။ ဤသို့သောနမာဇ်သည် ဒအ်ဝသ်လုပ်ငန်းကို အားဖြည့်ပေး၍ ဒိုအာကိုလက်ခံကဗူလ်ဖြစ်စေသည်။ နမာဇ်၏အရေးပါမှုကို စိတ်ထဲမှ စွဲမြဲတိုးပွားလာနေစေရမည်။ လူတို့နှင့်အပေးအယူကိစ္စများမှန်ကန်နေအောင်ကြိုးစားရမည်။ မည်သူတစ်ဦး၏ ဟပ်က်မှ မိမိအပေါ်

တင်ရှိခြင်းမရှိနေစေရ။ အစဉ်အမြဲ အခြားသူများကို အကျိုးပြုလိုသော စိတ်ဓာတ်ရှိနေရမည်။ အခြားသူများထံမှ အကျိုးခံစားလိုစိတ်မရှိရ။ ဤသည်တို့သည် ဟစ်က်မယ်နှင့် ပြည့်စုံသောစကားများဖြစ်သည်။

မိမိ၏အနိမ့်ဆုံးသောမိတ်ဆွေကို (ထိုသူသည် အဘယ်မျှ စာပေမတတ်သူတစ်ယောက်ဖြစ်နေပါစေ) အထူးဂုဏ်ပေးလေးစားရမည်။ မိမိကိုယ်တိုင် မိမိအမီးရှိဖြစ်နေလျှင်လည်း မာမူရှိဟု မှတ်ယူနေရမည်။ မာမူရှိတို့၏ မရှုဝရဟ်ဖြင့်လျှောက်လှမ်းသော အကျင့်မွေးရမည်။ မိမမာမူရှိတို့၏ မရှုဝရဟ်မယူဘဲ လျှောက်လှမ်းပါက တစ်ခါတစ်ရံ လမ်းချော်တတ်သည်။ လုပ်ဖော်ကိုင်ဖက်များကို အထူး အားပေးအားမြှောက်ပြုနေရမည်။ အခြားသူများကို အားပေးအားမြှောက်ပြုခြင်းသည် အဆင့်တစ်ဆင့်ဖြစ်လျှင် (မိမိ၏လုပ်ဖော်ကိုင်ဖက်များကို အားပေးအားမြှောက်ပြုခြင်းကို အဆင့်(၁၀)ဆင့်ထက် ပို၍လုပ်ရမည်။ ဒိုအာတောင်းခြင်းကိုလည်း အမြဲတိုးမြှင့်နေရမည်။ ဒိုအာဖြင့်အလုပ်ဖြစ်မည်ဟု ယုံကြည်ခြင်းသည် 'သဝါက်ကွလ်'မည်၏။

ကျွန်တော့်အတွက်လည်း ဒိုအာတောင်းပါ။ မိတ်ဆွေများကို စလာမ်။



# ဟာဇရယ် ရှိုင်ခွလ်ဟာဒီးဆ်၏မြေး

## မော်လာနာ မုဟမ္မဒ် ရှာဟိဒ်စဟာရန်ပူရီ (ခေတ္တ –မဒီနဟ်)

## ထံမှ ပေးစာတစ်စောင်

ကြည်ညိုလေးစားအပ်ပါသောဗန္ဒဟ် ဟာဇရယ်မော်လာနာမုဟမ္မဒ်ဆွာလေဟ် ဇာဒမဂျ်ဒုဟူ

စလာမ်မတ်စ်နူးန်ပြီးနောက် ။ ။ ။

ဟာဇရယ်၏ကျန်းမာရေး ကောင်းနေမည်ဟု မျှော်လင့်ပါသည်။ နှစ်ကာလကြာမြင့်စွာက သဗ်လီဂ်ခရီးစဉ်တစ်ခုမှာ ဟာဇရယ်ကို ဖူးတွေ့ခွင့်ရရှိပါသည်။ နောက်ပိုင်းတွင် လုံးဝမုလာကာသ်မဖြစ်ရသည်မှာ ကျွန်တော့်အဖို့ လက်မဲ့ဖြစ်စရာပင်။ နောက်တစ်ကြိမ်မှာ ကျန်းမာစွာ အရှင်မြတ်က ဆုံစည်းခွင့်ပြုတော်မူပါစေ။

ဤစာနှင့်အတူ အရေးကြီးသော မိတ္တူအချို့ကို ပါးလိုက်ပါသည်။ တစ်အုပ်ကိုတော့ မိမိထံထား၍ ကျန်စာအုပ်များကိုမူ ဟာဇရယ်ရှိုင်ခ်၏တပည့်များ အထူးပုဂ္ဂိုလ်များအကြား ဝေငှပေးလိုက်ပါ။နောက်ထပ်ပေးရန်ကျန်နေသေးလျှင် ထပ်မံမိတ္တူကူးနိုင်ပါသည်။

အထူးသဖြင့် စာပေဝါသနာရှိသောသူများကိုလည်း ဝေငှပေးကမ်းစေလိုပါသည်။ **ဂျဇာကုမ္ဗလ္လာဟုသအာလာ**

ဟာဇရယ်အတွက် သခပ်စ်စွစ်ဟာဒီဆ်ရှရီဖ်တစ်အုပ်ပါးလိုက်သေးတယ်။ အခြားပညာရှင်နှင့် ဟာဒီးဆ်ပညာရှင်များလည်း လေ့လာရန်

အလွန်ကောင်းသောစာအုပ်ဖြစ်သည်။ ဟာဇရယ်ရဲ့သားများနှင့် အခြား ရင်းနှီးပတ်သက်မှုရှိသော မိတ်ဆွေများကို လွယ်ကူမှုရှိပါက စလာမ်၊ မတ်စ်နူန်ဆို၍ ဒိုအာအတွက် ပန်ကြားအပ်ပါကြောင်း။

အင်န်ရှာအလ္လာဟ်ကျွန်တော်သေးသိမ်သူသည် ငြေ(၅)ရက်နေ့ တွင် အိန္ဒိယပြန်ပါမည်။

ဗန္ဒဟ် မုဟမ္မဒ်ရှာဟိဒ် ဂုဖိရလဟူ

၂၀၀၁ မတ်လ (၂၅) ရက်

## ဇနီးမောင်နှံကြင်နာမှု

ဟာဇရယ်နှင့်ဟာဇရယ်ကတော်တို့အချင်းချင်း ဂုဏ်ပေးလေးစားမှု နှင့်တကွ ချစ်ခင်မြတ်နိုးစွဲလန်းကြပုံမှာ စံပြအကြင်လင်မယားဟု ဆိုနိုင် သည်။ ဟာဇရယ်၏ကတော်သည် ဇိနသ်အစ္စလာမ်ကျောင်းထွက်၊ (၈) တန်း အောင်၊ အုရ်ဒူရေးဖတ်ရာတွင် သွက်လက်ကျွမ်းကျင်သူ၊ ဒီးန်ကိုင်းရှိုင်း၍ ပရ်ဒဟ်မြဲသူ၊ ဆွေကြီးမျိုးကြီးမှဖြစ်သည်။

ဟာဇရယ်၏ သအ်လီမ်သဗ်လီဂ်တာဝန်ထမ်းဆောင်စဉ် ကာလ တစ်လျှောက်လုံးတွင် အားပေးခဲ့သူဖြစ်သည်။ ဟာဇရယ်အဖို့ စိတ်ထိခိုက် စရာ မဖြစ်ရန် သားသမီးငယ်များကိုလည်း ပြုစုပျိုးထောင် ထိန်းကျောင်း ခဲ့သည်။ ထို့ပြင် ဟာဇရယ်အိမ်သို့ပြန်လာပြီး အနားယူနေစဉ်လည်း ခိဒ်မသ် ပြုစုရာတွင် ယစ်ဟင်းမှုမရှိခဲ့ပေ။ အထူးသဖြင့် ဟာဇရယ်နာမကျန်းဖြစ်နေ စဉ် ဟာဇရယ်ကတော်သည် မိမိကျန်းမာရေးကိုပင် ဂရုမစိုက်နိုင်လောက်

အောင်ပြုစုခဲ့သည်။ ဤသို့ဂရုစိုက်တတ်မှုကြောင့် ဟဇရသ်ကလည်း ကိစ္စကြီးငယ်များတွင် မိမိဇနီးသည်နှင့်တိုးတိုးစွာ မရှုဝရဟ်ပြုလေ့ရှိသည်။ အသက်ရလာသည့်အခါ သားသမီးများက တစ်စုံတစ်ခုမေးမြန်းပါက 'မင်းတို့အမေကိုမေးလိုက်ပါ' ဟု အကြိမ်ကြိမ်အဖြေပေးလေ့ရှိသည်။

## အိမ်ပြောင်းရန်အကြောင်းပေါ်လာပုံ

ဗလီကျောင်းနှင့်အနီးဆုံး အမှတ်(၁၀၀) မာမ်ဆာဝင်းရှိ တန်းလျားခန်းငယ်တွင် (၁၉၄၇)ခုနှစ်မှစ၍ နေထိုင်ခဲ့သည်။ လူသူကင်းဝေးသောနေရာလည်းဖြစ်သည်။ ညအမှောင်ထု ဖုံးလွှမ်းတော့မှ ပြန်လာမည့်ခင်ပွန်းကိုလမ်းလျှောက်၍ပြန်လာမည်လား၊ ကားဖြင့်ပြန်လာမည်လားဆိုသည်ကိုပင် မသိရှာသော ဇနီးမှာ မိမိတစ်ဦးတည်း ကလေးများကိုချော့သိပ်ရင်း ည (၁၁း၀၀)၊ (၁၂း၀၀) နာရီထိ ထိုင်စောင့်နေရရှာသည်။

တစ်ခါတစ်ရံ မိုးခြိမ်းသံများကြားမှ၊ တစ်ခါတစ်ရံ မိုးစိုလျက်၊ ကြောက်မက်ဖွယ် ကန်တော်ကြီးစောင်းမှ ဖြတ်ကျော်လျက် ဟဇရသ်သည် ရောက်ရှိလာတတ်သည်။ ထို့ကြောင့် ဟဇရသ်ကတော်က ကလေးတွေလည်းကြီးလာပြီ။ ဤနေရာတွင် ဆက်လက်မနေသင့်တော့ကြောင်း အကြံပြုလာရာ ဟဇရသ်လည်း ရွှေ့ပြောင်းရန် ဆုံးဖြတ်လိုက်သည်။ အလ္လာဟ့်အလိုတော်နှင့် အမှတ် (၄၇) ၂၈လမ်း၊ ပန်းဘဲတန်းသို့ ရွှေ့ပြောင်းရာ ထိုအိမ်၌ပင် ကွယ်လွန်ခဲ့သည်။ اللهم اغفر له وارحمه واسكنه فى الجنة

## မိသားစုနှင့်အဆက်အသွယ်ထားပုံ

သားသမီးများကို မခြားမနားနီးစပ်မှု၊ ချစ်ခင်မှုထားရှိပါတယ်။ သို့သော် သမီးများကိုပို၍ ဦးစားပေးတတ်ပါတယ်။

သို့တစ်စေလည်း သားသမီးတိုင်းကို ချစ်ခင်စွာ ဆက်ဆံတဲ့နေရာမှာ တစ်ဆင့်တည်းပဲဖြစ်ပါတယ်။ ဘယ်သူဘယ်ဝါကတော့ ပိုအခွင့်အရေးရှိသည်ဟု မသိသာမထင်ရှားပါ။ ဒါပေမယ့် အငယ်ဆုံးသားထွေး မော်လဝီမုဟမ္မဒ် အိလ်ယာစ်ကိုအာရုံပြု၍ ဟာဇရသ်၏သားကြီး မော်လာနာ ဟာဖိဇ်အုမရ်ဖာရူက်ကိုတော့ နီးစပ်မှုပိုပေး၍ အဆက်အသွယ်ထားပုံ မြင်သာထင်ရှားပါတယ်။ ထို့ကြောင့်ပင် ဟာဇရသ်၏ ဂျနာဇဟ်တွင် အချိန်မီမလေးရှားမှ ရန်ကုန်သို့ရောက်လာ၍ နမာဇ်ရှေ့ဆောင်ခွင့်ရခဲ့သည်။ ဤသည် စိတ်ထဲမှရင်းနှီးမှုပိုသည့်လက္ခဏာဖြစ်သည်။

## ဇနီးသားသမီးနှင့်ယုယစွာဆက်ဆံပုံ

ဟာဇရသ်သည် သားသမီးများအပေါ် ဖခင်တစ်ဦး၏ယုယမှုကို ချီးမြှင့်ခဲ့သည်။ ကလေးများ ငယ်ရွယ်စဉ်ကပင် ဒီးန်ကိုလေးစားရန်၊ ဒီးန်၏ ပတ်ဝန်းကျင်တွင် နေထိုင်ရန် ဆုံးမစကားများဖြင့် သအ်လီးမ်ပေးလေ့ရှိသည်။ ကိုယ်တိုင်ကပင် ကလေးများအား ကုရ်အာန်နှင့်ဒီးန်အခြေခံများကို သင်ကြားပေးသည်။ နမာဇ်ကိုဂရုစိုက်၊ သိလာဝသ်သပ်စ်ဗီဟ်မလွတ်စေရန် သတိထား ကြပ်မတ်ခဲ့သည်။

အထူးသဖြင့် ဒအ်ဝသ်သဗ်လီဂ်နှင့်ဆက်နွယ်စေရန် အထူးတိုက်တွန်းသည်။ ဒီးန်နှင့်ပတ်သက်လျှင် မည်သူ့ကိုမျှ သက်ညှာခြင်းမရှိခဲ့ပေ။

ဒိုးန် သို့မဟုတ် ဒွန္ဒယာမည်သည့်ကိစ္စကိုမျှ ဖွတ်အမွေ အမိန့်ထုတ်ပြန်လေ့မရှိပေ။ လိမ္မာပါးနပ်စွာ အမြော်အမြင်ကိုသုံးကာ ယုယကြင်နာမှုကိုပြ၍ ခိုင်းစေလေ့ရှိသည်။ သို့သော် တစ်ယောက်က မလိုက်နာလျှင် အမိန့်ဖီဆန်လျှင် သတိပေးသောအားဖြင့် ရိုက်နှက်ဆုံးမသည်လည်း ရှိသည်။

ထို့ကြောင့်ပင် သားကြီးနှင့်သားထွေးတို့မှာ ဟာဖိဇ်ဖြစ်ကြ၍ သမီးနှစ်ဦးမှာလည်း ဟဂ်ျဖတ်ခွင့်ရခဲ့ကြလေသည်။

## ညီအစ်ကိုမောင်နှမနှင့်ဂုဏ်ပေးဆက်ဆံပုံ

ဟာဇရသ်၏ ညီအစ်ကိုမောင်နှမ (၅) ဦးရှိပါတယ်။ ဟာဇရသ်သည် ညီအစ်ကိုမောင်နှမအားလုံးကို ဂုဏ်ပေးချစ်ခင်လေ့ရှိပါတယ်။ ညီအစ်ကိုမောင်နှမဆိုပါက ငယ်ငယ်ကြီးကြီး ဂုဏ်ပြုတတ်သည်။

ဟာဇရသ်သည် ညီအစ်ကိုမောင်နှမများနှင့် ပျော်ရွှင်ဝမ်းသာသည့်အခါဖြစ်စေ၊ ဝမ်းနည်းကြေကွဲသည့်အခါဖြစ်စေ၊ အခြေအနေတိုင်းမှာ ထပ်တူထပ်မျှလက်တွဲပါဝင်လေ့ရှိပါတယ်။ ကူညီပံ့ပိုးလေ့ရှိပါတယ်။ မည်သည့်အခါပင်ဖြစ်စေ၊ အိမ်မှုကိစ္စအတွက်လာခေါ်သည့်အခါတိုင်း မဆိုင်းမတွ ချက်ချင်းထလိုက်သွားလေ့ရှိသည်။ ဘယ်သောအခါမှ ငြင်းလေ့မရှိပါ။ ထို့ကြောင့်ပင် ညီအစ်ကိုမောင်နှမတိုင်းသည် ဟာဇရသ်အပေါ် အချစ်ပို၍ အလွန်လေးစားလေ့ရှိကြသည်။

ဟာဇရသ်၏ ထူးမြတ်ချက်မှာ ညီအစ်ကိုမောင်နှမများနှင့် ပတ်သက်ရင် အစဉ်အမြဲဆွေမျိုးအဆက်ထားလေ့ရှိသည်။ ခန္ဓာကိုယ်နှင့်ဖြစ်စေ၊ ငွေကြေးပစ္စည်းဥစ္စာအားဖြင့်ဖြစ်စေ၊ ပံ့ပိုးကူညီလေ့ရှိရာ ၎င်းတို့

ကလည်း ဟာဇရည်ကတော်ကို ညီအစ်မရင်းသဖွယ် ဆက်ဆံကြသည်။

ဤသည် ဆွေမျိုးအဆက်ထားသည့်ရလာဒ်၏ ဗရိကသ်ပင်ဖြစ်သည်။ ကျွန်တော်များအတွက် နမူနာတစ်ရပ်ဖြစ်ပေသည်။

## ဆွေမျိုးသားချင်းနှင့်ကရုဏာထားဆက်ဆံပုံ

ဟာဇရည်သည် ကလေးဘဝမှပင် ဆွေးမျိုးသားချင်းလောကတွင် အချစ်တော်ဖြစ်သည်။ ငယ်စဉ်မှပင် ကုရ်အာန်အာဂုံဆောင်ထားပြီးဖြစ်ရာ အမြတ်တနိုးတလေးတစား ဟာဖိဇ်ဆပ်ဟူ၍ ကျော်ကြားလျက်ရှိသည်။ ဟာဇရည်ကလည်း သားချင်းများကို အလွန်ချစ်ခင်စွဲလန်းပေသည်။ ၎င်းတို့မှ ခဲယဉ်းမှုတစ်စုံတစ်ရာနှင့် ကြုံရသောအခါ စွမ်းနိုင်သမျှ ကူညီပံ့ပိုး၍ ကောင်းစွာကူညီလေ့ရှိသည်။

ဟာဇရည်သည် မိမိဘဝကို ဆင်းရဲစွာတည်ဆောက်သည့်အခါကပင် သားချင်းဆွေမျိုးကို အဆက်ထားလေ့ရှိသည်။ နောက်ဆုံးထွက်သက်ထိ ဤသို့ပင်ဆောင်ရွက်ခဲ့သည်။

ဟာဇရည်နှင့် ညီအစ်ကိုမောင်နှမသားချင်းဆွေမျိုးများအကြား စိတ်ချင်းမတိုက်ဆိုင်၍ ကတောက်ကဆမဖြစ်ခဲ့ပေ။ ဟာဇရည်၏ဆွေမျိုးကိုက အလွန်ရိုးသားကြသည်။ ဟာဇရည်ကျန်းမာစဉ်က တစ်ခါတစ်ရံ ကိုယ့်မိသားစုကိုခေါ်၍ ဆွေးမျိုးများအိမ်သို့ အလည်သွားသည်လည်းရှိသည်။ အထူးသဖြင့် ဟာဇရည် မော်လာနာ ကာရီ မုဟမ္မဒ် အလီဆပ်နှင့် ၎င်း၏ကတော် (မရ်ယမ် ဗင်န်သေ ရှိုင်ခ် အွတ်စ်မာန် အသ်သွာစီ) ကို အလွန်ဂရုပြုလေ့ရှိသည်။

ကာရီဆပ်သည် ဟာဇရသ်၏ကျောင်းနေဘက်လည်းဖြစ် ကြာကြာ သားလည်းဖြစ်သည်။ ဟာဇရသ်၏ကတော်နှင့်ကာရီဆပ်၏ကတော်သည် ညီအစ်မအရင်းများလည်းဖြစ်ကြသည်။

ဟာဇရသ်သည် အိမ်တွင်းရေးကိစ္စတိုင်းတွင် ကာရီဆပ်နှင့်ကတော် အား အလေးပေးလေ့ရှိသည်။ ၎င်းတို့မှာ ကိစ္စတစ်စုံတစ်ရာပေါ်လာလျှင် လည်း ချက်ချင်းကူညီပံ့ပိုးကာ အဆက်ထားလေ့ရှိသည်။

## ဟာဇရသ်၏ သားသမီးနှင့်သမက်၊ ချွေးမများ

၁။ **ဖိုင်နဗ်ဘီ**

ခင်ပွန်း – **ဟာဂျီယူစွဖ်၊** (ဟာဂျီဦးဘခင်၏သား မန္တလေး)

၂။ **မော်လာနာ အုမရ်ဖာရူက်**

ဇနီး – **စလ်မားဘီ** (ကာရီဆပ်သမီး) ရန်ကုန်

၃။ **ရုကိုင်ယဟ်ဘီ**

ခင်ပွန်း – **ဟာဖိဇ်အိုင်ယူဗ်** (ပရော်ဖက်ဆာဆပ်သား)

၄။ **ဖာသွေမဟ်ဘီ**

ခင်ပွန်း – **ဒေါက်တာယူစွဖ်** (ဟာဂျီဆာဒစ်က်၏သား မော်လမြိုင်)

၅။ **ဟာဂျီ မုဟမ္မဒ် သာရစ်က်**

ဇနီး – **ဖွာသွေမဟ်ဘီ** (ညောင်တုန်း၊ မော်လမြိုင်)

၆။ **ဟာဂျီအပူဘာကရ်ဆစ်ဒီက်**

ဇနီး – **စလီမဟ်ဘီ (မင်းဇီ)**

၇။ **ခဒီဂျဟ်ဘီ**

ခင်ပွန်း – **ဟာဂျီ အမီရှဒ်ဒီးန်** (မန္တလေး)

၈။ **မော်လဝီ ဟာဖိဇ် အိလ်ယားစ်**

ဇနီး – ဘီဘီစာရဟ် (ရန်ကုန်)

၉။ **ဟဖ်ဆဟ်ဘီ**

ခင်ပွန်း – မော်လာနာ အဗ်ဒွလ်ကာဒိရ် (ဟာဂျီ အဟ်မဒ် ကျောင်းသောင်း၏သား)

မြေးမြစ် (၃၂) ယောက်အနက် (၄) ဦးမှ ဟာဖိဇ်ဖြစ်သည်။

F. 8.B

## ဇနီးထံသို့ ပေးစာ

မှ

မုဟမ္မဒ်ဆွာလေ
ဘင်္ဂလာဝါလီမပ်စ်ဂျစ်ဒ်
မဒ်ရစဟ် ကာရှီဖွလ်အိုလူမ်
နယူးဒေလီ ၁၉၉၆
စက်တင်ဘာ ၁၈

### ကျွန်တော့်ရဲ့ . . . . စလ်လမဟလ္လားဟ်

အလ်ဟမ်ဒုလိလ္လာဟ်၊ စွမ္မအလ်ဟမ်ဒုလစ်လ္လာဟ်

အရှင်မြတ်က အားလုံးကို ဒေလီသို့ပို့တော်မူလိုက်ပြီ။ မုဟမ္မဒ်ဖာရူက်နှင့် ခရီးဖော်အားလုံး ကျန်းမာစွာရှိကြပါတယ်။

အလ်ဟမ်ဒုလိလ္လာဟ် ကိုယ်လည်း ကျန်းမာရေးအလွန်ကောင်းပါတယ်။ ခရီးရဲ့ပင်ပန်းနွမ်းနယ်မှုလည်း လုံးဝမရှိပါ။ နူရာနီအအ်မာလ်များလည်းပြုလျက်ပါ။ ရည်မှန်းချက်နှင့်စပ်လျဉ်းပြီး အောင်မြင်ပါတယ်။ အခြေအနေနဲ့ အခက်အခဲများ ကြုံတွေ့လာတဲ့အခါ ဖြေရှင်းစရာ အဖြေများလည်းရရှိပါတယ်။ နေဇာမွဒ်ဒီးန်မရ်ကဇ်သို့ တစ်ကမ္ဘာလုံးမှ ဂျမာအသ်များရောက်လာကြတယ်။ ကိုယ်တို့ဂျမာအသ်ယခုလို နေဇာမွဒ်ဒီးန်ရောက်ရှိလာတဲ့အတွက် အကာဗိရ်များအလွန်ဝမ်းသာကြပါတယ်။ အလွန်ယုယကြပါတယ်။

ဒီမှာလည်း မပ်စ်သူရာသ်ဂျမာအသ်ရှိနေပါတယ်။အင်န်ရှာ
အလ္လာဟ်၊ နက်ဖန်ကိုယ်တို့ (၁၄) (၁၅)ဦး ပါဝင်တဲ့ဂျမာအသ်သည် စဟာ
ရန်ပူရ်နှင့် ဒေယိုဗန်သွားကြပါမယ်။ အဲဒီ့ကအပြန်ဒေလီအိဂျ်သိမာမှာ
ပါဝင်ကြမယ်။ ခိကျ်ရီချက်ပြုတ်ကျွေးတာအမှတ်ရနေတယ်။ အပြန်ကျရင်
ရှင်မအတွက် ဘာယူလာရမလဲ။

ဘန်ဂဝါလီမပ်စ်ဂျစ်ဒ်မှအပြင်ကို တစ်ဖဝါးမှမထွက်ဖြစ်ပါ။ ထူးကဲ
အောင်မြင်မှုကိုတော့ ရနေပါတယ်။

အဲဒီကနေတစ်ခါ ပါကစ္စတန်သွားဖို့ဆန္ဒရှိပါတယ်။ အဲဒီကမှ
မင်းတို့မိသားစုထံ ရောက်ရှိပါလိမ့်မယ်။ ကာရီအလီဆပ်၊ မမရ်ယမ်ဘီ၊
ဟာဖစ်ဇ်မုဟမ္မဒ်အိလ်ယားစ်နှင့် ဟာဂျီအဘူဘကရ်ဆစ်ဒီးက်တို့ကိုစလာမ်
ဒိုအာပြောပါ။

သမီးဟာဖ်စဟ်၊ သင်မနှင့်အဗ်ဒွလ်ကာဒိရ်တို့ ဟာဂျ်မုဗာရပ်က်ဖြစ်
ပါစေ။ သို့သော် မစာအေလေဟာဂျ်ကိုသင်ယူ၊ ဖဇာအေလေဟာဂျ်ကို နာယူ
အသင့်ပြုပြီးမှသွားရန် အရေးကြီးပါတယ်။

သမီးခဒီဂျဟ် အသင်မငါ့မြေးလေးမုအာဇ်ကို ရိုက်နှက်နေတာ
အိပ်မက်ထဲမြင်ရတယ်။ မုအာဇ်ကို ဘာကြောင့်ကြိမ်းမောင်းနေတာလဲ။
မြေးမလေးအာရိဖဟ် ဂျပုမလေးကောဘယ်နှယ့်လဲ။

အွန်မေ့စုဟိုင်လ်၊ အွန်မေ့ဆာဒိက်၊ အွန်မေ့အာစွင်မ်၊ အွန်မေ့
ဂျုနိုင်ဒ်၊ အွန်မေမုအာဇ်နှင့် အားလုံးကို စလာမ်ဒိုအာ

## သားကြီးထံပေးစာ

**ဂျာမိအဟ်ဒါရှလ်အိုလူမ်တွင်ပညာဆည်းပူးနေသော**

**မော်လာနာဟာဖိဇ်ကာရီအုမရ်ဖာရူက်** – ထံသို့

ပုသိမ်မှ ၁၉၇၀ မေလ ၁၀ ရက်

السلام عليكم ورحمة الله وبركاته

မောင်မင်းဖာရူက်– ယခုအသင်ကြိုးစားလျက်ဆည်းပူးနေတဲ့ အိလ်မ်ဟာ အလွန်တန်ဖိုးမြင့်မားတဲ့ ပညာဖြစ်တယ်။ ဒီအေလင်မ်အပေါ် အစ်ခ်လားဆ်နှင့်တကွ အမလ်ဆောက်တည်ရင် ဒီန်နှင့်ဒွန္နယာမှာ အဆင့်မြင့်ကိုရရှိပါမယ်။ ဒီအိလ်မ်ကို ကိုယ်တိုင်အမလ်လုပ်ပြီး အခြားသူကို အမလ်အတွက်နှိုးဆော်ခြင်းကို သဗ်လီဂ်လို့ခေါ်တယ်။

ကြည့်စမ်း၊ အပါယခုသဗ်လီဂ်မှာလုံးပန်းနေတယ်။ လုပ်ငန်းရဲ့ ဗရ်ကသ်ကြောင့် ဂုဏ်သတင်းမွေးကြိုင်မှု၊ လူတွေရဲ့ရင်ထဲက သတိရ တသနေမှု၊ နှလုံးသားထဲချစ်ခင်စွဲလန်းမှု အစရှိတဲ့နိအ်မသ်တွေကို အပါ ရရှိနေတယ်။ ငါ့သား၊မင်းလည်း သအ်လီးမ်နှင့်အတူသဗ်လီဂ်ကို တွဲထား ရင် အရှင်မြတ်ကဗူလ်ပြုတော်မူမယ်။ အပါ့အတွက် နမာဇ်ပြီးတိုင်း စူရဟ် အစ်ခ်လားဆ် (၃) ကြိမ်ဖတ်ပြီး ဒိုအာလုပ်ဦးမှနော်။ အပါလည်းမင်းရဲ့ အိလ်မ်နှင့်အမလ်တိုးတက်မှုအတွက် ဒိုအာပြုနေမယ်။

အိမ်ကိုလည်းဂရုစိုက်ပါ။ ညီအစ်ကိုမောင်နှမများအပေါ်ယုယပါ။

နှုးညှံ့သိမ်မွေ့ပါ။ အမေကိုလေးစားပါ။ အမေ့ကိုခိဒ်မယ်လုပ်ပါ။ အာလင်မ် ပညာရှင်များကိုရိုသေပါ။ ဒါမှတောက်ပြောင်မယ်။

အားလုံးကိုစလာမ်

فقط والسلام

بندہمحمدصالح

## သားငယ်ထံနစိဟာသ်စာ

**မဒ်ရစဟ် သဟ်ဖိဇွလ်ကုရ်အာန် ဆွန်ဂိုင်ဂိုလုက် (ထိုင်းနိုင်ငံ)**

၁၄၀၀ – ရဗီအွလ်အောင်ဝလ် (၂) ရက်

၁၉၈၄ ခုနှစ်၊ ဒီဇင်ဘာလ (၁၈) ရက်

အမိအဖထံမှ –

ချစ်လှစွာသော သားလိမ္မာ

မော်လဝီ ဟာဖိဇ် မုဟမ္မဒ် အိလ်ယာစ် (စလ်လမကုမ္မလ္လာဟ်)

السلام عليكم ورحمة الله وبركاته

အပါတို့အားလုံး ကျန်းမာစွာရှိကြပါတယ်။ မင်းရဲ့ပြေလည်မှု၊ ကျန်းမာမှု အစစအရာရာအောင်မြင်မှုရရန် နေ့စဉ်မပျက် အမြဲတမ်း စိတ်နှလုံး၏အတွင်းမှ ဒိုအာများပြုလျက်ရှိပါတယ်။ အရှင်မြတ် မင်းကို

နေရာတိုင်း၊ အချိန်တိုင်းမှာ ပျော်ရွှင်စွာထားတော်မူပါစေ။ ဒီးန်၊ ဒွန္နယာ၏ ရတနာများဖြင့် ပြည့်ဝစွာချီးမြှင့်တော်မူပါစေ။ အာမီးန်၊ စွမ္မအာမီးန်။

မင်းထွက်ခွာသွားပြီးနောက် ဖုန်းသတင်းအရဘန်ကောက်ရောက်ရှိကြောင်း အခြေအနေအရပ်ရပ်သိရ၍ ပျော်ရွှင်မှုနဲ့စိတ်ချမ်းသာမှုရရှိပါတယ်။

မိခင်မာတာရဲ့ မေတ္တာအဘယ်မျှကြီးမားသလဲဆိုရင် မင်းအတွက်ပူပန်ပြီး ငိုနေလေ့ရှိပါတယ်။ မင်းရဲ့ နုနယ်တဲ့သမီးငယ် ရှအ်စာနဟ်လည်း နေကောင်းပါတယ်။ ဝဖြိုးလာတယ်။ ဆာရဟ် ဘီလည်းနေကောင်းပါတယ်။ ကြာသပတေးနေ့မနက်တိုင်း သားအမိ ဒီကိုရောက်လာကြတယ်။ သဘောက ဆာရဟ်ဘီနဲ့ ရှအ်ဝါနဟ်အတွက် လုံးဝမပူနဲ့။

လိမ္မာပြီးတော်လှတဲ့သားငယ်၊ မင်းဒီကဗျာလေးကိုမှတ်မိပါလိမ့်မယ်။ ***'ဟိနာဆိုတဲ့ ဒန်းရွက်ဟာ ကျောက်သားများအကြား စေ့စေ့ညက်ကြေသွားပြီဆိုရင် အရောင်လည်း ဝင်းလက်လာပါတယ်။ ထို့အတူ ဘေးဒုက္ခများခံစားပြီးရင် တောက်ပြောင်လာတတ်ပါတယ်'***

ဒီတော့ တိုင်းတစ်ပါးမှာ သပ်က္ကဝါ၊ သဟာရသ်နှင့် သဝါက်ကွလ်နှင့်တကွ အစ္စလာမ်ရဲ့သက်တမ်းမွေးမြူပါ။ ညစ်ညမ်းသော ပြစ်မှုဟူသမျှမှရှောင်ကြဉ်ပါ။ တမန်တော်မြတ် (صلى الله عليه وسلم) ရဲ့ ဟာဒီးဆ်တော်လာရှိပါတယ်။ **العينان تزنيان**၊ မျက်စိနှစ်ကွင်း ဖေနာကျူးလွန်တတ်သည်။ မျက်စိနှင့်နားကိုထိန်းသိမ်းပါ။

အလ်ဟာမ်ဒုလိလ္လာဟ်၊ မင်းလည်း ဟိုမှာ မဒ်ရစဟ်ရဲ့သအ်လီမ်နဲ့ **သဗ်လီဂ်**ရဲ့ ခိဒ်မသ်ပြုခွင့်ရနေတာကို တန်ဖိုးထားပါ။ ဒီအလုပ်ကို

အရှင်မြတ်နှစ်သက်တော်မူတဲ့သူနဲ့ အလုပ်ယူတော်မူပါတယ်။

ဒါကြောင့် အစ်ခ်လားဆွ်၊ အိုစူလ်နှင့်တကွ မောသ်နဲ့အာခ်ိရယ်ကို ရှေ့ထားပြီး ဒီးန်ရဲ့အကျိုးဆောင်ပါ။ နဖူးစာမှာရှိတဲ့ ရိက္ခာရိုဇီကို မကြိုးပမ်းဘဲနဲ့လည်းရမှာပါ။ အီမာန်ရဲ့မဟ်နသ်နဲ့ဒီးန်တည်းဟူသော ရတနာကိုတော့ မုဂျာဟဒါရှိမှရပါမယ်။

မာရှာအလ္လာဟ်၊ ဟိုမှသဗ်လီဂ်ပတ်ဝန်းကျင်ကောင်းပါတယ်။ နိုင်ငံတိုင်းမှ ဂျမာအသ်တွေလာကြပါတယ်။ ၎င်းတို့ထံချဉ်းကပ်၍ အကျိုးခံစားပါ။ ၎င်းတို့ကိုနွစ်ရယ်ပြုပါ။ သဗ်လီဂ်လုပ်ငန်းကို သင်ယူပါ။ ဂျမာအသ်တိုင်းမှဒိုအာယူပါ။ (၆)ခွန်းအပေါ် အမလ်လုပ်ပါ။ (၆) ခွန်းသည် ဆွေဖာသ် (၆) ခုဖြစ်တယ်။ ဆွဟာဗဟ်များရဲ့အရည်အသွေးဖြစ်ပါတယ်။ ယင်း (၆) ခွန်းမှာနူရ်ရှိတယ်။ ဂုဏ်ရှိတယ်။ ဗရကသ်ရှိတယ်။ လူတိုင်းမြတ်နိုးပြီး အောင်မြင်မှုပေးတဲ့ရတနာဖြစ်တယ်။

၁၉၈၅ ဖေဖော်ဝါရီ၌ သဗ်လီဂ်အိဂ်ျသိမာ၊ ထိုင်းမှာဖြစ်ဖို့ရှိတယ်။ အင်န်ရှာအလ္လာဟ်၊ ဟဇရသ်ကြီးလည်း ကြွလာဖို့ရှိတယ်။ အဲဒီ အိဂ်ျသိမကျရင် အစမှအဆုံးတိုင်ပါဝင်ပြီး နူရ်ကိုဆွတ်ခူးပါ။ အင်န်ဖီရာဒီအမလ်လည်း မလွတ်စေနှင့် ဟဇရသ်ကြီးလက်ပေါ် ဗိုင်အသ်ယူပါ။

မဒ်ရစဟ်ကျောင်းသားများအပေါ် ယုယပါ။ အစ်ခ်လားဆွ်နှင့်တကွ စာသင်ပေးပါ။ အကြောင်းမဲ့အရိုက်မကြမ်းပါနဲ့၊ ကလေးသူငယ်များနှင့် နောက်ပြောင်ကျီစယ်သမှုမပြုပါနှင့်။တည်တည်ကြည်ကြည်နဲ့နေပါ။

မဒ်ရစဟ်ရဲ့ စည်းမျဉ်းကိုလေးစားပါ။ အကြောင်းမဲ့ကျောင်းမပျက်နဲ့။ ကိုယ့်ဒေါရ်လည်းမပျက်နှင့်။ ဒါမှ သရာဝီးဟ်မှာမုရှာဗဟ်မှ လွတ်ကင်းမယ်။ အိက်ရာမ်အပိုင်းမှာလူကြီးကိုရိုသေ၊ ငယ်ရွယ်သူကို ယုယစွာချစ်ခင်ပါ။ ဟာဂျီအဟ်မဒ်ဆပ်နှင့် ဘိုင်အဗ်ဒွလ္လာဟ် (ကေစီ) တို့လည်း အနီးမှာပဲရှိနေကြတယ်လို့သိရပါတယ်။ မင်းရဲ့သားချင်းအနီးမှာရှိတော့ကောင်းတာပဲ။ ဆွေမျိုးဖြစ်တဲ့ဝတ္တရားလည်းဆပ်၊ ဆွေမျိုးလည်းအဆက်ထားပါ။

ဟာဂျီဟာဖိဇ်ဟာရှင်မ် ဘိုဒီဆပ်လာတယ်။ စလာမ်ဒိုအာပြောနေတယ်။ သူ့ထံလည်း စာရေးဦး။ ဆွာဒိကီပုံစံအတိုင်း အစ်ခ်လားဆ်နှင့်တကွသင်နေပါ။ ဒိုအာပြုနေပါ။

ဟာဂျီယူစွဖ်ဆပ်၊ ဟာဂျီအဟ်မဒ်နှင့်သာသနာ့မိတ်ဆွေများကိုစလာမ်ပြောပါ။ အိမ်ကညီအစ်ကို၊ မောင်နှမသားချင်းများရဲ့စလာမ်ဒိုအာကိုလက်ခံပါ။

فقط والسلام

ندہمحمدصالح

အပါနှင့်မင်းရဲ့အမေ

# သမီးကြီးထံပေးစာ

**အပါနှင့်အမာထံမှ**

၃/ ဆဖရ်လ/၁၃၉၄

ဘေတာ မုဟာမ္မဒ်ယူစွဖ်နှင့်ဘေတီဇိုင်နပ်ထံ

اسلام عليكم ورحمة الله وبركاته

ယနေ့မနက်က အဟ်မဒ်မနီးဘိုင်နှင့်တွေ့ဆုံပါတယ်။ သမီးတို့အကြောင်းကိုပြောပြပါတယ်။ သူက သမီးတို့အကြောင်းကို ချီးမွမ်းစကားတွေပြောသွားပါတယ်။ အသင်တို့ကို လိမ္မာသောသားသမီးကောင်းတွေ ချီးမြှင့်တော်မူပါစေ။ ဒီးန်၊ ဒွန္နယာရဲ့ နေအ်မသ်များချီးမြှင့်တော်မူပါစေ။

သားတို့၊ သမီးတို့ ဒွန္နယာလောကရဲ့ စည်းစိမ်ကိုတော့ နဖ့်စာကံကြမ္မာအရအားလုံးရရှိကြပါတယ်။ ဒီးန်ရဲ့ရတနာစည်းစိမ်ကိုတော့ လိုလားမှုနှင့်တကွ ကြိုးပမ်းမှုရရှိပါတယ်။ ကြိုးပမ်းမှုက ဒီးန်အတွက်ပြုလုပ်ရမယ်။ အေဗာဒသ်က အလ္လာဟ့်အတွက်ဆောက်တည်ရမယ်။ခိဒ်မသ်က ဗန္ဒဟ်များ အတွက်ဖြစ်ရမယ်။

အိမ်မှာသအ်လီမ်ဖတ်ကြ။ ဇိက်ရ် တ,သ သတ်ရကြ။ အာခိရသ်နဲ့ပတ်သတ်ပြီး အမြဲတမ်းအပူအပင်ထားကြ။ ယူစွဖ်ဘိုင်နဲ့ အတူလာမယ်လို့သတင်းရတဲ့အတွက် အလွန်ဝမ်းသာပါတယ်။ ယူစွဖ်ဘိုင်အတွက် အားလပ်ချိန်နှင့် လွယ်ကူမှုရှိမှလာစေလိုပါတယ်။

အလ်ဟာမ်ဒုလစ်လ္လာဟ်၊ သမီးရဲ့မောင်လေး ဘိုင်ကာရီမုဟာမ္မဒ် အိလ်ယား၊စ် ယနေ့ကုရ်အာန် အာဂုံဆောင်လို့ပြီးမြောက်သွားပါတယ်။ ဒီလိုအခွင့်အလမ်းရရှိတဲ့အတွက် အပါတို့မိသားစုအဖို့ အလွန် ကြီးကျယ်တဲ့ နေအ်မသ်တစ်ရပ်ဖြစ်ပါတယ်။ ငြီ ၆/၇/၈/ ရက်နေ့များမှာ မောင်းတော အိဂျ်သိမဟ်ဖြစ်ပါလိမ့်မယ်။ အပ့်ါအတွက် အားလပ်ချိန်သိပ်မရှိပါ။ ဟာဂျီဆပ်၊ ဘာဘီ၊ ဒါဒီနှင့် နာနီ၊ အိုင်ယူဗ်ဘိုင်၊ အာအေရှဟ်ဘီ၊ ဟောင်ဝါဘီ၊ ရဟ်မသ်ဘီ၊ ရဟီမဟ်ဘီ၊ တိုးတိုး ယူနွတ်စ်ကို အပါအမာ တို့ဘက်မှ စလာမ်ဒိုအာဆိုကြောင်းပြောပါ။ **မုဟာမ္မဒ်ဆွာလေဟ်**

**အာအေရှဟ်**

## သမီးငယ်ထံပေးစာ

၁၄၀၂ ခုနှစ်၊ ဂျမာဒိလ်အောက်ဝလ် ၂၀

၁၉၈၂ ခုနှစ်၊ မတ်လ ၁၇ ရက်

အမိအဖထံမှ . . .

(တနသာ်ရီတိုင်း၊ ကော့သောင်းမြို့) ချစ်လှစွာသောသမီးငယ်ဟာဖ်ဆာ

ယနေ့ ပထမဦးဆုံးအကြိမ် သမီးကို အပါနဲ့အမာတို့က စာရေးလိုက်ပါတယ်။ စာရေးတာ ဆုံဆည်းမှုထက်ဝက်ဖြစ်ပါတယ်။ အငယ်ဆုံးသမီးကိုခွဲခွာရတာ အလွန်ခံစားရပါတယ်။ သို့သော် ရှရီအသ်ရဲ့ပညတ်ချက်နဲ့ တမန်တော်မြတ် ﷺ ရဲ့ စွန္နသ်တော်အရတို့ ဆွဗရ်သည်းခံမြဲသိပ်ရ

ပါတယ်။ အဆင့်မြင့်ဆွေမျိုးမှ ပညာရှင်တစ်ပါးနှင့်သမီးနေကာဖြစ်သွားတာ အရှင်မြတ်ကိုကျေးဇူးတင်မိပါတယ်။ ဒီတော့ သမီးအနေနဲ့ အရှင်မြတ်ရဲ့ ရှုကွက်ပြုပါ။ အေဗာဒသ်လုပ်ပါ။ ကိုယ့်ခင်ပွန်းကိုချစ်ခင်ပါ။ ယောက္ခမများကိုပြုစုပါ။ ကိုယ့်ယောကျ်ားရဲ့ဆွေမျိုးများနဲ့ သားချင်းကိုအဆက်အသွယ်ထား။ သင့်တင့်တဲ့ဘဝသက်တမ်းကိုတည်ဆောက်ပါ။ အင်န်ရှာအလ္လာဟ်၊ ဒီလိုရည်ရွယ်ချက်ကို အဓိကထားရင် ဘယ်နေရာမှာပဲနေထိုင်ရသည်ဖြစ်စေ၊ သုခချမ်းသာရနေမယ်။

သမီးမိခင်ကပြောနေတယ်။ အနေအထိုင်အပြောအဆိုကို သတိထားဆင်ခြင်ပါ။ ကိုယ့်ခင်ပွန်းရဲ့ဥစ္စာပစ္စည်းများကို စောင့်ကြပ်ပါ။ တို့လည်းဒိုအာပြုနေတယ်။ သမီးလည်းနမာဇ်ဖတ်ပြီး ဒိုအာတောင်းပါ။

သမီးယခုသက်တမ်းသစ်တစ်ခုကိုထူထောင်နေတယ်။မွတ်စ်လင်မ်အမျိုးသမီးတစ်ဦးအတွက် အရည်အသွေးကောင်းဟာအရှက်သိက္ခာ စောင့်စည်းခြင်းပဲဖြစ်တယ်။ သည့်နောက်မှ အေဗာဒသ်ဖြစ်တယ်။ ထို့နောက် ခင်ပွန်းရဲ့ခိဒ်မသ်နဲ့ အေသာအသ်ဖြစ်တယ်။ ပြီးရင် ၎င်းရဲ့သားချင်းများကိုအချစ်ထား၊ဆွေမျိုးအဆက်ထားခြင်းဖြစ်တယ်။ ယောက္ခထီး၊ ယောက္ခမများကို မိမိအမိအဖကဲ့သို့ သဘောထားပါ။ ပြုစုပါ။ ဒါတွေကို သမီးကျင့်သုံးရင် နှစ်ဌာနမှာ အောင်မြင်မယ်။

နေ့စဉ် မုနာဂျာသေမပ်က်ပူလ်နဲ့ မန်ဇိလ်ကိုဖတ်ပါ။ ဒီဆုံးမစကားကို မမေ့နဲ့နော်။

تمھیں شوہر کی خدمت اور اطاعت خوب کرنا ہے — اسی میں تم کو جینا ہے اسی میں تم کو مرتا ہے
صلوۃ وصوم کی پابند رہنا اور دعا کرنا — خدا سے مانگنا ہر دم خدا سے التجا کرنا

သမီးအနေနဲ့ ခင်ပွန်းသည်ကို အပြည့်အဝအေသာအသ်ပြုရမယ်။ ဒီအလုပ်နဲ့ပဲရှင်၊ ဒီလိုနဲ့ပဲသေမယ်။ နမာဇ်ရိုဇာဟ်မြဲပါစေ။ အရှင့်ထံခယရှိကျိုးစွာတောင်းနေပါ။ သမီးအမေလေ၊ သမီးကိုသတိရလို့ငိုနေတယ်။ အပါက သမီးအမေငိုတာကြည့်ပြီးရယ်လိုက်ရင် သူမလည်းလိုက်ရယ်တယ်။ သမီးကတော့ ဒီစာဖတ်တဲ့အခါ မငိုနဲ့နော်။ မျက်ရည်ကျလာတာကို သုတ်လိုက်ပါအုံး။ မင်းတို့ဇနီးမောင်နှံကို ရောက်လေရာမှာ ဂုဏ်သိက္ခာ၊ ပစ္စည်းဥစ္စာ၊သားသမီးကောင်းနှင့် အချင်းချင်း ချစ်ခင်မှုချိုးမြှင့်တော်မူပါစေ။

အပါနဲ့သမီးရဲ့မိခင်

## နိုင်ငံတော်မှပြန်လည်ဖွင့်လှစ်သည့် ဟဂ်ျ ပထမနှစ်

(၁၉၈၁) ခုနှစ်၊ အစိုးရမှ ဟဂ်ျကိုဖွင့်ပေးခဲ့သည်။ အထူးဂုဏ်ပေးသောအနေဖြင့် ဟဇရသ်အား ဟဂ်ျစေလွှတ်သည်။ ဒါအီအသွင်ဖြင့် ဟဂ်ျဆောက်တည်၊ အာရှစ်က်အသွင်ဖြင့် ဇေယာရသ်ပြုခွင့်ရရှိသည်။ ဟာဂီျအစ္စဟာက်မွစ်ကီ၊ ဟာဂီျအစ္စမာအိလ်ဘာဝါးလည်းလိုက်ပါသည်။

(၁၉၉၁) ခုနှစ်၊ မိတ်ဆွေများနှင့်အတူဟဂ်ျသွားခဲ့သည်။ မော်လာနာ အိဒ်ရီးစ်ကော့ကရိတ်လည်း ပါဝင်သည်။ အပြန်တွင် မလေးရှား၊ ထိုင်းသို့လည်း သဗ်လီးဂ်ခရီးဆက်သေးသည်။

ကျောင်းဆရာတာဝန်ယူလျက်ရှိသော သားကြီးမော်လာနာ ဟာဖိဇ် အုမရ်ဖာရွတ်က်ဆပ်၊ ဗလီတာဝန်ထမ်းဆောင်လျက်ရှိသော သားငယ် မော်လာနာ ဟာဖိဇ် အိလ်ယားစ်အပါအဝင် မြန်မာပြည်သား မွတ်စ်လင်မ်ညီနောင်များက ခရီးဦးကြိုကာ အတူလိုက်ပါလျက် ခိဒ်မယ် နွစ်ရသ်ပြုကြသည်။ မလေးနှင့် ထိုင်းနွယ်ဖွားတို့ကလည်း ဟဇရသ်၏ ဗယာန်တွင် စိတ်ဝင်တစား ပါဝင်နားဆင်ကြသည်။

(၁၉၉၄) တွင် တဖန် သားကြီးနှင့် သားလတ် ဟာဂျီမုဟမ္မဒ် သာရစ်က်အပါအဝင် မိတ်ဆွေများနှင့်အတူ ဟဂ်ျသွားခဲ့ရသေးသည်။

## မစ်ဂျိဒေနဗဝီ၏ပရဝန်

သားလတ်မုဟမ္မဒ်သာရစ်က်နှင့် ပုဂ္ဂိုလ်အချို့ မပ်စ်ဂျိဒေနဗဝီတွင် ဟဇရသ်ထံမှ ပောဒါယသ် စကားနာယူ၍ နေဇာမွဒ်ဒီးန် ရိုင်ဝါန်သို့ (၃)ကျစ်လ္လာထွက်ခွင့်ရခဲ့သည်။ ဂျမာအသ်ထွက်ခွာစဉ် ရောင်ဇွာတော် အနီးတွင် ငိုလျက်ဒိုအာပြုခဲ့သည်။

ဟာဂျီမုဟမ္မဒ်သာရစ်က်နှင့်အတူ ဟာဂျီအဗ်ဒွရ်ရဟီးမ်(မဒါးဗလီ) ဟာဂျီ အစ္စမာအိလ်(ဘားမ်လား) ဟာဂျီကမားလ် (လဲခြား)နှင့် ဟာဂျီမောင်ကို (မြင်းခြံ)တို့လည်းပါဝင်သည်။

(၁၉၈၈)ခုနှစ်တွင် ဟဇရသ်နှင့်ဟဇရသ်ကတော်၊ သမီးနှင့် မြေးနှစ်ဦး၊ သားကြီး မော်လာနာအုမရ်ဖာရွးက် နှင့် သားလတ်ဟာဂျီ

အဘူဗကရ်ဆစ်ဒ္ဒီးက်တို့ ဟဂ်ျကိုသွားခဲ့သည်။ သမက်ဖြစ်သူ ဟာဂျီ အမီရွှဒ်ဒီးန် ကိုမင်းသိန်းမှာ ထိုစဉ်က မက္ကာဟ်တွင်ရှိသည်။ ထိုနှစ်မှာပင် မော်လာနာမဟ်မူဒ် မာမ်ဆာနှင့် ဇနီးလည်း ဟဂ်ျဆောက်တည်ခွင့်ရသည်။ ထိုနှစ်တွင် နိုင်ငံများမှ အာလင်မ်မြောက်များစွာတို့သည် ဟဂ်ျတွင် ပါဝင်ခွင့်ရရှိခဲ့သည်။ (၂၀၀၁) ခုနှစ်တွင် သမက်ဖြစ်သူ မော်လာနာ အဗ်ဒွလ်ကာဒိရ်ဆပ်လည်းလိုက်ပါလျက် ဟဂ်ျသွားခဲ့သည်။ ဟဂ်ျခရီး တစ်လျှောက်တွေ့ကြုံရသမျှ ပုဂ္ဂိုလ်တိုင်းသည် ကံထူးသောအသိဖြင့် ခစ်ဒ်မသ်နွစ်ရသ်ပြုကာ အဆင်ပြေ၊ ချောမွေ့ရေးကို စီစဉ်ပေးကြသည်။

**فحجه حجا مبرورا وسعيا مشكورا**

---

## မိုင်အသ်ယူခြင်း

ဟဇရသ်သည် ကျောင်းမဆင်းမီ ကျောင်းသားဘဝမှပင် မိမိ ဆရာတော် အလ္လာမဟ် မော်လာနာ အဗ်ဒွရ်ရဟ်မာန် ကာမိလ်ပူရီထံမှ ဗိုင်အသ်ယူခဲ့သည်။ ထို့နောက် ဟဇရသ် ရှိုင်ခွလ်ဟာဒီးစ်ထံမှ ဗိုင်အသ်ကို ဆန်းသစ်ပြုန်သည်။ မိမိမွရ်ရှိဒ်မှပေးသော ဝဇီဖဟ်ဇိက်ရ်များကို နေ့စဉ် မပျက်မကွက် ရွတ်လေ့ရှိသည်။ မုနာဂျာသ်၊ သိလာဝသ်၊ နဝါဖိလ်လည်း အလွန်မြဲသည်။ စာဖြင့်လည်း မိမိမွရ်ရှိဒ်ထံအခြေအနေအရပ်ရပ်ကို အကြောင်းကြားလေ့ရှိသည်။ ဆရာတော်မွရ်ရှိဒ်ကလည်း ဟဇရသ်ဘက် အလွန်အာရုံထားလေ့ရှိသည်။

## အောင်ဝ်ရာဒ် ဝဇာအိဗ်

ဟာဇရည်၏သက်တမ်းတွင် သဟာဂျ်ဂျဒ်လွတ်သည်ဟူ၍ မရှိဟုဆို နိုင်ပေသည်။ လူငယ်အရွယ်သန်မာစဉ်က နေ့စဉ် ကုရ်အာန် (၃)ဂျွဇ်မှ (၅)ဂျွဇ်အထိ ဖတ်ဖြစ်သည်။ အားလပ်ချိန်တိုင်းမှာ သိလာဝတ်ပြုနေ တတ်သည်။

မရှာအိခ်မှရရှိသော ဝဇီဖဟ်များအပြင် နေ့စဉ် – နံနက်ညနေ (၃) သပ်စ်ဗီးဟ်ကိုလည်း လွတ်လေ့မရှိပေ။ နူတ်ဇိကဲရ်နှင့် နှလုံးသားဇိကဲရ် ကိုလည်းပြုလေ့ရှိသည်။

သောကြာနေ့ စူရဟ်ကဟာဖ်၊ ညစဉ် စူရဟ်ဝါကိအဟ် ဖတ်သည့် အစဉ်အလာရှိသည်။ သောကြာနေ့တွင် ဒရူးဒ်များစွာဖတ်သည့် အစဉ် အလာရှိသည့်အပြင် အမြဲသဖြင့်လည်းဒရူးဒ်ကို မလွတ်တမ်း ရွတ်ဖတ်နေ တတ်ပေသည်။

## ရောဂါနှင့်ကုသမှု

ဟာဇရည်သည် (၁၉၆၅)ခုနှစ်မှစ၍ ဆီးချိုရောဂါစဖြစ်ခဲ့သည်။ စိတ်မလျှော့ဘဲကုသခဲ့သည်။ ထိုအချိန်ကလည်း လုပ်ငန်းစံချိန်မှာ အလွန် ရေပန်းစားလျက်တိုးတက်နေသည်။ ထို့ကြောင့် ဟာဇရည်သည် ရောဂါကို ဂရုမစိုက်နိုင်ခဲ့ပေ။ အသက်အားဖြင့် (၄၅)နှစ်ပင် ရှိသေးစေကာမူ တစ် ဖြည်းဖြည်း နှလုံးရောဂါနှင့် သွေးတိုးလည်းဖြစ်လာတော့သည်။

– (၁၉၇၀)ခုနှစ်အသက် (၅၀)ခန့်က မျက်စိခွဲရန် ယောက်လမ်းရှိ အမေရိကန်ဆေးရုံတက်ခဲ့သည်။

– (၁၉၇၈)ခုနှစ် တွင် ဆီးအိမ်တွင်ကျောက်တည်သွားသဖြင့် ဆီးမသွားနိုင်ဘဲဖြစ်နေရာ ရန်ကုန်ဆေးရုံကြီးသို့ အရေးပေါ်တက်ခဲ့ရ၏။ ဆီးချို၍ ကုသရသဖြင့် သွေးစက်များပင်ယိုစီးလာသည်။ ထိုအချိန်က ခံစားချက်ကို ဟဇရဲသာသိပေမည်။ သို့သော် နှုတ်လျှာပေါ် ﷲ၊ ﷲ၊ ဟုသာတ,လျက်ရှိသည်။ အလွန်ပင် မျိုသိပ်နိုင်သူ၊ သီးခံနိုင်သူဖြစ်၏။

– (၁၉၈၃) ခုနှစ်တွင် ဒုတိယအကြိမ် မျက်စိခွဲခဲ့၏။ ၆၃နှစ်ပြည့်လေပြီ။

– အသက် ၆၄ / ၆၅–နှစ် (၁၉၈၅) တွင် ဂျပန်ဆေးရုံတွင် ဆီးကြိတ်ရောဂါ ကုစားရပြန်သည်။

– (၁၉၉၀)ခုနှစ်၊ အသက်၇၀နှစ်တွင် ဆီးချိုနှင့် သွေးတိုးရောဂါကြောင့် **(Green cross)** ပုဂ္ဂလိက ဆေးရုံတက်ရပြန်၏။

– အသက် ၇၈–နှစ် (၁၉၉၈) တွင် နှလုံးရောဂါကြောင့် အထက်ပါဆေးရုံတက်ရပြန်သည်။

– အသက် ၈၁–နှစ် (၂၀၀၂) ခုနှစ်တွင် ဆီးချိုနှင့် သွေးတိုးရောဂါကြောင့် တတိယအကြိမ် အဆိုပါဆေးရုံသို့ တက်ခဲ့ရ၏။

– (၂၀၀၅) ခုနှစ်၊ ဧပြီလ၊ ၂၁–ရက်နေ့ ကျောက်ကပ်ရောဂါအတွက် နောက်ဆုံးကုသမှုခံရန်ဗဟိုစည် ပုဂ္ဂလိကဆေးရုံသို့တက်ရသည်။

– (၂၀၀၅) ခုနှစ်၊ ဧပြီလ ၂၆–ရက် နံနက်အချိန်တွင် မတည်မြဲသော

F 9.A

ဒွန္နယာ (ယာယီစခန်း) မှ တည်မြဲသော အာခေရသ် (မြဲဌာနေ) သို့ အင်န်သိကာလ်ဖြစ် (ကွယ်လွန်) သွားပါသည်။

انالله وانا اليه راجعون ○

اللهم اغفر له وارحمه واسكنه فى الجنة

## ဟာဇရသ်၏ရုပ်ဆင်းသဏ္ဍာန်

ဟာဇရသ်၏မျက်နှာသည် အလွန်ဝင်းလက်တောက်ပ၍ ဖြူဆွတ်သည်။ ကိုယ်ကျင့်တရား မြင့်မြတ်သကဲ့သို့ ရုပ်ရည်သည်လည်း ရှုမငြီးဖွယ် စွဲမက်ပေသည်။ မြင်ရသူတိုင်းသည် ငေးမောလျက်ဖြစ်သွားရသည်။

ဦးခေါင်းလုံးသည်။ မျက်ခုံးမွေးထူသည်။ မျက်ခွံမို့သည်။ မျက်လုံးအိမ်အတွင်းအပြာရောင်သန်းသည်။ ပါးပြင်မှာအနီရောင်သန်းသည်။ နှုတ်ခမ်းအသားပြည့်၍နှာတံမြင့်သည်။ မျက်နှာထား တည်ကြည်ပြီး အရှိန်အဝါရှိသည်။ အဝေးမှမြင်သည်နှင့် ဟာဇရသ်၏အရှိန်အဝါကြောင့် ရိုကျိုးနှိမ့်ချသွားသည်။ ဟာဇရသ်၏မျက်နှာရွှင်သည်။ ပြုံးရွှင်စွာတွေ့ဆုံသည်။ အစဉ်အမြဲအပြုံးကို လွှမ်းမိုးထားသည်။

အရပ်အမောင်းမှာ အလယ်အလတ်ဖြစ်သည်။ ကျန်းမာစဉ်က အနည်းငယ်ဝဖြိုးသည်။ ပုံ့ရွယ်ချိန် လူကြီးရွယ်ထိ ဆံပင်မထား၊ သင်တုံးဓားဖြင့်တုံးလေ့ရှိသည်။ နှုတ်ခမ်းမွေးလည်းထားလေ့မရှိပေ။ မုတ်ဆိတ်ကို အခြားအရောင်ဆိုးလေ့မရှိပေ။

F.9.B

အသံသြဇာကြည်လင်သည်။ ကြားရသူမှာ စိတ်ထဲကြည်နူး ရသည်။ ချိုအေးသောအသံကြောင့် နားထောင်ချင်စိတ်ပြင်းပြလာသည်။ စလာမ်ပေးနှုတ်ဆက်သည့်ရှိသော် ဆန်းကြယ်ထူးခြားသော စကားပြောပုံကြောင့် စိတ်နှလုံးတွင် ပျော်ရွှင်မှုကိုခံစားရသည်။

ကလာမွလ္လာဟ်နှင့် ကလာမွရ်ရစူလ် (ကုရ်အာန်–ဟဒီးဆ်) ရွတ်ဆိုသံကိုကြားရသူများမှာ သီးခြားနူးရ်တစ်ရပ်ကို စူးစမ်းတတ်သည်။ ယနေ့ ဟဇရသ်၏စကားသံများမှ ကျွန်ုပ်တို့ လက်မဲ့ဖြစ်ရချေပြီ။

انالله وانااليه رجعون○

## ဟဇရသ်နှစ်သက်သောအရာများ

**ဝတ်စုံ**– ကုရ်သာဝတ်လေ့ရှိသည်။ အိဂ်ျသေမာ (သို့မဟုတ်) ဂျလ်စဟ်နှင့်ကြုံလျှင်ပေါင်းထုပ်လည်းပေါင်းလေ့ရှိသည်။

**အရောင်**– အဖြူရောင်ကိုအနှစ်သက်ဆုံးဖြစ်သည်။

**ရေမွှေး**– ပန်းပေါင်းစုံရေမွှေးကို နှစ်သက်သည်။

**အသီး**– ရာသီအသီးကိုနှစ်သက်သည်။ အထူးသဖြင့် သရက်သီးကို ကြိုက်နှစ်သက်သည်။

ဒီးန်ရေးရာစာအုပ်များကို အားလပ်သည်နှင့် လေ့လာလေ့ရှိသည်။ ကလေးသူငယ်များကိုအလွန်ချစ်သည်။ ငယ်ရွယ်နုနယ်သည်နှင့် အမျှ ချစ်စနိုးခေါင်းပေါ်လက်သပ်ပေးလေ့ရှိသည်။

ဟာဇရယ်နှစ်သက်သောအုရ်ဒူဒိုအာမှာ ။ ။ ။

- *အရှင့်ဓလေ့တော် ကရုဏာသက်ခြင်း*
- *ကျွန်တော်မျိုးကျင့်စဉ်တောင်းခံခြင်း*
- *အရှင့်ထံပါး တောင်းခံသူရဲ့ မျှော်လင့်မျှင်တန်း မပြတ်စေပါနှင့်။*
- *ဆင့်ခေါ်ပေးခြင်းကရုဏာရှင်၊ တောင်းခံသူကို နှစ်သက်ချစ်ခင်။*

## ဟာဇရယ်၏ ဖိကဟ်ကဏ္ဍ

ဟာဇရယ်သည် ခေတ်အခါသမယ၏ ဖိကဟ်ပညာရှင်ဖြစ်သည်။ ဖိကဟ်နှင့်စပ်လျဉ်း၍ ကြီးငယ်မဟူ မပ်စ်အလဟ်တိုင်းအတွက် ထိုင်ရာမထ ချက်ချင်းပင် အဖြေထုတ်ပေးလေ့ရှိသည်။ သို့သော် အများမွတ်စ်လင်မ်များနှင့်သက်ဆိုင်သော မပ်စ်အလဟ်ဖြစ်ပါက အိုလမာအဖွဲ့ချုပ်၏ အာလင်မ်များ၊ မွဖ်သီများနှင့် ညှိနှိုင်းဆွေးနွေးပြီးမှ အဖြေထုတ်ပြန်လေ့ရှိသည်။

ဟာဇရယ်ထံတစ်ဦးတည်းရောက်လာမေးမြန်းသောအခါ မေးခွန်းများစွာထုတ်၍ ဖြစ်ရပ်မှန်စူးစမ်းသည်။ လေးနက်စွာ စဉ်းစားတွေးတောပြီးပါက ကုရ်အာန်ဟာဒီးစ်နှင့် လျှော်ညီစွာ ဖိကဟ်ဥပဒေအတိုင်း ယထာဘူထ ကျကျ အဖြေကို ရှင်းပြလေ့ရှိသည်။

ဟာဇရယ်သည် မစူးစမ်းမလေ့လာဘဲ မစာအိလ်တင်ပြလေ့မရှိပေ။ ဤသို့ပင် နေကာဟ်ကဏ္ဍ၊ သွလားက်ကဏ္ဍ၊ အမွေကဏ္ဍများဆိုလျှင်ပြတ်သားရှင်းလင်းသော ဖိကာဟ်ဥပဒေအတိုင်းပင် အဖြေပေးလေ့ရှိသည်။ မည်သူ့ကိုမျှမထောက်ပဲ စစ်မှန်ရှင်းလင်းသော ဒီးန်ရဲ့မပ်စ်အလဟ်ကိုပြောပြရာတွင် ရှရီအသ်တရားတော်ကို ထိန်ချန်ဆန့်ကျင်သည့် အဖြေမျိုးမဖြစ်ရန်အထူးကရုစိုက်သည်။

## သဖ်စီးရ်နှင့်ဟဒီးဇ်

ဟာဇရယ်သည် မုဖပ်စ်စီရ်ကုရ်အာန်ဖြစ်သလို မုဟဒ်ဒိစ်လည်းဖြစ်သည်။ ဒါရွလ်အိုလူမ်တွင် ကနဦးပိုင်းက ဂျလာလိုင်းန်သဖ်စီးရ်ကျမ်းကိုအဆင့်မြင့်စနစ်ဖြင့် သင်ကြားပို့ချပေးလေ့ရှိသည်။

ဟဒီးဆ်ပါရဂူလည်းဖြစ်ရာ ဂျာမိအဟ်များတွင် ဆွေဟာဟ်စိသ်သဟ်ဟဒီးဆ်ကျမ်းကိုလည်း သင်ကြားပို့ချပေးသည်။

နောက်ပိုင်း ဒအ်ဝသ် သဗ်လီဂ်လုပ်ငန်းများအရသော်လည်းကောင်း၊ အင်အားချိနဲ့လာသောကြောင့်လည်းကောင်း၊ နစာအီကျမ်းသာပြလေ့ရှိခဲ့သည်။ အင်အားချည့်နဲ့နေသော်ငြားလည်း စာသင်ကြားနိုင်သမျှမဒ်ရစဟ်များသို့သွားရောက်ကာ ပညာအမွေများ ပို့ချပေးကမ်းလျက်သာရှိခဲ့သည်။

အချုပ်မှာ ပညာရေးနက်ရှိုင်းမှု၊ ကျယ်ပြန့်စွာစူးစမ်းလေ့လာမှုတွင်၊ အကျော်အမော်ပညာရှင်များအနက်မှ တစ်ပါးအပါအဝင်ဖြစ်သည်။ ကုရ်အာန်ဟဒီးဆ်နှင့်သင်္ဘလီးဂ်ကြိုးပမ်းမှုကို တပြိုင်တည်းပူးတွဲကာ တစ်ဖက်တွင် ဝေးလံခေါင်သီသောဒေသမှ သွာလိဗ်းန် (ပညာမက်သူ) များအားလည်းကောင်း၊ နောက်တစ်ဖက်တွင် မြို့ရွာအသီးသီးသို့ သွားရောက်၍ဂိုင်ရ်သာလိဗ်းန်( အိလ်မ်မမက်သူ) များအား လည်းကောင်း အရှင်မြတ်အဟ်ကာမ်နှင့်တမန်တော်မြတ်၏ဟဒီးစ်တော်များကိုပို့ချခဲ့သည်။

## အမွေဘာသာရပ်

ဟဇရသ်သည် အမွေကဏ္ဍတွင်လည်း အလွန်ကျွမ်းကျင်သည်။ လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ဖြစ်စေ၊ မေးမြန်းလာသော်၊ ဆုံးဖြတ်ချက်ရယူလိုသော် ၎င်းတို့ထံမှ အစကတစ်ဖန် ပြန်လည်မေးမြန်းပါသည်။ အကြောင်းစုံလင်သိရပြီးလျှင် အမွေဖြတ်ထုံးစာအုပ်ကို ဖွင့်ကြည့်ရန်မလိုတော့ဘဲ ကျမ်းလာယတိပြတ်ဥပဒေအရ တစ်ထိုင်တည်းမှာပင်အမွေဝေစုများကို သတ်မှတ်ပေးလေ့ရှိသည်။

ဒီးန်ရေးရာတွင် သားချင်းလား၊ ရင်းနှီးသူလားဆိုသည်ကိုမမူ၊ ကုရ်အာန်ဟဒီးဆ်က ဘာပြသလဲ၊ အလ္လာဟ့်ရစူလ်က ဘာမိန့်သလဲ ဆိုတာကိုပဲပြတ်သားစွာ ဆုံးဖြတ်ပေးခဲ့သည်။

ဒီးန်ရေးရာထမ်းဆောင်ရာမှာ အလ္လာဟ့်အတွက် ရည်စူးလျက်အလ္လာဟ့်ထံအကျိုးရယူမည့် နီယသ်ဖြင့်သာ ဆောင်ရွက်လေ့ရှိခဲ့သည်။

# ရှယ်ဒ်- သက္ကဝါ

ဟဇရသ်သည် လောကီမက်ကင်းသူ၊ အေဗာဒသ်ကိုအလွန်ခုံမင်သူဖြစ်သည်။ သက်တမ်း၏မိနစ်၊ စက္ကန့်တိုင်း၌သက္ကဝါကိုအလွန် ဂရုစိုက်သည်။ ဒီးန်နှင့်ဒွန္နယာနှစ်ခုစလုံးတွင် ကုရ်အာန် ဟဒီးစ်အမိန့်ပညတ်တော်ရှေ့ထား၍ လိုက်နာကျင့်သုံးသည်။ စားသောက်သည့်အခါလည်း ပိုင်၊ မပိုင် ဟလာလ်နှင့်ဟရာမ်ကို အထူးဂရုပြုရာ သက္ကဝါဝတ်စုံဆင်မြန်းသူပင်ဖြစ်သည်။

ရှရီအသ်အရခွင့်မပြုဟု သံသယပင်ဖြစ်နေလျှင် ချက်ချင်းပင်ယင်းကိစ္စကို စွန့်လွှတ်လိုက်သည်။ ရှရီအသ်တော်အရ ခွင့်ပြုမှန်းသိရလျှင်ငင်းကိစ္စကို အထူးဦးစားပေးဆောင်ရွက်လေသည်။

ဒွန္နယာရဲ့စွဲလန်းမှုမရှိ၊ လောကကို ခင်တွယ်မှုသည် စိတ်ထဲစိုးစဉ်းမျှမရှိ။ အာခိရသ်ကိုတမ်းတနေမည်။ မော့သ်နှင့်နောင်တမလွန်၏ထာဝရ သက်သာမှုရရှိရေးကို တမ်းမက်နေသည်။

# ဆွဗရ်နှင့်ရှုကုရ်

အလွန်ပင်သီးခံမျိုသိပ်သူ၊ နိအ်မသ်တော်ကို အလွန်တန်ဖိုးထားကျေးဇူးပြုသူဖြစ်သည်။ ဘဝတစ်လျှောက်လုံး ခက်ခဲသော သောကဖြစ်စရာ၊ ဘေးဒုက္ခများကြုံလာသည့်အခါ မျိုသိပ်၍ သည်းခံသောဝသီကိုလက်ခံကျင့်သုံးသူဖြစ်သည်။

စားဝတ်နေရေးအတွက် စီးပွားဖြစ်စရာ ဟဇရသ်မှာဘာမျှမရှိ။ ခံနိုင်ရည်**ရှိလှ**သော အရည်အချင်းကိုလက်ကိုင်ထားပေသည်။ ရသမျှနှင့်

တင်းတိမ်ကာ ရှုကွက်ပြု၍ ပျော်ရွှင်နေတတ်သည်။

ရောဂါဘေးဒုက္ခများ အစီအရီခံစားနေရသော်လည်း "အွဖ်" ဟူ၍ပင် ပါးစပ်မှမထွက်ခဲ့ပေ။ အလ္လာဟ်၊ အလ္လာဟ်ပင် တ,သနေတော့သည်။ ဤသည် ဝိလာယသ်၏ အဆင့်အမြင့်ဆုံးပင်မဟုတ်ပါလား။

## သဝါဒ္ဓအ်

လူတန်းစားအသီးသီးရှေ့တွင် ကျိုးငဲ့တတ်သည်မှာ ဟဇရသ်၏ ပင်ကိုယ်သဘာဝပင် ဖြစ်သည်။ ကလေးငယ်ပင်ဖြစ်စေ၊ ဦးစွာစလာမ်ပေးကာ ပြုံးရွှင် နူတ်ရွှင်စွာ ကျန်းမာရေးမေးမြန်း လေ့ရှိသည်။ အထူးသဖြင့် ခေတ်ပြိုင်အာလင်မ်များဆိုမူ ဂျလ်စဟ်တွင်ဖြစ်စေ၊ ထိုင်ဝိုင်းတွင်ဖြစ်စေ၊ ဗယာန်၊ ဒိုအာအတွက် ဦးစားပေးလေ့ရှိသည်။

သဗ်လီဂ်၊ ဗယာန်ဖြစ်တိုင်း လူသစ်၊ လူဟောင်းမည်သူပင်ပြောသည်ဖြစ်စေ၊ လိုလားတပ်မက်စွာ ယခုမှပင်ကြားသိရသည့်အလား ရိုကျိုးစွာ အစမှအဆုံးနားဆင်လေ့ရှိသည်။

## သဟာမ်မွလ်

စိတ်တိုင်းမကျသောအခြေအနေနှင့် ကြုံရသည့်အခါဖြစ်စေ၊ သောကဖြစ်စရာပြဿနာနှင့် ဆုံရသည့်အခါဖြစ်စေ၊ စိတ်ငြိမ်တည်ကြည်စွာ ဖြေရှင်းလေ့ရှိသည်။

လေးဖက်လေးတန်မှ အနှောက်အယှက်များဝင်လာသော်လည်း မျက်နှာမှာ ရွှင်ပြလျက် တည်ကြည်မှုရှိလှသည်။

အပြင်ကဖြစ်စေ၊ အတွင်းကဖြစ်စေ၊ ဘယ်လိုလူတန်းစားပင် ဖြစ်စေ၊ တိုက်ခိုက်မှုပြုလာလျှင် တုတ်တုတ်မျှမလှုပ်ဘဲ ခေါင်းအေးအေး ဖြင့် အဆင်ပြေချောမွေ့သွားအောင် ဖြေရှင်းတတ်သည်။ မဒ်ရဆယ်များ တွင်လည်း ဤသို့ရှုပ်ထွေးမှုများပေါ်လာလျှင် အားလုံးကျေနပ်သွား လောက်အောင် စကားစမြည်ပြောဆိုကာ ငြိမ်သက်သွားအောင် ဖန်တီး တတ်ပေသည်။

## ရဲရင့်သောသတ္တိ

အရှင်မြတ်မှတစ်ပါး အခြားမည်သူ့ကိုမျှ ထိတ်လန့်ကြောက်ရွံ့ စိတ်မထားခဲ့ပေ။ ညအမှောင်ထွမ်းမိုးနေသည့်အချိန်တွင် ကန်တော်ကြီး စောင်းမှ ခြေလျှင်ဖြတ်လျှောက်ကာ တာမွေနေအိမ်သို့ တစ်ဦးတည်း ပြန်လာတတ်သည်။

(၁၉၈၈)ခုနှစ် တွင် အခြေအနေယိမ်းယိုင်နေချိန်၊ ဆန္ဒတွေပြလို့ လမ်းတွေပိတ်ထားသော်လည်း အစောင့်အကြပ်ကင်းမဲ့စေကာမူ မရ်ကဇ် ဗလီသို့ နေ့စဉ်မပျက်တစ်ဦးတည်းကြွမြန်းလေ့ရှိသည်။ သက်ဆိုင်ရာမှ သဗ်လီးဂ်အကြောင်း မေးမြန်းလာသော်လည်း ရဲရင့်သောစိတ်ဓာတ်ဖြင့် တည်ကြည် ခန့်ညားစွာပင်ဖြေကြားလေ့ရှိသည်။

# သစ္စာသမာဓိ

ဒိုးန်ကိစ္စဖြစ်စေ၊ ဒွန္ဒယာကိစ္စဖြစ်စေ၊ လုပ်ငန်းတိုင်းကို သစ္စာစောင့်သိစွာဆောင်ရွက်လေ့ရှိသည်။ ဟာဇရယ်ထံ သားချင်းများနှင့် မိတ်ဆွေများမှငွေကြေးများနှင့် လက်ဝတ်ရတနာများ အပ်နှံလေ့ရှိသည်။ အချို့ဆိုလျှင် ၎င်းတို့၏အရေးပါလှသော စာရွက်စာတမ်းများလည်း အပ်နှံထားကြသည်။ အမာနသ်ထားသကဲ့သို့ပင် ပစ္စည်းရှင်အားပြန်လည် အပ်နှံလေ့ရှိသည်။ ဘယ်သောအခါမှ အလွဲသုံးစားပြုလေ့မရှိပေ။

ဒိုးန်နှင့်ပတ်သက်၍ လျှို့ဝှက်အကြံပြုလာလျှင်လည်း အမာနသ်အသိဖြင့်မှတ်ထားလေ့ရှိသည်။ ဟာဇရယ်သည် အမှန်တရားကြိုက်သော၊ အမှန်ကိုသာပြောလေ့ရှိသော၊ သစ္စာသမာဓိရှင်ဖြစ်သည်။

# ဟိခ်က်မသ် အမြော်အမြင်

အမြော်အမြင်ကြီးပုံမှာ တစ်ဦးချင်းဖြစ်စေ၊ အုပ်စုအသင်းအဖွဲ့ဖြစ်စေ၊ အဘယ်မျှပင်ခေါင်းမာပြီး လက်မခံဘဲရှိနေပါစေ၊ ဟာဇရယ်၏ ယုယသောလေသံ၊ အမြော်အမြင်ပြည့်ဝသောစကားတို့ကြောင့်၊ ခေါင်းငိုက်စိုက်ကျကာ အမိန့်နာခံရန်အသင့်ဖြစ်သွားပေသည်။

ဟာဇရယ်၏ ပင်ကိုယ်သဘာဝ၌ စကားမထန်၊ နှုတ်မကြမ်းတတ်ပေ၊ကြားရသူတိုင်းသည်သံမဏိကျောက်တုံးကျောက်ခဲပမာနှလုံးသားမာကြောသော်လည်း ဖယောင်းပမာ နူးနယ်ပျော့ပြောင်း သွားတော့သည်။

ဟာဇရယ်သည် တစ်ဖက်သားလက်ခံရေးအတွက် ဆူပူကြိမ်းမောင်းသော အသွင်ကိုမသုံးပါ။ ဉာဏ်ရည်ပြည့်ဝသော ကြံစည်နည်းကိုသာ သုံးလေ့ရှိသည်။

ဒအ်ဝသ်သဗ်လီဂ်၊ အိုလမာအဖွဲ့၊ မဒ်ရဆဟ်၊ ဗလီနှင့် ပတ်သက်သည့် ခက်ခဲမှုများရှိနေလျှင် ဟာဇရယ်၏ အမြော်အမြင်ပြည့်ဝသော အကြံဉာဏ်ဖြင့် နောက်ဆုံးပြေလည်မှုရရှိသွားပေသည်။

## ကောင်းမြတ်သော ကိုယ်ကျင့်တရားများ

နူတ်ချိုမျက်နှာရွှင်ရုံမဟုတ်ဘဲ ခြေဆုံး၊ ခေါင်းဆုံး စာရိတ္တအလှပိုင်ရှင်ဖြစ်သည်။

မွတ်စ်လင်၊ ဂိုင်ရ်မွတ်စ်လင်မ် အဆင့်အတန်းမခွဲခြားဘဲ၊ တစ်မျိုးတစ်စားတည်း ဆက်ဆံပေသည်။ အစ္စလာမ်နှင့်အီမာန်ကိုရှေ့ရှုပြီး မွတ်စလင်မ်ဆိုလျှင် တန်ဖိုးထားလေ့ရှိသည်။

မည်သည့်လုပ်ငန်းအတွက်ပင်မဆို ဟာဇရယ်ထံရောက်လာသည်ဖြစ်စေ၊ မျှော်လင့်ချက်ကင်းမဲ့အောင်ပြုလုပ်လေ့မရှိပေ။ နူတ်အားဖြင့်ဖြစ်စေ၊ စာရေးသား၍ဖြစ်စေ၊ တတ်နိုင်သမျှ ကူညီသဖြင့် ကျေနပ်ဝမ်းသာစွာ ပြန်ခွင့်ရကြပေသည်။

## မင်္လူးက်ကိုခ်ဳဒ်မသ်ပြုခြင်း

ဟာဇရသ်၏ ပင်ကိုယ်သဘာဝစိတ်ထားကိုက မင်္လူးက်၏ခ်ဳဒ်မသ်ပြုရေးကို အလွန်အားသန်လေသည်။ လူတို့၏အကျိုးဆောင်ခြင်းသည် မိမိတာဝန်ဟုခံယူထားသဖြင့် အတတ်နိုင်ဆုံးနွစ်ရသ်ပြုလေ့ရှိသည်။ ဟာဇရသ်သည် အာမ လီယာသ်ဖြင့် လစ်လ္လာဟ်ကူညီလေ့ရှိသည်။

ဂျာဒူ၊ ပယောဂဖြစ်လျှင် သအ်ဝီးဇ်ရေး၍ဖြစ်စေ၊ မန်းမှုတ်၍ဖြစ်စေကူညီလိုက်လျှင် အရှင့်အလိုတော်အရ ချက်ချင်းကျန်းမာရေးရရှိသွားသည်။ ကလေးပျောက်ဆုံး၊ ပြေးသွားလျှင် ၎င်းပြန်လာရန် အလ္လာဟ့်အတွက် အမလ်ပြုပေးလိုက်သော် မကြာမီ ၎င်းကလေးမှာ ပြန်လာတော့၏။

---

## ဟာဇရသ်၏အိပ်မက်

ဟိဂျ်ရီ (၁၄၂၅) ခုနှစ် ရဗီအွလ်အောင်ဝလ်လ (၁၇) ရက် သောကြာနေ့နံနက်အိပ်မက်တွင် တမန်တော်မြတ်ကြီး မုဟမ္မဒ်၏ ရစူလွလ္လာဟ် (صلى الله عليه وسلم) ကို အိပ်မက်တွင်ဖူးမြင်ခဲ့သည်။

တမန်တော်မြတ် (صلى الله عليه وسلم) သည်ကျွန်ုပ်တို့အိမ်သို့ကြွမြန်းလာသည်။ ကိုယ်တော်နှင့်အတူ အဆ်ွဟာဗ်တော်များ၏ ဂျမာအသ်လည်းလိုက်ပါခဲ့သည်။ တမန်တော်မြတ် (صلى الله عليه وسلم) က ကျွန်တော့်ကိုစက်တစ်လုံးချီးမြှင့်တော်မူသည်။ အိပ်မက်နှင့်ဝဖားသ်ဖြစ်သည့်အကြား (၁)နှစ်တိတိကြာညောင်းခဲ့သည်။ ထိုအချိန်က နေဇာမွဒ်ဒီးန်မှတာဝန်ခံများ

ဂျမာအသ်သည်လည်း ကြီးပမ်းနေသည်။ ထိုစဉ်က ဟာဇရသ်၏အသက်မှာ (၈၇)နှစ် ရှိပေပြီ။

## ဟာဇရသ်၏မိခင်မက်မြင်ခဲ့သောအိပ်မက်

ဟာဇရသ်၏အမကြီး ရှရီဖဟ်ဆာဟိဗဟ်ကပြောပြသည်။ ဟာဇရသ်၏မိခင် ဗိုင်နဗ် ဆာဟိဗဟ်သည် ဟာဇရသ်အား ကိုယ်ဝန်လွယ်ထားစဉ် တစ်ည လပြည့်ဝန်းအားမြင်မက်ခဲ့သည်။ ဟာဇရသ်မှာ အရှင်မြတ်၏ဝလီအချစ်တော်ဖြစ်မည့်အကြောင်းကို အရိပ်နိမိတ်ပြသခြင်းပင်။

ဤအကြောင်းကို ဟာဇရသ်ကတော်က ပြန်လည်ပြောကြားခဲ့သည်။

**– (၁၄၂၅) ခုနှစ်၊ ရဂျဗ်လ၊ ၂၁–ရက်နေ့က ဟာဇရသ်သည် ဂျန္နသ်ဝင်သတင်းပါးခြင်းခံရကြောင်းတင်ပြသည်။**

(၂၀၀၄) ခုနှစ် ဩဂုတ်လ၊ ၇–ရက်မှစ၍ ဟာဇရသ်၏သားငယ်မော်လဝီအိလ်ယားစ်သည် ဟာဇရသ်၏ဘဝဖြစ်စဉ်အကြောင်း ဟာဇရသ်အားမေးမြန်း၍ စတင်ရေးသားရာ –

ဟာဇရသ်က ‘အပါနှင့်အမာဟာဂျန္နသ်၏ဥယျာဉ်များမှာလှည့်ပတ်ပျော်ပါးလျက်ရှိပါတယ်။ မင်းအမေဆိုရင် ဒီနေ့အတော်လှနေလို့ပဲ’ လို့ပြောလိုက်တယ်။

အိပ်မက်မြင်မက်ကြောင်း သတင်းများစွာရရှိပါတယ်။ သို့သော် ဤအိပ်မက် ၃–ခုမျှနှင့် နိဂုံးချုပ်လိုက်မယ်။

## မာမူ့ရဲ့တပည့်များထံပေးစာ
## ဂုဏ်ပေးလေးစားချစ်ခင်ရသော
## မော်လာနာဟာဖိဇ်အဗ်ဒွလ်ကာဒိရ်  စလ်လမဟူးထံ

السلام‌علیکم‌ورحمة‌اللهِ‌وبرکاته

နှာလည်းစေး၊ ခေါင်းလည်းကိုက်နေတာ ၃၊၄ရက်ရှိပြီ။ ဒါကြောင့် နက်ဖန် တနင်္ဂနွေအဆွရ်ပြီးအစီအစဉ်ကို ခင်ဗျားပဲတာဝန်ယူလိုက်ပါ။ အကယ်၍ တမန်တော်မြတ် (صلی‌الله‌علیه‌وسلم) ၏ ဟဂ်ျဂျသွလ်ဝေဒါ ခရီးစဉ်ကို စာအုပ်မှဖတ်ပြဘာသာပြန်လိုက်ရန်လည်း  သင့်တော်ပါတယ်။ ဒါမှမဟုတ် ခင်ဗျားသင့်တော်စဉ်းစားမိတာကို ဗယာန်လုပ်နိုင်ပါတယ်။

ဗန္ဒဟ် မုဟမ္မဒ်ဆွာလေဟ်

၁၄ ဇီကအ်ဒဟ် ၁၄၀၆

---

## လေးစားအပ်ပါသော  မော်လာနာမော်လဝီဟာဖိဇ်
## အဗ်ဒွလ်ကာဒိရ်ဆပ်နှင့်  ခရီးအဖော်များ

السلام‌علیکم‌ورحمة‌اللهِ‌وبرکاته

၂၇ ရက်နေ့စွဲပါစာအရ၊ ခရီးစဉ်နှင့်ကာရ်ဂိုဇာရီ သိရ၍ ဝမ်းသာမိပါတယ်။ ရမ်ဇာန်လတုန်းက ဗန္ဒဟ်သည် တောင်ငူနှင့်ကော့ကရိတ်သို့ ခရီးထွက်ခဲ့ပါတယ်။  ယခု ဒါကာဂျမာအသ်ရောက်နေပါတယ်။ ဒီဂျမာအသ်သည် ဗန်ကောက်နှင့်မလေးတို့ပူးပေါင်း၍ အင်ဒိုနီးရှား ဆူမာ

တြာကျွန်း အစ်ဂျ်သိမာအတွက် အိန္ဒိယပါကစ္စတန်ဂျမာအသ်နှင့်ပူးပေါင်းပြီး အတွင်းအပြင် အကြိုကြိုးပမ်းကြမည်။

မလေးနှင့်အင်ဒိုမှာ မာရှာအလ္လာဟ် လုပ်ငန်းရဲ့ကြိုဆိုမှုဘက် အာရုံသန်နေပါတယ်။ ယခုလို ဒွန္ဒယာတစ်လွှားကြိုးပမ်းမှုနှင့် ခင်ပျားတို့ရဲ့ သွားလာမှုများကို ကမ္ဘာ့ဟောဒါယသ်အတွက် ကဗူလ် ပြုတော်မူပါစေ။

မွဖ်သီဆပ်သည် ‌လာမည့်လ ဟိဂျာဇ်သို့သွားရန်ရှိပါတယ်။ ဗန္ဒဟ် လည်း ဟရမိုင်းန်သို့ သွားရန် အတည်ပြုဆုံးဖြတ်ထားပါပြီ။ မိတ်ဆွေများ ဗန္ဒဟ်အတွက် ဆွလာသွလ်ဟာဂျသ်အကြိမ် ကြိမ်ဖတ်၍ ဒိုအာတောင်းပါ။ ခရီးဖော်များကိုလည်း ဒိုအာအတွက် မေတ္တာရပ်ခံပါ။

မော်လဝီအေယာဇ်ဆပ် (စလ်လမဟူ) က မောင်မင်းရဲ့နေကာဟ်၊ ရွှခ်စသီကိစ္စ မရှိဝရာယူပါတယ်။ ကျစ်လ္လာဖြည့်လျက် ရန်ကုန်ရောက်ရင် ဒီကိစ္စဆောင်ရွက်လိုက်ကြမယ်။

တမန်တော်မြတ် (صلى الله عليه وسلم) ရဲ့ အွမ္မရဟ် ခရီးစဉ်တွင် မိခင်မွန်မိုင်မူနဟ်သခင်မ နှင့် နိကာဟ်ရွှခ်စသ် – စရိဖ်မည်သော နေရာ တွင် ဖြစ်ခဲ့သည်။

ဒေသခံသာသနာ့မိတ်ဆွေများ ခရီးဖော်များ လာရှိုးမိတ်ဆွေများ အာလင်မ်များကို အထူးသဖြင့် မော်လာဝီမဟ်မူဒွလ်ဟစံနှင့် မော်လဝီ ဟုစိုင်န်တို့ကို စလာမ်မပ်စ်နူန်ဒိုအာအတွက် လျှောက်ထားကြောင်း ကိုလည်း ပြောလိုက်ပါ။

၂–ဇီကာအ်ဒဟ် ၁၄၀၀၊
၁၃၊ စက်တင်ဘာ ၁၉၈၀

ဂုဏ်ပေးလေးစားရပါသော –
နောင်တော်မော်လဝီမုဟမ္မဒ် အိဗ်ရာဟင်မ် (ဂျမာအသ်အမီးရ်)

اسلام‌علیکم‌ورحمةاللهِ‌وبرکاته

အသင်ရဲ့ ကာရ်ဂိုဇာရီ စာရရှိ၍ ဝမ်းသာပါတယ်။ အရှင်မြတ်ကြီးပမ်းများကို ကဗူလ်ပြုတော်မူ၍ အွမ္မသ်ရဲ့ ဟေဒါယသ် ဖိုင်ဆွလာဟ်ချမှတ်တော်မူပါစေ။ အာမီးန်။

အသင်ယခုဖိက်ရ် ပူဆွေးခံစားမှုနှင့်တကွ ကြိုးပမ်းနေတဲ့ဒေသမှာ တစ်ချိန်က ဒွလာလသ်၊ ဂျဟာလသ်၊ ဂဖ်လသ်လွှမ်းမိုးခဲ့ပါတယ်။ ကျွန်တော့်ရဲ့ပေါ့လျော့မှု၊ ပျင်းရိမှုကြောင့် ထိုဒေသမှာ ဒအ်ဝသ်ရဲ့အသံပို့ဆောင်ရေးအလွန်နည်းပါးခဲ့ပါတယ်။ ပျဉ်းမနား အိဂျ်သိမာမတိုင်မီနဲ့ အိဂျ်သိမာပြီးနောက် အချို့ဂျမာအသ်များရောက်ရှိပြီး အသံပြုဆော်သြခဲ့ကြပါတယ်။

အလ်ဟမ်ဒုလစ်လ္လာဟ်၊ ယခုဒအ်ဝသ်နဲ့ ယဉ်ပါးလာကြပါပြီ၊ မနှစ်က မော်လမြိုင်ကျွန်းမှာ အိဂျ်သိမာလည်းဖြစ်ခဲ့ပါတယ်။ ကြိုးပမ်းပါ။ ဒအ်ဝသ်ဒိုအာပြုပါ။ အင်န်ရှာအလ္လာဟ်မုစွရ်ရိဖွလ်ကုလူဗ် အရှင်မြတ်ငင်းတို့ရဲ့ စိတ်နှလုံးများကို ဟတ်က်ဘက်သို့ ပြောင်းပေးတော်မူမယ်။

ဟိဒါယသ်နဲ့ စွန္နသ်ရဲ့နူးရ်များကို နှလုံးသားထဲ ထည့်သွင်းပေးတော်မူမယ်။ မာရှာအလ္လာဟ်၊ အသင်ရဲ့အဖော်များမှာ အာလင်မ်များလည်းပါဝင်ပါတယ်။ အိက်ရာမ်နှင့်တကွ ၎င်းတို့ကို လုပ်ငန်းသင်ပေးပါ။ ဒါအီအသွင်ဆောင်သွားအောင် စွမ်းဆောင်ပါ။ ၎င်းတို့ကို အကြိမ်ကြိမ်

သတိပေးနိုးဆော်ပါ။**ဉစ္စာပစ္စည်းရဲ့မာန အပူရှိန်မြင့်တက်သလို အိလ်မ်ပညာရဲ့မာနအပူရှိန်သည်လည်း ထိုသို့ပင်မြင့်တက်လာ တတ်ပါတယ်။ မာနသည် ရောဂါများ၏အရင်းအမြစ်ဖြစ်သလို ကျိုးရှိမှုဟာ ကောင်းမွန်သောကိုယ်ကျင့်တရားများ၏ အခြေခံဖြစ်တယ်။** ၎င်းတို့ကို ချစ်ခင်ယုယစွာ၊ လိမ္မာပါးနပ်စွာ ကြိုးပမ်းပေးပါ။

အာလင်မ်များရဲ့အမည်နဲ့သီးခြားတစ်စောင်၊ မော်လဝီ မုဟမ္မဒ်အွတ်စ်မာန်ရဲ့စာတစ်စောင်၊ (အသင်လည်းဖတ်လိုက်ပါ) ထည့်ပေးလိုက်တယ်။

ဂျမာအသ်မှာဆိုးသွမ်းပြီး မထိမ်းချုပ်နိုင်သည့်အပြင် အခြားသူအဖို့လည်း ပျက်စီးနိုင်ချေရှိရင် ၎င်းတို့ရဲ့အကျင့်ဆိုးကိုလည်း မစွန့်လွှတ်ကြလျှင် မတတ်သာတဲ့အဆုံးပေါ့။ ခရီးစရိတ်နဲ့ ၎င်းတို့ရဲ့အခြေအနေရေးထားတဲ့ စာတစ်စောင်ပါပါးပြီးပြန်လွှတ်လိုက်ပါ။

မော်လဝီမုဟမ္မဒ်အိလ်ယားစ်နဲ့ အဖော်တစ်ဦး အသင့်ဂျမာအသ်တွင် အချိန်ပေးရန်ရောက် လာမယ်။ ၎င်းတို့ကို မိမိနဲ့ပူးပေါင်းထားပါ။ ရွာတိုင်း၊ မြို့တိုင်းမှာ (၃)ရက်မှ (၅)ရက်အထိ ဖောက်ချ ကြိုးပမ်းပါ။ အလျှင်အမြန်ရွှေ့ဖို့မဆိုင်းပြင်နဲ့။ လက်ငင်းသရုံကီးလ်လုပ်ပါ။

အလ်ဟမ်ဒုလစ်လ္လာဟ်၊ အမျိုးသား၊ အမျိုးသမီးများ ဟဂ်ျသို့ အဲဟ်ရာမ်ပြုများဖြင့် ရန်ကုန်မှ ဗိုင်သွလ္လာဟ်သို့ သွားကြတဲ့မြင်ကွင်းဟာ ဂိုင်ရ်မွတ်စ်လင်မ်များနဲ့ သက်ဆိုင်ရာဌာနများက ပါတွေ့မြင်ပြီး အလွန်ပင်

စိတ်ဝင်စားကြပါတယ်။ အဲဟ်ရာမ်နဲ့ဟဂ်ျသွားကြတာ ယခုပထမအကြိမ် ဖြစ်ပါတယ်။ ဒီလိုဖြစ်လာတာဟာ အရှင်မြတ်ရဲ့ကျေးဇူးတော်ပဲ။ အရှင်မြတ် ၎င်းတို့ရဲ့ဟဂ်ျကို ကောင်းမှုဖြင့်ပြည့်ဝသော အမလ်အဖြစ် လက်ခံတော်မူပါစေ။ ကျွန်တော်နှင့်အသင်တို့ကိုလည်း အကြိမ်ကြိမ် ဒါအီယာနာဟဂ်ျနှင့် အာရှိကာနဟ်ဇီယာရသ် ချီးမြှင့်တော်မူပါစေ။

အားလုံးကို စလာမ်နှင့်ဒုအာအတွက်ပန်ကြားကြောင်း၊

فقط والسلام

ပန္ဒဟ် – မုဟမ္မဒ်ဆွာလေ

ဇိလ်ဟဂ်ျလ (၆) ရက် ၊ ၁၄၀၁

## မော်လဝီ စေရာဂျုဒ်ဒီးန် ဆွာဟိဗ် (ရေလည်ကျေ)

မော်လာနာရဲ့ ပေးစာရရှိပါတယ်။ မော်လာနာဆပ်၏(၇)ကျစ်လ္လာကို အလ္လာဟ်အရှင်မြတ် လက်ခံတော်မူ၍ သေဆုံးသည့်တိုင် ဤအလုပ်အတွက် လက်ခံတော်မူပါစေ။ အာမီးန်

မော်လာနာဆွာဟစ်ပ်သည် (၇) ကျစ်လ္လာဟ်ထွက်နေစဉ် တွေ့ကြုံခံစားဖြစ်ပေါ်လာရသော သာသနာ့ခံစားချက်ကို ကြံခိုင်မှု၊ အစ်ခ်လားစ်နှင့်အတူ မိမိ၏လုပ်ငန်းသဖွယ်မှတ်ယူကာ မကာမီလုပ်ငန်းတွင် ပါဝင်သင့်ပါသည်။ ပထမအနေဖြင့် မိမိ၏ဒေသတွင် လုပ်ငန်းကိုစတင်သောအခါ စောဒကတက်မှုများကို ကြားရပေမည်။ ဤသို့သော စောဒကတက်မှုကို

ကြုံတွေ့ရသော ကျွန်ုပ်တို့၏ခေါင်းဆောင်တမန်တော်မြတ် (صلى الله عليه وسلم) ၏ ဒုက္ခခံမှု၊ မုဂျာဟာဒဟ်များကို စဉ်းစားပါ။ နဗီတမန်တော်များကိုယ်တိုင် ဤမျှ အခက်အခဲဒုက္ခမုဂျာဟာဒဟ်လုပ်ခဲ့သော ကျွန်ုပ်တို့အတွက် သရ်ဂီဘီး နေစဉ်တစ်ခုရှိရန် အဘယ်မျှအရေးကြီးသနည်း။ (၇)ကျစ်လ္လာဟ်နေစဉ် ကတော့ လုပ်ငန်းကိုသင်ယူရန် ဖြစ်ပါတယ်။ ယခုမိမိ၏အိမ် မိမိ၏ ပတ်ဝန်းကျင်၊ မိမိ၏ဒေသ၌ ဒအ်ဝသ်လုပ်ငန်းကို ရှင်သန်အောင်ပြုရမှာ ဖြစ်ပါတယ်။ တမန်တော်မြတ် (صلى الله عليه وسلم) ၏ အမွေစားအမွေခံ ဖြစ်သည်နှင့်အညီ ဒအ်ဝသ်လုပ်ငန်းကို မိမိဇင်ဒဂီသက်တမ်း၏ ရည်ရွယ် ချက်ပန်းတိုင်ဟု မှတ်ယူရမည်။

ကုန်သည်၏ပန်းတိုင်က အရောင်းအဝယ်ဖြစ်သည်။ တောင်သူ လယ်သမား၏ပန်းတိုင်က လယ်ယာလုပ်ငန်းဖြစ်သည်။ သို့ဖြစ်ပေရာ မော်လာနာ၏ ပန်းတိုင်အဓိကအလုပ်က ဒအ်ဝသ်ဖိတ်ခေါ်မှုဖြစ်သင့်ပေ သည်။

မော်လာနာ၏ဘဝတွင် တခြားလုပ်ငန်းများက လွှမ်းမိုးလာပြီး ဒအ်ဝသ်လုပ်ငန်းကို အရေးမကြီးဟုမှတ်ယူခြင်းသည် လုံးဝမဖြစ်သင့်သော ကိစ္စရပ်ဖြစ်ပေသည်။ ဒအ်ဝသ်လုပ်ငန်းဖြစ်စေ၊ အေဗာဒသ်လုပ်ငန်း ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်၏ကျေနပ်မှုကိုရှေ့မှာထား၍ လုပ်ရပေမည်။ အလ္လာဟ်အရှင်မြတ်အတွက် သက်သက်လုပ်ရမည်။ ဤသို့ အစ်ခ်လားဆ်ရှိသူတို့၏ ကြိုးပမ်းမှုကြောင့် တစ်လောကလုံးကို အကျိုးသက်ရောက် မှုရှိပေသည်။ အကယ်၍ အစ်ခ်လားဆ်မရှိပါက ကျော်ကြားမှုနှင့် ဂုဏ်ရှိရန် အတွက် အလုပ်လုပ်လာလိမ့်မည်။ ထိုအခါ ဂျဟန္နမ်သို့ ဦးစွာဝင်ရောက်

ရမည့်သူဖြစ်လိမ့်မည်။ ဤအတွက် မိမိ၏အစ်ခ်လားဆွဲကို အမြဲစူးစမ်းနေပါ။ အမိရ်၏မရှုဝရပ်အတိုင်းကြိုးပမ်းနေပါ။ အလ္လာဟ်အရှင်မြတ်ကူညီစောင်မတော်မူပါ**စေ**။ စလာမ်ဆိုလျက် ။ ။ ။

**ဗန္ဒာ – မုဟမ္မဒ်ဆွာလေဟ်**

ရဂျဗ်လ (၂၇) ရက်

## ဟဇရသ်၏အနီးစပ်ဆုံးတပည့်ရင်းချာများ

– မော်လာနာ ဗဒ်ရွှဇ်ဇမာန် မဇာဟိရီ
– ။ ရှမ်စွဒ်ဒိုဟာ ။
– ။ ကာရီယူစွဖ် အပ်စ်အဒီ
– ။ မဟ်မူဒ်မာမ်ဆာ
– ။ ယူစွဖ် (ပသောင်း)
– ။ ယူနွစ် (မြိတ်)
– ။ အဘွလ်ကာစင်မ် **(ဥက္ကံ)**
– ။ မုဟမ္မဒ်နကီ (မြိတ်/လားရှိုး)
– ။ အဘွလ်ခိုင်ရ် (သထုံ)
– ။ နဂျီဗွလ္လာဟ် (ထားဝယ်)
– ။ အဟ်မဒ်ဟူစိန် (ခ) ဦးကျော်သိန်း (ဥက္ကံ)

– မော်လာနာ ကာသိမ်ဟူစိန်
– ။ မုဟာမ္မဒ် (မဒေါက်)
– ။ ဟာဖိဇ် မုဟာမ္မဒ်ဂျိဝါး
– ။ ဟာဖိဇ် ဟိဒါယသုလ္လားဟ်
– ။ ဟာဖိဇ်စိုလိုင်မာန်
– ။ အဗ္ဗဒွလ်ရဇ္ဇားက် (မြိတ်)
– ။ အဗ္ဗဒွလ်ဟာဖီးဇ်
– ။ မုဟာမ္မဒ်အာရိဖ် (မော်လမြိုင်)

ဒါရွလ်အိုလူမ်ကျောင်းသားဟောင်း အတော်များများသည် ဟာဇရသ်နှင့် မိသားစုအား အနီးကပ် ခစ်ဒ်မဒ်ပြုခဲ့ကြသည်။

## ဟာဇရသ်၏နောက်ဆုံးအိဂျ်သိမာ ( ဝံကိုက် )

**(၃၁–၁၂–၁၉၉၅ ခုနှစ်)**

ဟာဇရသ် နောက်ဆုံးတက်ရောက်ခဲ့သော အိဂျ်သိမာမှာ ဝံကိုက် (ဥက္ကံ) ဖြစ်သည်။ နေထိုင်မကောင်း၍ အသံလည်း တိမ်မြှုပ်ပြီး အားစိုက်ပြီးပြောရရှာသည်။ မျက်ရည်စက်လက်နှင့်ပြောကြားသည်။ ဒီအိဂျ်သိမာသည် 'ကျွန်တော့်အဖို့ နောက်ဆုံးဖြစ်ဟန်တူသည်' ဟုပြောကြားခဲ့သည်။

နောက်ဆုံးဒိုအာသည် ပရိသတ်၏မျက်ရည်နှင့်အာမီးန် တ,သံသာ ကြားနေရသည်။ ဟာဇရသ်၏ ဖွဲ၊ လုံ့လသည် စံနမူနာပင်ဖြစ်သည်။

ဟာဇရယ်သည် မည်သူ့ကိုမျှအမိန့်ဖြင့်တာဝန်ပေးလေ့မရှိ၊ အကျိုးပြ၍လှုံ့ဆော်တတ်သည်။ မည်သူမျှ မလုပ်မရကျက်ဖြစ်နေပါက ကိုယ်တိုင်ပင်ထလုပ်လေ့ရှိသည်။ ဟာဇရယ်၏ အင်အားချိနဲ့မှုကိုမြင်ပြီး အားလုံးအသင့်ဖြစ်သွားကြလေသည်။ ကျွန်ုပ်တို့သည် မိမိတို့၏ကျေးဇူးရှင် ဟာဇရယ်ချပြသွားသော နည်းစနစ်ကို အမွေဆက်ခံစေလိုသည်။ ဟာဇရယ်သည် နဗူဝသ်နှင့်သက်ဆိုင်သောလုပ်ငန်းကို အရှင်မြတ်အတွက် စေတနာသန့်သန့်ဖြင့် မလျှော့သောဇွဲကိုပိုက်ကာ အဆင့်အတန်းမခွဲ၊ အားလုံးကို မခြားမနားဆက်ဆံ၍ ညီနောင်တိုင်းကိုလက်တွဲထားခဲ့သည်။ မုဂျာဟဒါ ကုရ်ဗာနီအပြည့်ဖြင့် ချွေးသီးချွေးပေါက်များစီးကျသော်ငြားလည်း လူတို့ပင်ပန်းနေလျှင် ကိုယ်တိုင်ပဲရှေ့တက်လျက်ထမ်းဆောင်ခဲ့သည်။ ထို့ကြောင့် ကျွန်ုပ်တို့သည်လည်း ဒအ်ဝသ်ကြိုးပမ်းမှုကို အသက်ထက်ပို၍ စောင့်စည်းထိန်းသိမ်းရပေမည်။ ဟာဇရယ်သည် စုစည်းနေရေး ဂျိုရ်ကိုလည်း ဂရုစိုက်သည်။ အိုစူလ်လည်းမပျက်ရန် သတိပြုသင့်သည်။



(ဉက္ကံ) – ဝံကိုက် အိဂျ်သိမာ

ဒီဇင်ဘာလ (၃၁) ရက်၊ ၁၉၉၅ ခုနှစ်

# ဟဇရယ်၏ နောက်ဆုံး ထက်မြတ်စူးရှသော မိန့်ခွန်း

ဟမ်ဒု၊ စနာနှင့် အာယယ်၊ ဟဒီးဆ်တော် ဖတ်ရွတ်ပြီးနောက် ရပ်ဝေးရပ်နီးမှ ကြွလာကြသော မွစ်လင်မ်အပေါင်း အာလင်မ် များနှင့် အလ္လာ့ဟ်လမ်းသို့ ထွက်ခွာကြိုးပမ်းကြမည့် မိတ်ဆွေများခင်ဗျာ–

အလ်ဟမ်ဒုလိလ္လာဟ်– ကျွန်တော်တို့နိုင်ငံမှာ နှစ်ပေါင်းများစွာ ကတည်းက သဗ်လီးဂ်ကြိုးပမ်းမှုဖြစ်နေပါတယ်။ ဤအိဂျ်သိမာအလာ ဦးစွာပထမသဃ်န်းကျွန်းမှာ ဖြစ်ခဲ့ပါတယ်။ ယခု ဝံကိုက် အိဂျ်သိမာ သည် ကျွန်တော့်အဖို့ နောက်ဆုံးအိဂျ်သိမာဖြစ်ပါတယ်။ အသက်လည်း ထောက်လာပြီ။ နောင်ကိုဖြစ်မယ့်အိဂျ်သိမာမှာ ကျွန်တော်ပါဝင်နိုင်/ မပါဝင်နိုင်ဆိုတာ အရှင်မြတ်ပဲသိတော်မူပါတယ်။

(အထက်ပါစကားကို ငိုယိုလျက်မြွက်ကြားပါတယ်။)

ကျွန်တော်သည် နှစ်ပေါင်း(၄၀)ကတည်းက မိတ်ဆွေ မွတ် စလင်မ်များနှင့်အတူ တရင်းတနှီးဝင်ထွက်သွားလာခဲ့ပါတယ်။ ကျွန်တော့် ဘက်ကတစ်စုံတစ်ရာတစ်ဦးတစ်ယောက်နဲ့ အပြောအဆိုအားဖြင့် မှားယွင်း ချွတ်ချော်ခဲ့သော် မိတ်ဆွေအပေါင်း ကျွန်တော့်ကို ခွင့်လွှတ်ကြနော်။ အထူးသဖြင့် ကျွန်တော်နဲ့ လက်တွဲကြိုးပမ်းခဲ့တဲ့ အာလင်မ်နဲ့ ဂိုင်ရိ အာလင်မ်များခွင့်လွှတ်ကြပါ။ ကျွန်တော့်ဘက်မှလည်း သက်တမ်း တစ်လျှောက် (စိတ်နဲ့မတိုက်ဆိုင်ခဲ့တဲ့မိတ်ဆွေများရဲ့) ပြုမူခဲ့တာတွေကို

ခွင့်လွှတ်ပါတယ်။ ကျွန်တော့်ဘက်မှ စောဒကတက်စရာမရှိပါ။ ဒွန္နယာရော အာခိရယ်မှာပါ ခွင့်လွှတ်လိုက်ပါတယ်။

ဒီအစ်ဂျ်သိမာကွင်းပြင်မှာ ရက်များစွာကပင် အလ္လာဟ်၊ ရစူလ်၏ အမိန့်တော်အီမာန်ယကီးန်၏စကား၊ အလ္လာဟ်၏ဖိက်ရ်နှင့် ဒီးန်၏ ဖိက်ရ်ပြုနေကြပါတယ်။ မိမိဂျာန်မာလ်နှင့်တကွ ဒီကိုလာကြကာ မပ်စ်ဂျိဒေနဗဝီမှာဖြစ်ခဲ့သော တမန်တော်မြတ် ﷺ ၏ အမလ်များကို ရှင်သန်အောင် ပြုနေကြပါတယ်။

(၁)သဇ်လီဂ်၊ (၂) သအ်လီမ် (၃) သပ်ဇ်ကီယဟ်အမလ်များကို ပြုခဲ့ပါတယ်။ ထို့နောက် သဇ်လီဂ်၏ အသက်တည်းဟူသော ဒိုအာ၊ အင်န်ဖိရာဒီအိဂ်ျသိမာအီပြုနေခဲ့ကြတယ်။ (ဟာဇရယ်သည် ငိုယိုလျက် ဒိုအာစတင်၍ပြုဇတော့၏) ယခင်အိဂ်ျသိမာများကို ကဗူလ်ပြုတော်မူခဲ့သလို ဤအိဂ်ျသိမာကိုလည်း ကဗူလ်ပြုတော်မူပါ။ ဒီအိဂ်ျသိမာဖြင့် အာလမ် အနှံ့ဟေဒါယသ်ချီးမြှင့်တော်မူပါအမျိုးသား/အမျိုးသမီးတိုင်းကိုဟေဒါယသ် ပေးတော်မူပါ။ လူတို့၏ လိုအပ်ချက်များကို ဖြည့်ပေးတော်မူပါ။

မိတ်ဆွေများခင်ဗျာ အလ္လာဟ်လမ်းထွက်ကြသူများသည် အလွန်ကုသိုလ်ထူးကြပေသည်။ အရှင်မြတ်သဘောတူလို့ ဒီကိုကြွလာတာ။ ပြီးတော့ အရှင်မြတ်လမ်းသို့ထွက်တာဖြစ်တယ်။ မနေ့ညကလည်း မော်လာနာမဟ်မူဒ်ဆပ်က အသေးစိတ်တင်ပြခဲ့တယ်။

ကျွန်တော်တို့ဟာ ကြွယ်ဝလို့ အင်အားရှိလို့ ထွက်တာမဟုတ်၊ အရှင်မြတ်ရဲ့ သောင်ဖိက်ပေးမှုကြောင့် ဒီခရီးစဉ်မှာ တမန်တော်မြတ် ﷺ

ဆောက်တည်ခဲ့တဲ့အမလ်များကို ဆောင်ရွက်မယ်။ မွတ်စလင်မ်တစ်ဦးချင်း ထံ အစ်ခ်လာဆွ်၊ ချစ်ခင်မှု၊ ဂုဏ်ပေးမှုနှင့်နူးညံ့စွာဒအ်ဝသ်ပေးကြမယ်။ ကိုယ့်အီမာန်ကို ပြည့်ဝအောင်ကြိုးပမ်း၍ ထိန်းသိမ်းကြမယ်။ ဒီးန်ရဲ့ အိလင်မ်ကို ကိုယ့်ပတ်ဝန်းကျင်းမှာ သင်ယူပြီး အိမ်မှာလည်း ဖဇာအိလ်ကို ဖတ်ကြ။ မွတ်စ်လင်မ်တိုင်း သပ်ဖ်ကီယာအနေဖြစ်နှင့် ဗိက်ရ် သပ်စ်ဗီဟ် ပြုကြရန် ဒအ်ဝသ်ပေးကြပါ။ ယခုအိဂ်ျသိမာနှင့်အလ္လာ့ဟ်လမ်းမှာ နေ့ည အမလ်လုပ်ကြမယ်။ အဘယ်မျှဆဝါးဗ်ရမလဲ။

ယခုအိဂ်ျသိမာအတွင်းမှာ မရေမတွက်နိုင်တဲ့ ရဟ်မသ်ဖရိရ်ှသဟ် များရှိနေကြတယ်။ တစ်ဖန် အရှင်မြတ်ထံသွားရောက်ကြမယ်။ ဒီမှာ ဖြစ်ခဲ့တဲ့အမလ်အကြောင်းတင်ပြမယ်။ အချို့အမေးအဖြေပြုပြီးရင် အိဂ်ျသိမာမှာပါဝင်တဲ့ အမျိုးသား / အမျိုးသမီး လူငယ်လူကြီးအားလုံးကို မဂ်ဖိရသ်ပြုတော်မူမယ်။ အရှင်မြတ်ကျွန်တော်တို့ကိုလည်း ယင်းမဂ်ဖိရသ် ရအုပ်စုတွင်ထည့်သွင်းလက်ခံတော်မူပါစေ။

ဒီအိဂ်ျသိမာနဲ့ ပတ်သက်ပြီး လယ်သမား၊ တောင်ယာသမား၊ အမျိုးသား/သမီး တို့သည် လွယ်ကူ ချောမွေ့စေရန် လိုအပ်သည့် ခ်ဒ်မသ်၊ မဟ်နသ်ကိုပြုခဲ့ကြတယ်။ ၎င်းတို့၏လိုအပ်ချက်ကို အရှင်မြတ်ဖြည့်ပေး တော်မူပါစေ။ နှစ်ဌာနမှာ အကျိုးဆဝါဗ်ပေးတော်မူပါစေ။ နောင်ကိုလည်း အလားတူ အိဂ်ျသိမာမျိုးပြုနိုင်တဲ့ သောင်ဖီးက်ချီးမြှင့်တော်မူပါစေ။

ဒီခရီးစဉ်ရဲ့အကျိုးဆဝါးဗ်သည် သိန်းဂဏာန်းမှ ကုဋေအထိရှိ ကြောင်း၊ ဥပမာ–ဒီနေရာဇွဟ်ရ် ဖတ်သည့်အကျိုးကို မက္ကဟ်မှာဟဂ်ျမှာ လည်းမရ၊ အစ်ခ်လားဆွ်စေတနာသန့်သန့်ဖြင့် အလ္လာဟ်လမ်းထွက်သူ

များသာရပါလိမ့်မယ်။ ဒီခရီးမှာ လာယအ်နီ အကျိုးမဲ့လုပ်ရပ်ကို ရှောင်၍ အချင်းချင်းချစ်ခင်စွာ မရှဝရာနှင့်တကွ ထွက်ပြီး ဗလီမှာတည်းခိုကြမယ်။ ဗလီရဲ့အာဒါပ်ကို လေးစားမယ်။ ဒီလမ်းမှာ ပြုတဲ့ဒိုအာကိုဗနီအစ္စရာအီးလ်ရဲ့ နဗီများ ဒိုအာကဲ့သို့ လက်ခံတော်မူရန် အရရှိထမ်းတဲ့ ဖရိရှ်သဟ်ာများကခင်ဗျားတို့ ဒိုအာမှာအာမီးန်လိုက်ကြမယ်။ ခင်ဗျားတို့ရဲ့ အိုးအိမ်မိသားစုပစ္စည်းများကို မလာအိကဟ်များဖြင့် ထိန်းသိမ်းတော်မူမယ်။ ဒီခရီးစဉ်မှာကိုယ့်မိသားစု ကိုယ့်နယ်မြေ ကိုယ့်နိုင်ငံ အမျိုးသားအမျိုးသမီးနှင့် ကမ္ဘာ့လူသားများအတွက် အထူးဒိုအာပြုကြပါ။

ဒီခရီးစဉ်မှာ ဖုံလူးပေမယ်။ ၎င်းနှင့်ပတ်သက်ပြီး အလ္လာဟ်လမ်းသွားလာလျက် ဖုံမှုန့်ပေသွားလျှင် ထိုသူ့အဖို့ ဂျဟန္နမ်မီးဟာရာမ်ဖြစ်ကြောင်း တမန်တော်မြတ်ရဲ့ဩဝါဒတော်လာရှိပါတယ်။ ဂျဟန္နမ်မီးဟာ လောကမီးထက် အဆပေါင်း (၇၀) ပိုပူတယ်။ တစ်ခါက တမန်တော်မြတ်နှင့်အတူဆွဟာဗဟ်များတစ်စုတစ်စည်း ခရီးထွက်ကြရာ ကုရိုင်ရှ်လူငယ်တစ်ဦးဟာတသီးတစ်ခြား လျှောက် နေတော့၏။ တမန်တော်မြတ်(صلى الله عليه وسلم) က ဟိုသူငယ်ဘယ်သူလဲ၊ ဘယ်သူဘယ်ဝါ၏ သားဖြစ်သည်ဟု ပြောကြ၏။ ၎င်းကိုအနီးသို့ခေါ်တော်မူ၍ မင်းကသီးခြားဘာကြောင့် လျှောက်ရသလဲဟု မေးတော်မူရာ ၎င်းက လူငယ်သဘာဝအလျှောက် ဖြေကြားတာက ဖုံတွေအလွန်ထနေတယ်။ ကျွန်ုပ်ဖုံကိုမရှောင်နိုင်တော့ ယခုလိုတစ်ဖက်မှ လျှောက်နေခြင်းဖြစ်ပါတယ် ဟု ဖြေကြားသည်။

တမန်တော်မြတ် (صلى الله عليه وسلم) က မိန့်တော်မူတယ်။ အသင့်အနေနဲ့ဖုံကိုမရှောင်ရဘူး။ ဒီခရီးစဉ်ရဲ့ဖုံမှုန့်တွေဟာ ဂျန္နသ်ရဲ့ မွှေးရနံ့တွေ

ဖြစ်တယ်။ ဒီခရီးစဉ်ရဲ့ဖုံမှုန့်ဟာ ဒီလောကတန်ဖိုးရှိရင် နမာဇ်၊ ရိုဇဟ် ဆောက်တည်တာ၊ ကျစ်လွှာ (၃)ကျစ်လွှာ၊ တစ်နှစ်ထွက်တဲ့အကျိုးကို ရေတွက်နိုင်မည်မဟုတ်ပါ။

မိတ်ဆွေများခင်ဗျား– ဒီခရီးမှာ အီမာန်ကိုလည်းထိန်း၊ ကိုယ့် ပစ္စည်းကိုလည်းထိန်းရမယ်။ လုပ်ငန်းတိုင်းကို တမန်တော်မြတ် (صلى الله عليه وسلم) ပြခဲ့တဲ့ မရှိဝရဟ်အတိုင်း ဆောင်ရွက်ကြရမယ်။

ယခုကျွန်တော်တို့ အီမာန်နဲ့ဒီးန်ကို သင်ယူဖို့ထွက်နေတာ၊ အီမာန်ဆိုတာ အလ္လာဟ်နဲ့သာဖြစ်ခြင်း၊ လုပ်ငန်းရဲ့အစမှအဆုံးထိ အမိန့် တော်အရ ဆောင်ရွက်ကြရမယ်။ အရှင့်အလိုတော်မရှိရင် ဘာမှမဖြစ်ပါ။

အိဂ်ျသိမာမှာ ဒီလောကလာမှာ မဟုတ်ဘူးလို့ထင်တာ၊ ဒါပေမယ့် အလ္လာဟ်အမိန့်တော် အတိုင်းဖြစ်ရပါတယ်။

ဒုတိယက ဒီးန်၊ ဒီးန်ဆိုတာ ကုရ်အာန်။ ဟဇရသ် မော်လာနာ ယူစွဖ်ဆပ်က ကုရ်အာန်ဆို တာ အရှင့်အမိန့်တော် ပေါင်းချုပ်ကိုခေါ်တယ်။

ဒီးန်မှာလယ်ယာ၊ အလုပ်ကိစ္စအားလုံးကို ခြုံငုံထားတယ်။ မိသားစုကိစ္စအားလုံးကို ခြုံငုံထားတယ်။ ဒီလုပ်ငန်းများကို အီမာန်၊ စွန္နသ်၊ အရှင့်အမိန့်တော်၊ တမန်တော်မြတ်ရဲ့အမိန့် နည်းလမ်းအတိုင်း ဆောင်ရွက်တာကို ဒီးန်လို့ခေါ်တယ်။ اقيموا الصلوة ဆိုတဲ့အမိန့်အရ ဖိုဟ်ရ် ဖတ်ကြတယ်။ اقيـ အီမာန်နှင့် တမန်တော့်နည်းအရ စားသောက်ကြတာ ဒီးန်ဖြစ်သွားတယ်။ ဒီးန်ဖြစ်လို့ နမာဇ်ရိုဇဟ်အပေါ် စဝါးဗ်ရပါတယ်။

ရေသောက်တဲ့အခါ တမန်တော်မြတ်ရဲ့နည်းစနစ်အရ လက်ျာနဲ့

ကိုင်၊ အမှိုက်ရှိ မရှိ ကြည့်၊ ဗိစ္စမိလ္လာဟ်ဆို၊ သုံးကြိမ်နား၍သောက်၊ ရေသောက်ပြီးလျှင် အလ်ဟမ်ဒုလစ်လ္လာရွတ်ဖတ်ပါ။ ဤသို့သောက်လျှင် နေ့ရှိဇဟ်၊ ည သဟဂျ်ဂျဒ်ဖတ်တဲ့အကျိုးကို ရရှိပါတယ်။

တမန်တော်မြတ် (صلی اللہ علیہ وسلم) မိန့်တော်မူတယ်။ اَلدِّيْنُ يُسْرٌ ဒီးန်မှာအခက်အခဲမရှိ၊အလွန်လွယ်ကူတယ်။

ဒါကြောင့် ဒီခရီးစဉ်တစ်ခုလုံး ဒီးန်ကိုသင်ယူပါ။ နံနက်မှညအထိ တမန်တော့်သရီကဟ် အတိုင်းကျင့်သုံးပါ။ နှစ်ဌာနမှာအောင်မြင်မယ်။ ခင်ဗျားတို့ ဗလီမှာတည်းခိုရင် အာဒါဗ်ကိုဂရုစိုက်ပါ။ ရွာစဉ်ရောက်တိုင်း ကောင်းသောနီယသ်နဲ့ သိမ်မွေ့စွာဒအ်ဝသ်ပေးပါ။

ဖိရ်အောင်ကဲ့သို့ သူယုတ်မာထံ တမန်တော်မူစာ၊ တမန်တော်ဟာရွန်းကို စေလွှတ်တဲ့အခါ ဖိရ်အောင်ကို နူးညံ့ပျော့ပြောင်းသည့်စကားပြောပါ။ ဒီလိုပဲ ကုရ်အာန်မှာ ဒအ်ဝသ်ရဲ့ စည်းစနစ်ကိုများစွာဖော်ပြထားပါတယ်။ နမာဇ်ဖတ်၊ ဇကားသ်ပေးဟူ၍ အမိန့်ပေးထားတယ်။ နမာဇ်ကို ဘယ်လိုဘယ်အချိန်ဖတ်ရမလဲ၊ ဇကာသ်ကိုဘယ်လို၊ ဘယ်အချိန်၊ ဘယ်သူ့ကို ပေးရမလဲ၊ အသေးစိတ်မပြထားသော်လည်း ဒအ်ဝသ်အကြောင်းကိုတော့ အသေးစိတ်ဖော်ပြတဲ့ အာယသ်တော်များလာရှိပါတယ်။

ကျွန်တော်တို့ဟာ အွမ္မသ်ရဲ့ကိုယ်စားလှယ် အွမ်မသေမွစ်လိမဟ်ဖြစ်ပါတယ်။ တမန်တော် မိမိသက်တမ်းမှာ သဗ်လီးဂ်၊ သပ်ဇ်ကီယဟ်နှင့် သအ်လီးမ် အမလ်သုံးရပ်ပြုခဲ့တယ်။ ကျွန်တော်တို့ တစ်တွေဟာ ဒီအမလ်တွေကိုရင်ဝယ်ပိုက်ပြီး သက်ဆုံးတိုင်ဆောင်ရွက်ကြမယ်။

အလ္လာဟ်အရှင်မြတ်သည် နဗီများနှင့် ဆွဟာဗဟ်များကို သဘာဝနှင့် ဆန့်ကျင်ဘက် ကူညီတော်မူသလို မုချကျွန်တော်တို့ကို လည်း ကူညီတော်မူမယ်။

အလ်ဟမ်ဒုလစ်လ္လာဟ် ၂–ရက် ၃–ရက်အတွင်း အစီအစဉ်များ စွာဖြစ်ခဲ့ပါတယ်။ မနေ့ညက မော်လာနာ မာမွတ်မာမ်ဆာဆာပ်၊ မနက် ကလည်း မော်လာနာချစ်မြိုင်တို့ အသီးသီးရှင်းပြခဲ့ပြီးဖြစ်ပါတယ်။

အချိန်နည်းတယ်။ ဂျမာအသ်များကိုလည်း ထုတ်ရမယ်။ ယခု ဒိုအာဖြစ်မယ်။ ဒိုအာပြီးရင် မနက်က ခင်ဗျားတို့လာတုန်းက ဖိက်ရ်၊ ဖိက်ရ်နှင့်လာကြသလိုပြန်ကြပါ။ ပွဲလမ်းသဘင်မှ ပြန်ကြသလို အော်ဟစ် ဆူညံပြီး မပြန်ကြပါနှင့်။ ဒီတော့ ဖိက်ရ်၊ ဖိက်ရ်နှင့် ပြန်ကြပါ။ ယခု တစ်ကြိမ် ဒရူးဒ်ရွတ်ဖတ်ကြပါ။

(ယင်းဗယာန်ပြောကြားသည့်အချိန်တွင် ဟဇရသ်၏ အသက် သည် (၇၅)နှစ် ရှိပေသည်။)

## ဟဇရသ်၏အရဗီဒိုအာ

بِسۡمِ اللهِ الرَّحۡمٰنِ الرَّحِيۡمِ○ اَلۡحَمۡدُ لِلّٰهِ رَبِّ الۡعٰلَمِيۡنَ وَالۡعَاقِبَةُ لِلۡمُتَّقِيۡنَ، وَالصَّلٰوةُ وَالسَّلَامُ عَلٰى سَيِّدِنَا مُحَمَّدٍ وَّعَلٰى اٰلِهٖ اَجۡمَعِيۡنَ وَاِلٰهُكُمۡ اِلٰهٌ وَّاحِدٌ لَا اِلٰهَ اِلَّا هُوَ الۡحَىُّ الۡقَيُّوۡمُ ، الٓمّٓ اَللّٰهُ لَا اِلٰهَ اِلَّا هُوَ الۡحَىُّ الۡقَيُّوۡمُ يَا اَرۡحَمَ الرّٰحِمِيۡنَ يَاذَا الۡجَلَالِ وَالۡاِكۡرَامِ لَا اِلٰهَ اِلَّا اَنۡتَ

سُبْحٰنَكَ اِنِّیْ كُنْتُ مِنَ الظّٰلِمِیْنَ اَللّٰهُمَّ صَلِّ عَلٰی مُحَمَّدٍ وَّعَلٰی اٰلِ مُحَمَّدٍ كَمَا صَلَّیْتَ عَلٰی اِبْرَاهِیْمَ وَعَلٰی اٰلِ اِبْرَاهِیْمَ اِنَّكَ حَمِیْدٌ مَّجِیْدٌ اَللّٰهُمَّ تَرَحَّمْ عَلٰی مُحَمَّدٍ وَّعَلٰی اٰلِ مُحَمَّدٍ كَمَا تَرَحَّمْتَ عَلٰی اِبْرَاهِیْمَ اَللّٰهُمَّ تَحَنَّنْ عَلٰی مُحَمَّدٍ وَعَلٰی اٰلِ مُحَمَّدٍ كَمَا تَحَنَّنْتَ عَلٰی اِبْرَاهِیْمَ اَللّٰهُمَّ سَلِّمْ عَلٰی مُحَمَّدٍ وَعَلٰی اٰلِ مُحَمَّدٍ كَمَا سَلَّمْتَ عَلٰی اِبْرَاهِیْمَ وَعَلٰی اٰلِ اِبْرَاهِیْمَ اَللّٰهُمَّ اِنَّكَ عَفُوٌّ تُحِبُّ الْعَفْوَ فَاعْفُ عَنَّا یَا كَرِیْمُ ، یَارَبَّنَا یَارَبَّنَا

(ဟာဇရသ်သည် ငိုကြွေးလျက်)

یَارَبَّنَا ظَلَمْنَا اَنْفُسَنَا وَاِنْ لَّمْ تَغْفِرْ لَنَا وَتَرْحَمْنَا لَنَكُوْنَنَّ مِنَ الْخٰسِرِیْنَ ○ رَبَّنَا لَا تُزِغْ قُلُوْبَنَا بَعْدَ اِذْ هَدَیْتَنَا وَهَبْ لَنَا مِنْ لَّدُنْكَ رَحْمَةً ۚ اِنَّكَ اَنْتَ الْوَهَّابُ ○ رَبَّنَا عَلَیْكَ تَوَكَّلْنَا وَاِلَیْكَ اَنَبْنَا وَاِلَیْكَ الْمَصِیْرُ ○ رَبَّنَا لَا تُؤَاخِذْنَا اِنْ نَّسِیْنَا اَوْ اَخْطَأْنَا رَبَّنَا وَلَا تَحْمِلْ عَلَیْنَا اِصْرًا كَمَا حَمَلْتَهٗ عَلَی الَّذِیْنَ مِنْ قَبْلِنَا رَبَّنَا وَلَا تُحَمِّلْنَا مَا لَا طَاقَةَ لَنَا بِهٖ ۚ وَاعْفُ عَنَّا وَاغْفِرْ لَنَا وَارْحَمْنَا اَنْتَ مَوْلٰنَا فَانْصُرْنَا

عَلَى الْقَوْمِ الْكَافِرِيْنَ، اَللّٰهُمَّ اغْفِرْ لِحَيِّنَا وَمَيِّتِنَا وَشَاهِدِنَا وَغَائِبِنَا وَصَغِيْرِنَا وَكَبِيْرِنَا وَذَكَرِنَا وَاُنْثَانَا اَللّٰهُمَّ مَنْ اَحْيَيْتَهُ مِنَّا فَاَحْيِهِ عَلَى الْاِسْلَامِ وَمَنْ تَوَفَّيْتَهُ مِنَّا فَتَوَفَّهُ عَلَى الْاِيْمَانِ اَللّٰهُمَّ هَوِّنْ عَلَيْنَا سَكَرَاتِ الْمَوْتِ وَغَمَرَاتِ الْمَوْتِ، اَللّٰهُمَّ بَارِكْ لَنَا فِى الْمَوْتِ وَفِيْمَا بَعْدَ الْمَوْتِ، اَللّٰهُمَّ لَا تَدَعْ لَنَا وَلِاَهْلِنَا وَلِجَمِيْعِ الْمُؤْمِنِيْنَ وَالْمُؤْمِنَاتِ دِيْنًا اِلَّا غَفَرْتَهُ يَا اَرْحَمَ الرَّاحِمِيْنَ يَا حَيُّ يَا قَيُّوْمُ يَا رَحْمٰنُ يَا رَحِيْمُ اَللّٰهُمَّ اَصْلِحْنَا وَلِاَهْلِنَا وَلِاُمَّةِ فَارُوْقِ الصِّحَّةَ الْكَامِلَةَ الْعَاجِلَةَ الْمُسْتَمِرَّةَ وَالْعِفَّةَ وَالْاَمَانَةَ وَحُسْنَ الْخُلُقِ وَالرِّضَاءِ بِالْقَدْرِ اَللّٰهُمَّ طَهِّرْ قُلُوْبَنَا يَا اللّٰهُ يَا اللّٰهُ يَا اللّٰهُ اَللّٰهُمَّ اغْفِرْ لَهُمْ وَارْحَمْهُمْ وَاَسْكِنْهُمْ فِى الْجَنَّةِ (ဟဇရသ်သည် ဆက်လက်ဝိုကြွေးလျက်)

اَللّٰهُمَّ اغْفِرْ لِىْ وَلِوَالِدَىَّ وَارْحَمْهُمَا كَمَا رَبَّيَانِىْ صَغِيْرًا وَارْحَمْهُمَا كَمَا رَبَّيَانِىْ صَغِيْرًا وَارْحَمْهُمَا كَمَا رَبَّيَانِىْ صَغِيْرًا وَاغْفِرِ اللّٰهُمَّ لِجَمِيْعِ الْمُؤْمِنِيْنَ وَالْمُؤْمِنَاتِ وَالْمُسْلِمِيْنَ وَالْمُسْلِمَاتِ

အို–အလ္လာဟ်၊ ဒီအိဂ်ျသိမာ (ဝံကိုက်) ကို ကဗူလ်ပြုတော်မူပါ။ ကျွန်တော်တို့ရဲ့ ချွတ်ချော်မှု၊ မှားယွင်းမှုများကို ခွင့်လွှတ်တော်မူပါ။ ယာ–အလ္လာဟ်၊ ဒီအိဂ်ျသိမာမှာ မွစ်လိစ်စေတနာရှင် မွတ်သကီအာလင်မ်သူတော်စင်များလည်းရှိပါတယ်။ ၎င်းတို့ကိုသဟဲ၍ ကျွန်တော်တို့ရဲ့ ဒီအိဂ်ျသိမာကိုအတည်ပြုတော်မူပါ။

ယာ–အလ္လာဟ်၊ မုအ်မင်န်ဖြစ်သည့်အပေါ် ကျွန်တော်များအား ကဗူလ်ပြုတော်မူပါ။ မွအ်မင်န်အတိုင်းခေါ်တော်မူပါ။ တစ်ဖန် မွအ်မင်န်အတိုင်းပြန်လည်ရှင်သန်စေတော်မူပါ။ ဟာရှရ်နေ့တွင် မဂ်ဖိရသ် တမန်တော်မြတ်၏ ရှဖာအသ်ကို နစ္စိဗ်ပြုတော်မူပါ။

ယာ–အလ္လာဟ်၊ ကျွန်တော်တို့ဟာ တမန်တော်မြတ်နှင့် ဆွဟာဗဟ်များ၏ အတုယူနေပါတယ်။ ဆွဟာဗဟ်များ၏ အတုယူနေပါတယ်။ ကျွန်တော်တို့ဟာ ဤလုပ်ငန်းနဲ့ လုံးဝမထိုက်တန်ကြပါ။ ကျွန်တော်တို့မှာ မှားယွင်းချွတ်ချော်မှုတွေနဲ့ပါ။ အတွင်းအပြင် စွေဖသ်အရည်ချင်းများကင်းမဲ့လို့ပါ။ အိလ်မ်နဲ့ဇိကိရ်ရဲ့နူရ်လည်းမရှိပါ။ သို့သော် ဒီနေရာကိုအရှင့်သောင်ဖီးက်နဲ့ ရောက်လာတာပါ။ ဒီရောက်နေတဲ့ အမျိုးသား/သမီးကလေးလူငယ်အဖိုးအိုနှင့် တာဝန်ခံများကိုလည်း ကဗူလ်ပြုတော် မူပါ။ ယာ–အလ္လာဟ်၊ အထူးသဖြင့် ဟဇရသ်မွဖ်သီဆပ် (မွဖ်သီချုပ်) နှင့် အာလင်မ်များကို ကျန်းမာခြင်းချီးမြှင့်တော်မူပါ။ အခက်အခဲများကို ပြေလည်မှုပေးသနားတော်မူပါ။ အမှုခင်းနဲ့ရင်ဆိုင်နေရာတာကို ဘက်စုံအောင်မြင်မှုချီးမြှင့်တော်မူပါ။ သားသမီးများနှင့်ပတ်သက်ပြီး မိဘတိုင်းကို

နှစ်ရှည်ပြုတော်မူပါ။ လိုအပ်ချက်ကို ဖြည့်ပေးတော်မူပါ။ လူမွန်သူမြတ်များအဖြစ် ကလေးများကို ပြုလုပ်တော်မူပါ။ ယာအလ္လာဟ်၊ လူငယ်များကို စွဟာဗဟ်လူငယ်များအဖြစ် အပြည့်အဝဒီးန်၏ ဖိက်ရ် နှင့်တကွ ဂျာန်မာလ်ရဲ့ကုရ်ဘာနီပေးသူအဖြစ် လက်ခံတော်မူပါ။ အိမ်တိုင်း၊ ရွာတိုင်းနယ်တိုင်း နိုင်ငံအနှံ့မှာ မပ်စ်ဂျိဒ်နဗဝီပတ်ဝန်းကျင်ရောက်ရှိလာသည့် သောင်ဖီးက်မျိုးချီးမြှင့်တော်မူပါ။။

ယာ-အလ္လာဟ်၊ အရှင့်သောင်ဖီးက်ဖြင့် ဂျမာအသ်များ အိမ်ကိုစွန့်၍ သားသမီးများကိုလွှတ်ကာ ကမ္ဘာအနှံ့လှည့်ပတ်သွားနေပါတယ်။ ၎င်းတို့၏ ကုရ်ဗာနီများကို ကဗူလ်ပြုတော်မူပြီး ကမ္ဘာကို၊ ဥရောပကို ဂျပန်ကို၊ တရုတ်ကို ၊ မြန်မာကို ဟေဒါယသ်ပေးတော်မူပါ။ ယာ-အလ္လာဟ် ကိစ္စတိုင်းမှာ ကူညီတော်မူပါ။ နေ့ညသပ်စ်ဗီဟ်အိမ်တိုင်းစေ့ ငါးကြိမ်နမာဇ်နှင့် အမျိုးသမီးတိုင်းကို ဒီးန်၏ဖိက်ရ်ချီးမြှင့်တော်မူပါ။

ယာအလ္လာဟ်၊ ကျွန်တော်များအိမ်မှ ယဟူဒ်နဆွာရာ၏ စရိုက်များကိုထုတ်၍ တမန်တော်မြတ် ﷺ ၏ စွန္နသ်၊ ၎င်း၏နူရာနီယသ်ကို သွတ်သွင်းတော်မူပါ။ ယာ-အလ္လာဟ်၊ ကျွန်တော်များကို ဂျန္နသ်ပေးတော်မူပါ။ မောသ့်အချိန် ကလေမဟ်ဖတ်ခွင့်နစ္စီးပ်ပြုတော်မူပါ။ ကွယ်လွန်သွားသည့် မိဘများကိုဂျန္နသ်ွလ်ဖိရ်ဒေါ့စ်ပေးသနားတော်မူပါ။

ယာအလ္လာဟ်၊ ကွယ်လွန်သွားတဲ့ တခြမ်းပဲ့နာယက ဗိုလ်မှူးကြီး ဦးတင်စိုးကို၊ ဂျန္နသ်ချီးမြှင့်တော်မူပါ။ ဟဇရသ်ကြီး မော်လာနာအိလ်ယားစ်ဆပ် (رحمة الله عليه) အားလည်း ဂျန္နသ်၏အဆင့်အမြင့်ဆုံးကို ချီးမြှင့်တော်

ပါ။ ဒီလုပ်ငန်းကို ဆွဒကဟ်ဂျာရီယဟ်အဖြစ် ဟာဇရသ်ကြီးအဖို့ ကဗူလ်ပြု တော်မူပါ။ ယာအလ္လာဟ်၊ ကျွန်တော့်မှာ အမလ်ဘာမျှမရှိပါ။ ဒအ်ဝသ်ကို ကျွန်တော့်အတွက် ဆွဒကဟ်ဂျာရီယဟ်ဖြစ် ပြုပေးတော်မူပါ။

တမန်တော်မြတ် ﷺ ၏ ဩဝါဒတော် الدال على الخير كفاعله ဒီပုဂ္ဂိုလ်များ၏အမလ်နှင့် သဝ်လီဂ်မဲဟ်နသ်ရဲ့ စဝါးဗ်ကိုမိဘနှင့်ကျွန်တော့် ဆရာမိသားစုအတွက်လည်း အကျိုးပေးတော်မူပါ၊

ယာအလ္လာဟ်၊ ကျွန်တော်များကို ကဗူလ်ပြုတော်မူပါ။ ကျွန်တော် တို့ ယခုလိုရောက်လာခြင်းကို လက်ခံအတည်ပြုတော်မူပါ။ အို–အလ္လာဟ်၊ အရှင်မြတ်ရဲ့ ဗန္ဒဟ်များဟာ ရပ်ဝေးရပ်နီးနယ်အသီးသီးမှာ တောင်ပေါ်မြေ ပြန့်နဲ့ နယ်စပ်မှပင် အရှင့်နာမတော်နှင့် အရှင့်နဗီတမန်တော်ရဲ့ နိစ်ဗသ် အပေါ်ကျရောက်လာခြင်းဖြစ်တယ်။ လောကီအကြောင်း ဘာမှမပါပါ။ အရှင့်ဇာသ်တော်နှင့်တကွ အီမာန်၊ ယကီန်ကိုမြှင့်တင်ရန် အီမာန်တည်း ဟူသောရတနာကို ထွေးပိုက်လျက် ဒီးန်ကို ဆည်းပူးရန် ရောက်လာ ပါတယ်။

အီမာန်နှင့်ဒီးန်ကိုဆည်းပူးရန်ထွက်လာသူများနှင့်ပတ်သက်ပြီး အရှင့်နဗီက မိန့်တော်မူထားတယ်။ ၎င်းအတွက် ကုန်းပေါ်၊ ရေပိုင်းမှာ ရှိသမျှမခ်လူးက်တိုင်းက ဒိုအာပြုနေကြတယ်။ ဖရိရှ်သဟ်များလည်း ဒိုအာပြုရေသတ္တဝါ၊ ကုန်းသတ္တဝါ ကျေးငှက်တိရိစ္ဆာန်တွေကအစ ဒိုအာ ပြုကြတယ်။ ယာ–အလ္လာဟ်၊ မခ်လူးက်ရဲ့ဒိုအာများကို အရှင့်လမ်းတော်မှာ အနစ်နာခံထွက်ကြသူများအတွက် ကဗူလ်ပြုတော်မူပါ။ မရ်ကဇ်အားလုံး

ကို စည်ကားသိုက်မြိုက်အောင် ပြုပေးတော်မူပါ။ ဒီးန်ဆည်းပူးရန် နေဇာ မွဒ်ဒီးန် ရိုင်ဝါန်သွားသူများအား ကဗူလ်ပြုတော်မူပါ။ အို–အလ္လာဟ်၊ ဖိုင်နွလ်အာဗိဒီးန်တို့ဂျမာအသ်၊ အမီရွဒ်ဒီးန်တို့ဂျမာအသ်ကို ကဗူလ်ပြု တော်မူပါ။ နိုင်ငံအနှံ့ကြိုးပမ်းနေသူများရဲ့ မိသားစုကို ထိန်းသိမ်းတော်မူပါ။ ဒီးန်၊ ဒွန္နယာ၏ဗရ်ကသ်များ အပြည့်အဝချီးမြှင့်တော်မူပါ။ အို –အလ္လာဟ်၊ ရက်ရောတော်မူသောအရှင်၊ ကရုဏာထားတော်မူသောအရှင်၊ အို– အလ္လာဟ် ၊ အရှင့်အမိန့်တော်ရှိပါတယ်။ **ادعونی استجب لکم** အမိန့်တော် အရ အရှင့်တံခါးဝတွင် လက်ဖြန့် လျက်ပါ။ အိုအလ္လာဟ်၊ ကျွန်တော်တို့ရဲ့ ခွက်ကိုဖြည့်တော်မူပါ။ ဒီးန်၊ ဒွန္နယာရဲ့ နိအ်မသ်များနဲ့ ဖြည့်တော်မူပါ။

ယာအလ္လာဟ်၊ ကျွန်တော်မျိုးတို့ရဲ့ သားသမီးငယ်များကို အီမာန်နှင့်ဒီးန်အပေါ် တည်တံ့စွာထားတော်မူပါ။ ၎င်းတို့ရဲ့ ခဲယဉ်းမှုများကို ဖယ်ရှားကာ အဆင်ပြေစေတော်မူပါ။ ဟလာလ်ရိုဇီချီးမြှင့်တော်မူပါ။ ယာ– အလ္လာဟ်၊ မောသ်အချိန်ကလေမဟ်ပေးတော်မူပါ။ ယာ–အလ္လာဟ်၊ ဒီအိဇ် သေမာကို အလွန့်အလွန် ကဗူလ်ပြုတော်မူပါ။ ဒီက မွတ်စလင်မ် ညီနောင်များရဲ့ လိုအပ်ချက်ကို ဖြည့်ဆည်းတော်မူပါ။ ယာ–အလ္လာဟ်၊ အန်ဆွာရ်များရဲ့လိုအပ်ချက်ကို ဖြည့်ဆည်းတော်မူပါ။ ယာ –အလ္လာဟ်၊ အန်စာရ်များက နဗီကိုနွစ်ရသ်ပြုသကဲ့သို့ ဒီကလယ်သမားများက ကျွန် တော်တို့ကို နေရာပေးကူညီခဲ့လို့ ၎င်းတို့ရဲ့လယ်ယာများ ပျက်စီးကုန်ပါ တယ်ယာ–အလ္လာဟ်။ ယာ–အလ္လာဟ် နိစ်ဗသ်အပေါ် ကျွန်တော်တို့ ရောက်လာကြပါတယ်။ ဒီကလူတွေက ခိဒ်မသ်ပြုကြပါတယ်။ ၎င်းတို့ရဲ့

လယ်ယာများ ကောက်ပဲသီးနှံများပေါ်များစေတော်မူပါ။ ယခင်ထက် အဆပေါင်းများစွာ အသီးအနှံဖြစ်ထွန်းစေတော်မူပါ။ ဒီးန်ဒွန္နယာရဲ့ နိအ်မသ်များကို အလျှံအပယ်ချီးမြှင့်တော်မူပါ။

အို–အလ္လာဟ်၊ မိမိရဲ့ကရုဏာအသနားတော်ဖြင့် အရှင့်အချစ်တော်ကိုသဟဲ၍ အသင့်ရှိနေသူ၊ အကွယ်တွင်ရှိနေသူ၊ အမျိုးသား/အမျိုးသမီး၊ ကလေး၊ ကလေးမတို့အတွက် ကျွန်တော်များ၏ ဒိုအာကို ကဗူလ်ပြုတော်မူပါ။

အို–အလ္လာဟ်၊ အိုကရုဏာတော်အရှင်၊ ကရုဏာသက်တော်မူပါ။ အိုသနားတော်မူသောအရှင်၊ သနားတော်မူပါ။ အို–ဂဖ္ဖားရ်၊ မဂ်ဖွေရသ်ပေးတော်မူပါ။ အိုစသ်သားရ် ဂုနာဟ်ကိုဖုံးအုပ်ထားတော်မူပါ။

အို–အလ္လာဟ်၊ နေဇာမွဒ်ဒီးန်ရဲ့ သဗ်လီဂ်နေဇာမ်ကို လက်ခံတော်မူပါ။ ကမ္ဘာ့အဝှမ်း၊ ဟေဒါယသ်ရဲ့အလင်းကိုဖြန့်တော်မူပါ။ ဟေဒါယသ်ရဲ့လေကိုတိုက်ခတ်စေတော်မူပါ။ ဒီန်ရဲ့ပတ်ဝန်းကျင်ကို ဖြန့်တော်မူပါ။

အို–အလ္လာဟ်၊ မကာသစ်ဗ်၊ မဒါရိကို စည်ကားအောင်ပြုတော်မူပါ။ ခါန်ကဟ်များကိုစည်ကားစေတော်မူပါ။ အွမ္မသ်ရဲ့အလ္လာစုံကို အီမာန်ရဲ့နူးရ်၊ အေလင်မ်၊ ဖိက်ရ်ရဲ့နူးရ်၊ နဗီကြီး အစ်ခ်လားဆွ်မှအပြည့်အဝစေစုအိခ်လားဆွ်အရည်အသွေးနှင့် အရှင့်လမ်းတော်၌ စွန့်စားခွင့်ပေးသနားတော်မူပါ။ (ဟာဇရသ်၏ မျက်ရည်များစီးဆင်းလျက်)

ယာ–အလ္လာဟ်၊ ကျွန်တော်ကတော့ မဟာဒုစရိုက်သားပါ၊ အို–အလ္လာဟ် ၊ ဒီပရိသတ်ထဲမှာ အရှင့်သူတော်စင်ဗန္ဒဟ်၊ ဗန္ဒီများအနက်မှ တစ်စုံတစ်ဦးတော့ရှိနေမှာပါ။ အို–အလ္လာဟ်၊ ၎င်းတို့ကို သဟဲပြီး အာလင်မ်များကိုသဟဲပြီး ဆွာလေဟီးန်၊ အောင်လီယာများကိုသဟဲပြီး ဒီအစ်ဂ်ျသေမာကို သဟဲပြီး (နှစ်ကြိမ်) ယာအလ္လာဟ်၊ ဟာဇရသ်ကြီးကို သဟဲပြီး ဟာဇရသ်ထာနဝီကိုသဟဲပြီး ဟာဇရသ်ရှားဟ်ဝလီရွလ္လာဟ် ကိုသဟဲပြီး ကျွန်တော်တို့ဒိုအာများကို အွမ္မသ်တစ်ရပ်လုံးအတွက် ကဗူလ်ပြုတော်မူပါ။ အာမီးန် بِرَحْمَتِكَ يَاأَرْحَمَ الرَّاحِمِيْنَ

## ဟာဇရသ်၏ကမ္ဘာအတွက်ဝစီယသ်မှာတမ်းစကား

ဟာဇရသ်၏ဗယာနှင့်ဒိုအာသည် အိဂ်ျသိမာတွင်ပါဝင်သူ၊ မြန်မာနိုင်ငံသားပင်မက ကမ္ဘာသူ၊ ကမ္ဘာသား လူသားတစ်ရပ်လုံးအတွက်ကြီးကျယ်သော ဝစ္စီယသ်မိန့်မှာချက်ပင်ဖြစ်သည်။

ထိုအိဂ်ျသိမာမှမွတ်စ်လင်မ်အလ္လာစုံတို့ အလ္လာဟ့်လမ်းတော်သို့ ထွက်ခွာကြပါတယ်။ ယနေ့လည်းထွက်နေပြီး နောင်ကိုလည်း ထွက်နေကြမှာပါ။ ရင်ထဲခံစားချက်အပြည့်ဖြင့် ဟေဒါယသ်ဒိုအာများ အရှင့်ထံတော်တွင် မျက်ရည်စများဖြင့်ဆက်သခဲ့ပါသည်။

اللهم اغفر له وارحمه واسكنه فى الجنة

## မော်လာနာ ဟာဖိဇ်မုဟမ္မဒ်စိုလိုင်မာန်ဆွာဟိဗ် (မော်လမြိုင်)

### ကျွန်တော့်ကိုပြုစုပျိုးထောင်ခဲ့သောကျေးဇူးရှင်ဆရာတော် (رحمة اللهِ عليه)

၁၉၅၄– ခုနှစ်ခန့်လောက်က ဂျာမိအဟ်ဒါရှလ်အိုလူမ်တာမွေ၏ ဒုတိယအစမ်း (၆–လပတ်) စာမေးပွဲဖြစ်စဉ်က ဟိဖ်ဇ်အတန်း၌ ကျွန်တော့်အား ကျောင်းဝင်ခွင့်ပြုခဲ့ပါသည်။ ကျောင်းဝင်ခွင့်ရရေးတွင် ကျွန်တော့်၏ ကျေးဇူးရှင် ဟဇရသ် မောင်လာနာ အလ်ဟာဂျ် အလ်ဟာဖိဇ် အလ်မုဖစ်စိရ် မုဟမ္မဒ်ဆွာလေဟ်ဆွာဟိဗ် (မဇ္ဇာဟိရီ) ဆွာဟိဗ်ကို (အကြောင်းခံ၍) ကြားဝင်ပြောဆိုပေးသည်။

ကျွန်တော့်မွေးရပ်မှာ မော်လမြိုင်–၁၉၄၂ခုနှစ် ဩဂုတ်လတွင်မွေးဖွားသည်။ ၁၉၄၇ ခုနှစ်တွင် မော်လမြိုင်ရှိ မေမန်ဂျမာအသ် မဒရ်ဆဟ်၌တွင် အစ္စလာမ်ရေးရာအခြေခံပညာကို ဆည်းပူး၍ ၁၉၅၂ ခုနှစ်တွင် ၄–တန်းအောင်မြင်ခဲ့ပါသည်။

ထိုအချိန်က ဒေလီနေဇာမွတ်ဒီးန်မှ ဒအ်ဝသ်ကြိုးပမ်းမှုအတွက် ဟဇရသ်မော်လာနာ မုဟမ္မဒ်ဒါဝူဒ်မေဝါသီဆွာဟိဗ်ကြွလာသည်။ မော်လမြိုင်သို့လည်း ကြွမြန်းလာကာ ဒအ်ဝသ်ကြိုးပမ်းမှုပြုရာ ကျွန်တော့်ဖခင် (မရ်ဟူမ် မုဟမ္မဒ် ဆွာလေဟ် အစ်ဗ်နေရှိုင်ခ် စာလာရ်ဆွာဟိဗ်) နှင့်တကွ အခြားပုဂ္ဂိုလ်များလည်း မိမိတို့ပြုပြင်မှုရရှိရန် ဒအ်ဝသ်ကြိုးပမ်းမှုတွင် ပါဝင်ကြလေသည်။

ဒအ်ဝသ်တွင် ဒီ န်ရေးရာ အိလ်မ်၏အရေးကြီးပုံ ထွတ်မြတ်ပုံများကို တင်ပြလေ့ရှိရာ ဖခင်သည်လည်း မိသားစု၏ပညာရေးကို ထည့်သွင်း

စဉ်းစားလာသည်။ ယခင်ကဆိုမူ ဒီးန်အခြေခံပညာကို ဆည်းပူးတတ်မြောက်ပြီးပါက ဒွန္တယာရေးပညာကို ဒီဂရီရသည်အထိ ကြိုးပမ်းစေသည့် အစဉ်အလာသာ ရှိခဲ့ပါသည်။

## ဒအ်ဝသ်သဗ်လီဂ်တွင်ကြိုးပမ်းမှုရရှိပုံ

စာသင်ကြားလျက် ကြာသပတေးညအပတ်စဉ် တစ်ခြမ်းပွဲဗလီအစီအစဉ်သို့လည်း သွားရောက်လေ့ရှိခဲ့သည်။ ပြည်လုံးကျွတ် အိဂ်ျသိမာတွင်လည်းကောင်း၊ တစ်ခါတစ်ရံ ၃–ရက် ဂျမာအသ်တွင်မိမိကိုယ်ပြုပြင်ရန်လည်းကောင်း၊ ထွက်ခွင့်ရရှိသည့်အပြင် တစ်ကျစ်လ္လာ လည်းသွားခွင့်ရရှိခဲ့သည်။

ဟာဇရသ်သည် မိမိထက်ငယ်ရွယ်သော တပည့်များကို ရှေ့တင်ပေးသည့် စိတ်ဓါတ်မှာ အလွန်ရင့်ကျက်ခဲ့သည်။ ရန်ကုန်မရ်ကဇ်တွင် မဂ်ရိဗ်ပြီး အစီအစဉ်ထားရန် ကျွန်တော့်ကို အကြိမ် ကြိမ်တာဝန်ပေးခဲ့သည်မှာ နှစ်,လအတန်ကြာခဲ့သည်အထိဖြစ်သည်။

၁၉၇၆ခုနှစ်တွင် ဒါရွလ်အိုလူမ်မှ ကီလီလမ်းရှိ မဒ်ရဆဟ် အပ်စ်အဒီယာသို့သအ်လီးမ်ပို့ချသည့်ခိဒ်မသ်တာဝန်ကိုထမ်းဆောင်ခွင့်ရရှိခဲ့သည်။

၁၉၈၁ ခုနှစ်တွင် ကနဦးပိုင်းတွင် သဃ်န်းကျွန်း ယုဝလမ်းအမှတ်(၁၉)ရှိ အခြေခံမပ်က်သဗ် **မဒ်ရဆဟ်အစ္စလာမီယာသအ်လီမွလ်ကုရ်အာန်** အမည်ဖြင့် အုတ်မြစ်ချ အစပျိုးခွင့်ရသည်။ ဤကျောင်းနှင့်ပတ်သက်၍ ဟာဇရသ်နှင့်အတူ အခြားဆရာများက အထူးအာရုံပြုခဲ့ကြသည်။ အားပေးကြသည်။ ထိုစဉ်ကလည်း အစ်ဂ်ျသိမာဗယာန်နှင့် မရ်ကဇ်

သို့ သွားရောက်ခြင်းလည်း အဆက်မပြတ်ခဲ့ပေ။

တစ်နေ့ ဟာဇရသ်ထံခစား၍ ကျောင်းသားများ၏ ပညာရေးစီမံမှုများကြောင့် မရ်ကဇ်သို့ အဆက်မပြတ်လာရောက်ခြင်းမှာ မဖြစ်နိုင်တော့ကြောင်းတင်ပြရာ ဟာဇရသ်က ကျွန်တော့်ကို စိတ်မဆိုးဘဲ 'အသင်မရ်ကဇ်သို့လာရမယ်' လို့မပြောဘဲ ယုယကြင်နာသောအသွင်ဖြင့် 'အသင်ပညာရေးနဲ့ပတ်သတ်ပြီး မလစ်ဟင်းစေနဲ့။ ကောင်းအောင်ကြိုးစားပါ။ မရ်ကဇ်မလာဖြစ်လည်း အကြောင်းမဟုတ်ဘူး' လို့မိန့်လေသည်။

## အကာဗိရ်များ၏ အာရုံထားမှု၏ဗရ်ကသ်နှင့် မဒ်ရဆဟ်၏ပညာရေးတိုးတက်မှု

မဒ်ရဆဟ် အစ္စလာမီယာ သအ်လီမွလ်ကုရ်အာန်သည် ၁၉၈၆ ခုနှစ်မှ **ဒရ်စေနေဇာမီ** သင်ရိုးညွှန်းတမ်းနှင့်တကွ သင်ကြားပို့ချလာရာ ၁၉၉၁ ခုနှစ် မှ ၂၀၀၁ ခုနှစ် ထိ ၁၀နှစ်တိုင်တိုင် မိရှ်ကားသ်အတန်းကို စာသင်ခွင့်ရရှိခဲ့သည်။ တစ်ဖန် အကာဗိရ်များ၏ ခွင့်ပြုချက်ဖြင့် (ဟာဇရသ် အမီးရ်ဆပ်ဗ်နှင့်တကွ ဆရာတော် ရှိုင်ခွလ်ဟာဒီးဆ် ဟာဇရသ်မော်လာနာ အလ်ဟာဂျ် အလ်ဟာဖိဇ် မွဖ်သီ မုဟမ္မဒ် နူရွလ္လာဟ်ဆွာဟိဗ်နှင့် ဟာဇရသ် မော်လာနာ အလ်ဟာဂျ် အလ်ဟာဖိဇ် ဖဇ်လွရ်ရဟ်မာန်ခန်း ဆွာဟိဗ် (ဒါမသ်ဗရကာသုဟွန်မ်) တို့အားဖြင့် ဒေါင်ရာဟာဒီးဆ်ကို စတင်ဖွင့်လှစ်ခဲ့သည်။

ဟာဇရသ်သည် အသက်နှင့်တကွ ရှိနေသရွေ့ ဤကျောင်းအတွက် ဒိုအာဖြင့် အာရုံပြုခဲ့သည်။ ကွယ်လွန်ပြီးနောက်လည်း ရူဟာနီဖြင့်

အာရုံထားနေမည်ဟု မျှော်လင့်ပါသည်။

မော်လာနာဟာဖိဇ်မုဟမ္မဒ်စိုလိုင်မာန်

နေ့စွဲ ၂၈/၁၁/၁၄၂၆

၃၁/၁၂/၂၀၀၅

## ဟာဇရတ် မော်လာနာ ရှဗီကုရ်ရဟ်မာန်ဆွာဟိဗ်

بسم الله الرحمن الرحيم

အလ္လာဟ်အရှင်မြတ်အားချီးမွမ်း၍ တမန်တော်မြတ် ﷺ အပေါ်သို့ ဆလဝါသ်စလာမ်ပို့သပြီးနောက် ပြောလိုတာက ကျွန်ုပ်ရဲ့ချစ်ခင်အပ်တဲ့ မော်လဝီ ဟာဖိဇ် ကာရီ မုဟမ္မဒ် အိလ်ယာစ်ဆာဗ်ရဲ့တိုက်တွန်းမှုကြောင့် ကျွန်ုပ်ရဲ့ဆရာသခင် ကျေးဇူးရှင်လည်းဖြစ် သဗ်လီဂ်လုပ်ငန်းရဲ့ ဦးစီးဦးဆောင်အမီးရ်၊ ဖခင်ကြီးသဖွယ်ဖြစ်တဲ့ အလ်ဟာဂ်ျမော်လာနာ ဟာဖိဇ် မုဟမ္မဒ်ဆွာလေဟ်ဆွာဟိဗ် (မဇ္ဇာဟေရီ) အသက်ထင်ရှားရှိစဉ်က ဘဝပုံရိပ်တစ်စိတ်တစ်ပိုင်းကို ဖော်ပြလိုက်ရခြင်းဖြစ်ပါတယ်။

ဆရာသခင်ကြီးဟာ စစ်မှန်ကျော်ကြားတဲ့ ကဝိအကျော်အမော်များရဲ့ခေတ်သမယကို ကြုံဆုံခဲ့ရရုံသာမက အဆိုပါဆရာသခင်အကြီးအကဲများထဲမှ အသိပညာနှင့်ရူဟာနီပိုင်းဆိုင်ရာပညာရပ်များကို သင်ယူ

ဆည်းပူးခဲ့သူဖြစ်ပါတယ်။ အချုပ်အားဖြင့် ပြောရလျှင် ဆရာသခင်ကြီးဟာ သဖ်စီရ်၊ ဟဒီစ်၊ ဖိကဟ်ဓမ္မသတ်ပညာများနှင့်အခြားသော သာသာနာ့ ပညာရပ်များကိုလည်း အလွန်ထက်မြက်ကျွမ်းကျင်တတ်မြောက်ထားသူ တစ်ဦးဖြစ်ပါတယ်။

မြန်မာနိုင်ငံရဲ့မြို့ရွာဒေသအသီးသီး၊ တစ်နည်းပြောရလျှင် လှည်း နေလှေအောင်းမြင်းစောင်းမကျန် သဗ်လီဂ်သာသနာ့လုပ်ငန်းအတွက် ကြွ မြန်းခဲ့သူ သို့မဟုတ် သဗ်လီဂ်အဖွဲ့စေလွှတ်ခဲ့သူဆရာသခင်ကြီးရဲ့ ဘဝ ပုံရိပ်တစ်စိတ်တစ်ပိုင်းကို ဖော်ပြခွင့်ရတာနဲ့အတူ မာရှာအလ္လာဟ် များစွာ သော ဗရ်ကသ်မင်္ဂလာကို မျှော်ကိုးတောင့်တမိပါတယ်။

ဆရာသခင်ကြီးရဲ့ အဲဒီလိုကြိုးပမ်းခဲ့မှုကြောင့် ယနေ့မြန်မာနိုင်ငံ အဝှမ်းရှိ နေရာဒေသအသီးသီးမှ သဗ်လီဂ်လုပ်နေသူများ၊ ကလေမဟ် မြွက်ဟတ,သနေသူများနှင့် ၎င်းတို့ရဲ့ရင်သွေးများကို အရဗီကျောင်းများပို့ ၍ ဟာဖိဇ် မော်လဝီပညာရပ်များကို သင်ယူဆည်းပူးနေကြခြင်းဟာလည်း ဆရာသခင်ကြီးအတွက် ဆွာဒ်ကဟ်ဂျာရိယဟ်ဖြစ်ပါတယ်။ ၁၉၅၅ခုနှစ်မှာ အလ္လာဟ်အရှင်မြတ်ရဲ့ ကျေးဇူးတော်နှင့် ကျွန်ုပ်ရဲ့ဖခင် အလ်ဟာဂျ် မော်လာနာ စိုင်ယဒ် အဟ်မဒ်ဆပ် (رحمة الله عليه) က ကျွန်ုပ်ကိုဆရာသခင် ကြီးရဲ့ ဗရ်ကသ်မင်္ဂလာနှင့်ပြည့်ဝနေတဲ့ လက်ဝယ်မှာ အပ်နှင်းခဲ့တဲ့ အတွက်ကြောင့် ကျွန်ုပ်အနေနှင့်ဆရာသခင့်အိမ်မှာ ဝတ်ကြီးဝတ်ငယ်ပြုစု ခွင့်ရခဲ့ပါတယ်။

ထို့ပြင်ကျွန်ုပ် ၁၉၆၄ ခုနှစ် မှာအောင်မြင်စွာ ပညာဆည်းပူးပြီး

နောက် ဆရာသခင်နှင့်အတူ သဗ်လီဂ်ရဲ့ခရီးစဉ်တွေဖြစ်တဲ့ သန်လျင်၊ ဝါးခယ်မ၊ ပြည်၊ ကျောက်ဆည်၊ ယင်းတော်၊ မန္တလေး၊ မေမြို့စတဲ့မြို့တွေမှာ လိုက်ပါပြီး အနီးကပ်ပြုစုခွင့်ရခဲ့ပါတယ်။

ဆရာသခင်ကြီးဟာ ပြုံးရွှင်တဲ့မျက်နှာရှင်၊ ကြင်နာတတ်တဲ့နှလုံးသားရှင်၊ စွန့်လွှတ်အနစ်နာခံသူ၊ သက္ကဝါတရားအပြည့်ရှိသူ၊ သာသနာ့သောကရှိသူတစ်ဦးအဖြစ်တွေ့မြင်သိရှိခဲ့ရပါတယ်။

ဆရာသခင်ကြီးဟာ မိမိရဲ့ဘဝသက်တမ်းရဲ့အချိန်များစွာကို အသုံးချပြီး နေရာဒေသအသီးသီးမှာ သဗ်လီဂ်လုပ်ငန်းဆောင်ရွက်ခဲ့သူဖြစ်ပါတယ်။ တစ်ခါတစ်ရံအချို့နေရာဒေသတွေမှာ ကွဲလွဲမှု သို့မဟုတ်ပြဿနာတစ်စုံတစ်ရာပေါ်ပေါက်လာမှုကြောင့် လူအများက ဒေသခံအာလင်မ်ပညာရှင်များထံက ဖြေရှင်းချက်တောင်းခံကြတဲ့အခါ ဒေသခံဆရာများက 'ကျွန်ုပ်ကမြစ်ရေပြင်ပေါ်ကူးခတ်သူသာဖြစ်တယ်။ ပင်လယ်ပြင်ရေအောက်ငုတ်ပြီး ပုလဲယူဆောင်လာတတ်တဲ့ ဆရာသခင်အမီရ်ဆပ်လာတဲ့အခါ မေးကြပါ'လို့ ပြန်ဖြေလေ့ရှိတယ်။

အလ္လာဟ်အရှင်မြတ်သည် သားလီမ္မာနှင့်၊ သူ့မိခင်နှင့် သူ့ရဲ့မောင်နှမများကို ကောင်းသောအစားပေးတော်မူပါစေ။

ဆရာသခင်ကြီးဟာ ဟောဒါယသ်ရဲ့မီးတိုင်ကို ကိုင်ဆောင်ခဲ့သူစစ်မှတ်တဲ့ပညာနဲ့ကျင့်စဉ်များကို အိခ်လာဆ်နှင့်လုပ်ပြခဲ့သူ အထူးသဖြင့်သာသနာ့အတွက် အချိန်ပေးကြိုးပမ်းခဲ့သူများ ဒအ်ဝါသ်ပေးဖိတ်ခေါ်ခဲ့သူများရဲ့ပုံရိပ်ကိုဆင့်ပွားပုံတူ ထိန်းသိမ်းခဲ့သူတစ်ဦးဖြစ်ပါတယ်။

အလ္လာဟ်အရှင်မြတ်သည် ဖော်ပြပါဆရာသခင်ကြီး၏ဘဝပုံရိပ်

တစ်စိတ်တစ်ပိုင်းဖြင့် ကျွန်ုပ်နှင့်စာရှုသူများအား ဟေဒါယသ်တရား လမ်းမှန်ရရှိစေရန် မီးရှူးတန်ဆောင်အဖြစ် ပြုလုပ်ပေးသနားတော်မူပါစေသား။ အာမီးန်

ဒိုအာလိုလားသူ

ရှဖီကွရ်ရဟ်မာန်း (မဟ်မူဒီ)

---

## မော်လာနာ အေယာဇ်ဆပ် တင်ပြချက်

ဟမ်ဒိုစနာပြီးနောက် ။ ။ ။

မော်လဝီဟာဖစ်ဇ်အိလ်ယာစ်ဆပ်၏ အကြိမ်ကြိမ်ပန်ကြား လာသောကြောင့် ဟဇရသ်အမီရ်ဆပ်နှင့်စပ်လျဉ်း၍ ပညာပေးပြုစုပျိုးထောင်ပုံများကို ရေးသားလိုက်ပါတယ်။

ဟဇရသ်သည် ကျွန်တော်တို့အပေါ် မိဘသဖွယ် သွန်သင်ဆုံးမလေ့ရှိပါတယ်။ အခြားသူများကို ငဲ့ညှာပေမယ့် ကျွန်တော်တို့ကို ပြတ်ပြတ်သားသား ပြုပြင်တတ်ပါတယ်။

ပုဂ္ဂိုလ်တစ်ဦးက ဗလီကျောင်းတာဝန်အတွက် ဦးဆောင်ပေးမယ့်သူလိုအပ်ကြောင်း ကျွန်တော်နှင့် မော်လဝီအဗ်ဒွလ်ကာဒိရ်ဘက်ကို ညွှန်ပြ၍ တောင်းခံရာ ဟဇရသ်က ၎င်းတို့ကိုတော့ ငါ့အတွက် ချန်လှပ်

ထားလိုက်ပါဗျာလို့ပြောရှာတယ်။

အများသူငါမသိစေလိုတဲ့စကားကိုလည်း ကျွန်တော်တို့ရှေ့မှာကျတော့ လျို့ဝှက်ထားလေ့မရှိ။ အတိအလင်းဖော်ပြ၍ မရှုဝရာယူတာလည်း ရှိပါတယ်။

ဟာဇရည်နဲ့ အနီးကပ်နေရတဲ့ အကျိုးဖြစ်ထွန်းမှုကို ရေးသားဖော်ပြဖို့ အလွန်ခဲယဉ်းပါတယ်။ ဟာဇရည်ရဲ့လှုပ်ရှားမှု လုပ်ကိုင်ဆောင်ရွက်မှု တစ်ခုချင်းစီဟာ နမူနာယူစရာအတွက်ဖြစ်ပါတယ်။ နူးညံ့ပျော့ပျောင်းတာရှိသလို ပြတ်သားထန်မာတာလည်းရှိပါတယ်။ လွယ်ကူတဲ့အလုပ်ဆိုရင်သူများအတွက်၊ ခက်ခဲတဲ့အလုပ်ဆိုရင် ကိုယ်တိုင်ပဲဆောင်ရွက်လေ့ရှိပါတယ်။

တစ်ခါတစ်ရံ သက်သေထားစေလိုသောအားဖြင့် မရှုဝရဟ်ယူတတ်သလို တာဝန်ပေးချင်ရင်လည်း မရှုဝရာလုပ်ပါတယ်။ လူတို့ဖြစ်စေချင်တာကိုပြောပေမယ့် မရှုဝရဟ်မှာ အသိမပေးဘဲ ၎င်းတို့ရဲ့ ဆန္ဒကိုလိုက်လျောခြင်းလည်းမရှိပါ။

ငယ်ရွယ်သူတစ်ဦး ဂျမာအသ်အလွန်ထွက်ချင်သော်လည်း လုပ်ဖော်ကိုင်ဖက်များက ခွင့်မပြုစေချင်ပါ။ သို့သော်လည်း ဟာဇရည်သည် ၎င်းထံမှ ကတိယူပြီးထွက်ခွင့်ပြုတာလည်း ရှိပါတယ်။ မြို့ရွာဒေသတစ်ခုခုသို့ရောက်လျှင် ၎င်းဒေသရှိ အာလင်မ်ကြီးများရှိပါက ဇိယာရသ်မုလာကာသ်အတွက်ကြွသွားလေ့ရှိပါတယ်။ သင့်တော်မည့် လက်ဆောင်လည်းပေးကမ်းတတ်ပါတယ်။ ကျောင်းနေဘက်ဟာဇရည်ဖမ်ာလာနာဟာဖိဇ္ဇလ္လာဟ်ဆပ် (မန္တလေး) နဲ့ဆိုရင် ငယ်ရွယ်စဉ်ကအကြောင်းတွေကို

ပြောကြတယ်။ တစ်ဦးနဲ့တစ်ဦး ဒိုအာအတွက် မေတ္တာရပ်ခံကြပါတယ်။ ခရီးဦးကြိုပြု ၊ တရင်းတနှီး တလေးတစား စကားပြောကြပုံမြင်ကွင်းမှာ အတုယူဖွယ်ကောင်းပါတယ်။

နိကာဟ်ဖတ်ပေးရန်၊ ဂျနာဇာရပ်ပေးရန် မည်သူပင်လာပြော သည်ဖြစ်စေ အလိုဆန္ဒကိုလိုက်လျောကာ အပင်ပန်းခံ၍ သွားတတ်ပါ တယ်၊ တစ်ခါတစ်ရံ အသိပေးရုံ ဒိုအာရရုံမျှသာ ဆန္ဒထားကြသော်လည်း ဟဇရသ်က ကျွန်တော်ကိုယ်တိုင်လာခဲ့မယ်လို့ပြောတတ်ပါတယ်။

အိုမင်းရင့်ရော်နေပြီဖြစ်သော်လည်း ဖွဲမာန်အလွန်ပြည့်ဝပါတယ်။ စကားပြောနိုင်သရွေ့ ဟဇရသ်ပဲ ဗယာန်ပြောလေ့ရှိတယ်။ အာလင်မ် သက်ရွယ်ကြီး ၊ ဝါရင့်၊ သူတော်စင်များအနီး ခစားခွင့်ရသူ၊ အခ်လာက် ကိုယ်ကျင့်တရားပြည့်ဝသူရဲ့ စကားသည်အနည်းငယ်ပင်ဖြစ်စေ၊ အလွန် ထိရောက်စူးရှပါတယ် မပ်က်စဒ်ကို အတိုချုံး၍ ပြောလိုသော် ဖဇာအီလ် များကို ဦးစွာတင်ပြပြီးမှ မပ်က်စဒ်ကို တင်ပြလေ့ရှိပါတယ်။ အစမှ အဆုံးတိုင်နားထောင်နိုင်မှ အလွန်အကျိုးရှိကြောင်းကို ရိပ်စားမိပါတယ်။ အချိန်အနည်းငယ်အတွင်းမှာလည်း ထက်မြက်သောစကားကို တင်ပြတတ် ပါတယ်။ ဒအ်ဝသ်မှာ စကားကြွယ်သူပြောတာထက် ကုရ်ဘာနီများသူ တင်ပြတာက ပိုပြီးထိရောက်ပါတယ်။

အကာဗိရ်အဆက်ဆက်ရဲ့ စိုဟ်ဗသ်ရခဲ့သူ၊ ပညာရေးရာတွင် လည်း အလွန်ထူးချွန်သူတစ်ဦး ကျုပ်တို့မှ လက်လွတ်သွားခြင်းမှာ အစားထိုး၍မရနိုင်တဲ့ဆုံးရှုံးမှုကြီးဖြစ်ပါတယ်။သို့သော် وَمَا مُحَمَّدٌ اِلَّا رَسُوْلٌ ဆိုတဲ့အာယသ်တော်အရ အရှင်မြတ်သာ حَیٌّ قَیُّوْمٌ အားကိုးအားထား

ရှိပါသေးတယ်။ နဗီမရှိတော့ပေမယ့် နဗီရဲ့သက်တမ်းမှာရှိခဲ့တဲ့ ဒအ်ဝသ်၊ သအ်လီးမ်၊ သဇ်ကီယဟ်ကို ဆောက်ချကြိုးပမ်းနေရမှာဖြစ်ပါတယ်။

အရှင်မြတ်ရဲ့ ကွဒ်ရသ်တော်အရ ယကီးန်အိခ်လားဆ့် နဲ့တကွ အုစူလ်ကိုလေးစားအချင်းချင်းချစ်ခင်မှုနဲ့တကွ ကြိုးပမ်းနေကြရင် အရှင်မြတ်ကူညီတော်မူပါလိမ့်မယ်။

ဟာဇရသ်၏ မိသားစုနှင့်တကွ တပည့်များ၊ မာမူရ်လုပ်ဖော်ကိုင်ဖက်များနှင့် ဟာဇရသ်ကိုယ်နှုတ်နှလုံးရင်းပြီး ကြိုးပမ်းသွားသော အဘ်မလ်များကို ဆက်လက်ကျင့်သုံးနိုင်စွမ်း ချီးမြှင့်တော်မူပါစေ။

**အာမီးန်**

**မုဟာမ္မဒ် အေယာဇ်**

**ဟာဒီးစ်အတန်းပြဆရာ၊ ဒါရုလ်အုလူမ် (တာမွေ)**



## မော်လာနာ အဗ္ဗဒွလ်ကာဒိရ်၏ တင်ပြချက်

### ဟဇရသ်၏ ဘဝတစ်သက်တာမှရရှိသော သင်ခန်းစာများမှာ–

– သအ်လီးမ်သဗ်လီးဂ်ကို သက်ဆုံးတိုင် တတ်စွမ်းနိုင်သမျှ အစွမ်းကုန် ကြိုးစားနေရမည်။

– လုပ်ငန်းကို နီယသ်ကောင်းကောင်း၊ နည်းစနစ်မှန်မှန်ဖြင့် တစိုက်မတ်မတ်လုံးပန်းနေရမည်။

– အိကိရာမေ့မွစ်လင်မ်ကို ရှေ့ထားပြီး ညီနောင်တိုင်းကို တန်ဖိုးထားပါ။ ဒီးန်ရဲ့အမွေအနှစ်များကိုလက်ဆင့်ကမ်းသွားရမည်။

– အီမာန်ယကီးန်နှင့် အရှင်မြတ်၏ကတိတော်ကိုအဓိက ခွန်အား သတ်မှတ်ပြီး ညဒိုအာနှင့် မျက်ရည်ကို ရင်းနှီးလျက်ကြိုးစားအားထုတ်နေရမည်။

– ကြုံလာမဲ့အခက်အခဲအတားအဆီးကို စိတ်လိုက်မာန်ပါဒေါသနဲ့ မဖြေရှင်းဘဲဟစ်ကမသ် မုဟာဗ္ဗသ်ဖြင့် နည်းလမ်းရှာရမည်။

– မျက်နှာချင်းဆိုင်–ယှဉ်ပြိုင်အံတု ရိုင်းဆိုင်းလာသော် နှလုံးရည်ဖြင့် စီမံတတ်ရမည်။

– ကြည်ညိုလေးစားမှုအရ ဘာမဆို ချဉ်းကပ်ရယူလိုသော် အတတ်နိုင်ဆုံး ချိုးမြှင့်ရန် ဆန္ဒကိုလိုက်လျောပေးရမည်။

– မည်သည့်ကဏ္ဍ၌ ရောက်ရှိနေသည်ဖြစ်စေ၊ ပီပီပြင်ပြင်တာဝန်ထမ်းဆောင်ရမည်။

– ခန္ဓာကိုယ်၏ကျန်းမာရေးအခြေအနေ ပေးနေသမျှ သကာဇာများကိုဖြည့်ဆည်းနေလျှင် လူတို့၏တောင်းဆိုချက်ကိုအနစ်နာခံ၍ ဖြည့်ဆည်းတတ်ပေမည်။

– လူကိုယ်တိုင်မသွားနိုင်လျှင်၊ အချိန်မီမရောက်နိုင်လျှင် စာအားဖြင့်နှစ်သိမ့်အားပေးစာရေးပို့နေရမည်။

– ညှိုးနွမ်းနေသောပန်းသည် ရေဖြင့်လန်းဆန်း သွားရသလို ဟာဇရည်က လှမ်းခေါ်၍တယုတယ စကားတစ်လုံးနှစ်လုံးပြောလိုက်ပါက စိတ်ဓါတ်ကျနေသောနှလုံးသားသည် ဂွမ်းဆီထိသည့်ပမာ ပီတိဖြစ်သွားလေတော့သည်။

ခေါင်းဆောင်တွေရဲ့အကြောင်းကို ရေးရိုးထုံးစံရှိပါတယ်။ ဟာဇရည်ရဲ့အကြောင်းကို ရေးသားပြုစုရင်မကောင်းဘူးလားလို့မေးတော့ သဗ်လီဂ်မှာ ခေါင်းဆောင်ဆိုတာ တမန်တော်နှင့် အဆ္ဟာဗ်တော်များသာဖြစ်လို့ ဟောကာယသေဆွဟာဗဟ်ဖတ်ရွတ်လေ့လာရုံနှင့်လုံလောက်ပါသည်ဟုမိန့်၏။



## ဟဇရယ်၏မွန်မြတ်သောအရည်အသွေးများ

- မိုးကောင်းကင်သို့ ဖွဲမာန်မြင့်မားပြီး မြေပြင်ကဲ့သို့ နှိမ့်ချရိုကျိုးသည့် ခန္တီပါရမီပြည့်ဝသူ တောင်များကဲ့သို့ အလွန်ကြံ့ခိုင်သော အိတ်သေကာမယ်ရှိသည်။

- အခန်းအနားသို့ရောက်လာလျှင် နေလပမာလင်းထိန်သွားသည်။

- မြို့သိပ်ရာတွင် ဆွိဒ္ဒိကီအရည်အချင်းပြည့်ဝသည်။

- စီမံအုပ်ချုပ်ရာတွင် ဖာရူကီအဆင်းရှိသည်။

- ရှက်ရွံ့ရက်ရောရာတွင်အွဆ်မာနီအသွင်ဆောင်သည်။

- သတ္တိရှိရာတွင် အလီဟိုင်ဒရီကဲ့သို့ဖြစ်သည်။

- ဟဇရယ်နှင့်အတူ ထိုင်ထသွားလာရသည့်အခါ ပန်းကဲ့သို့ ဆက်ဆံခံရသဖြင့် မွှေးရနံ့မှာ ပျံ့သွားသည်။ ရေစီးဆင်းပုံကဲ့သို့ မည်သူ့ကိုမျှ ဒုက္ခမပေးဘဲ အသာအယာ ငြိမ်ဆိမ်လှသည်။

- လူတိုင်းမြတ်နိုး ဟဇရယ်တန်ခိုး

- ဒါရှလ်အုလူမ်ကလည်း ဒါဟာဒို့ကျောင်းဆရာ၊

- အိုလမာအဖွဲ့ကလည်း ဒါဟာဒို့ရဲ့ဒုဥက္ကဋ္ဌ၊
- ဆူဖီယာကလည်း ဒါဟာဒို့ကျောင်းအုပ်၊
- ဆွာဒီကီယာကလည်း ဒါဟာဒို့နာယက၊
- အဆ်ဒီယဟ်ကလည်း ဒါဟာဒို့အတိုင်ပင်ခံ၊
- မဇ္ဇာဟိဗ်အုလူမ်ကလည်း ဒါဟာဒို့ကျောင်းထွက်၊
- သယ်နိုးကျွန်းဂျာမိအဟ်ကလည်း ဒါဟာဒို့ကျေးဇူးရှင်၊
- မြိုတ်၊ ပသောင်း၊ နဒ်ဝါလည်း ဒါဟာတို့ ဦးသျှောင်၊
- အိုစာမာဟ်၊ စိုဟိုင်လ်၊ ဆာဒစ်က်၊ သလ်ဟာ၊ စလ်မားန်၊ ဂျူနိုင်ဒ်၊ မုအာဇ်၊ အဟ်မဒ် စွဖ်ယားန်၊ မုဟမ္မဒ်တို့ကလည်း ဒါဟာတို့များရဲ့ ဒါဒါအဘ္ဘာ အစရှိသဖြင့် အားလုံးက 'တို့နဲ့ပဲပတ်သက်တယ်။ ဆက်စပ်နေတယ်၊ ရင်းနှီးနေတယ်။ တကယ်တော့ ကမ္ဘာတစ်ခု လုံး အွမ္မသ်တစ်ရပ်လုံးရဲ့ အချစ်တော်ပါ။ ဟဇရသ်ရဲ့ရင်တွင်းမှ ထွက်တဲ့ ဖိက်ရ်ရနံ့ဟာ သင်းပျံ့မွှေးကြိုင်လျက်သာရှိပါတယ်။

ဆင်းရဲသည်ဖြစ်စေ၊ ကြွယ်ဝသည်ဖြစ်စေ၊ မွေးဖွားလာသည့်အခါ အားလုံးအတွက် ပျော်ရွှင်မှုကို သယ်ဆောင်လာကြတယ်။ ဒါပေမယ့် ကွယ်လွန်တဲ့အခါ အားလုံးအတွက်ကြေကွဲဝမ်းနည်းစရာတော့မဖြစ်နိုင်ပါ။ အခြားသူတွေသေဆုံးရင် တစ်ဦးတည်း သာသူမုဆိုးမဖြစ်မယ်။ အချို့

ယသီးမ်ဖြစ်မယ်။ တစ်အိမ်ဆိတ်သုဉ်းမယ်။ ဒါပေမယ့် ဟဇရသ် ကွယ်လွန်ခြင်းအားဖြင့် အာလမ်တစ်ခုလုံးယသီးမ်ဖြစ်သွားတယ်။ လူသားတို့ပြုပြင်မှုရစရာ မရ်ကဇ်အလင်းမဲ့သွားတယ်။ သို့သော် ဟဇရသ်ဟာ အသက်နဲ့ခန္ဓာတွဲနေသမျှ ၊ ဘီးနဲ့ကုလားထိုင်အပေါ် သွားလာနိုင်သမျှ အလင်းဆောင်သွားပါတယ်။ ရန့်များဖြန့်ဝေသွားပါတယ်၊မဒါရိစ်၊မကာသိဗ်မရာကိဇ်နှင့် အင်န်ဖိရာဒီအိဂျ်သိမာအီ အိမ်အတွင်းအပြင်ကဏ္ဍတိုင်းမှာ ကျင့်ဆောင်စရာ စံနမူနာတွေထားသွားပါတယ်။

**မော်လာနာ ဟာဖိဇ် အဗ်ဒွလ်ကာဒိရ်ဆပ်**

ဟဒီးဆ်အတန်းပြ – ဒါရွလ်အုလူမ်

---

## ဟာဂျီအဗ္ဗဒွရ်ရဟီးမ်မာယသ်၏တင်ပြချက်

''အာဟ် '' အမိးရ်ဆွာဟိဗ်ကွယ်လွန်ခွဲခွာလေပြီ။

ချီးမွမ်းခြင်းအပေါင်းတို့သည် စကြဝဠာကြီးကို ဖန်ဆင်းတော်မူသော အလ္လာဟ် (جل جلاله) အတွက်သာလျှင်ဖြစ်သည်။

ဒရူးဒ်စလာမ်သည် လောကတခွင်ရှိ တရားစစ်တရားမှန်ကို ထူထောင်ခဲ့သော နောက်ဆုံးတမန်တော်မြတ်မုဟမ္မဒ် (صلی اللہ علیہ وسلم) ပေါ်ကျရောက်ပါစေ။

မြန်မာနိုင်ငံ၏ အလွန်အဆင့်မြင့်ကျော်ကြားလှသော အာလင်မ်

ပညာရှင်ကြီး လက်ရှိနိုင်ငံအနှံ့အပြားတွင်ရှိသော အိုလမာပညာရှင်အများစု၏ ဆရာသခင်ကျေးဇူးရှင် မြန်မာနိုင်ငံသဗ်လီးဂ်ဂျမာအသ်၏အမီရ် **ဟဇရသ် အာလ်ဟာဂ် မော်လာနာ ဟာဖိဇ် မုဟမ္မဒ်ဆွာလေဟ် မဇ္ဇာဟီရီ** ( رحمة الله عليه ) သည် ဟိဂ်ျရီ ၁၄၂၅၊ ရဗီအွလ်အောင်ဝလ်လ (၁၇) ရက်၊ ၂၀၀၅–ခုနှစ်၊ ဧပြီလ ၂၆–ရက်၊ အင်္ဂါနေ့နံနက်တွင် အလ္လာဟ် ( جل جلاله )၏အမိန့်တော်ခံယူပြီး မတည်မြဲသော ဒွန္နယာလောကမှ တည်မြဲသောအာခိရသ်သို့ ခရီးဆက်ခဲ့လေပြီ။ **انا لله وانا اليه راجعون**

ဟဇရသ်အမီရ်ဆွာဟိဗ်၏ကွယ်လွန်ခြင်းသည် 'မောသုလ်အာလင်မ်၊ မောသုလ်အာလမ်' ပမာ မြန်မာနိုင်ငံ၏သဗ်လီဂ်ကြိုးပမ်းမှုအတွက်အစားထိုး၍ မရနိုင်သော ဆုံးရှုံးမှုကြီးဖြစ်သလို နိုင်ငံအနှံ့အပြားရှိ အရဗီတက္ကသိုလ်များ၊ မဒ်ရဆာများ၊ ဘာသာရေးအဖွဲ့အစည်းများ သာမက မွတ်စလင်မ်များမှာ ဟဇရသ်၏မရှ်ဝရဟ်လမ်းညွှန်မှု၊ သဝဂ်ျဂျဟ်အာရုံစိုက်မှု၊ ဒိုအာများမှ လက်မဲ့ဖြစ်ရတော့သည်။

အမီးရ်ဆွာဟိဗ်ကြီးသည် နှလုံး၊ သွေးတိုး၊ ဆီးချို၊ ဆီးကျိတ်၊ ကျောက်ကပ်ရောဂါဝေဒနာများခံစားနေရသော်လည်း နေ့စဉ် မရှ်ဝရဟ်နှင့် ကြာသပတေးနေ့ညရှဗ်ဂိုဇာရီအစီအစဉ်သို့ ဖွဲ့လုံ့လအပြည့်အဝဖြင့် မပျက်မကွက်ပါဝင်ခဲ့ပါသည်။ နောက်ဆုံး အလွန်ပင် အင်အားချိနဲ့သော အချိန်အခါတွင်လည်း ရှဗ်ဂိုဇာရီအစီအစဉ်တွင် သွားရောက်ပါဝင်လိုသည့် ဆန္ဒပြင်းပြမှုအပေါ်သားများနှင့် ဟဇရသ်၏ခါဒင်မ်တို့က ကုလားထိုင်ဖြင့် မ,ယူခေါ်လာလေ့ရှိခဲ့သည်။ ရောဂါများဖိစီးလျက်နှင့်ပင် ဟဂ်ျထပ်မံပြုခဲ့ပြီး နေဇာမွဒ်ဒီးန်လည်းသွားခဲ့ပါသည်။ ၂၀၀၅ ခုနှစ် ၊ ဖေဖော်ဝါရီ တွင်

ပြုလုပ်ခဲ့သော မန္တလေးသုံးကျစ်လ္လာဂျိုရ်ကိုလည်း ရောက်ခဲ့ပါသည်။

ဆရာသခင်ကျေးဇူးရှင်ကြီးသည် အူရဒူ၊ ဖာရစီ၊ အရဗီ၊ ဟဒီးဆ်၊ သပ်ဖ်ဆီရ် ဘာသာရပ်အပေါ် အထူးကျွမ်းကျင်သူဖြစ်ရုံသာမက အပ်စ်လာဖ်(ရှေးသူတော်စင်ဆရာသမားများ)ကဲ့သို့ပင်၊ ဇွဟ်ဒ် လောကီမက်ကင်းသူ၊ ဆွဗရ်သည်းခံမျိုသိပ်သူ၊ ရှုက်ရ် အရှင်မြတ်၏ နေမသ်များအပေါ်ကျေးဇူးတင်တတ်သူ၊ သဝါဗိုအ်ရိုကျိုးမှုစသည့်အရည်အချင်းကောင်းများဖြင့် ပြည့်စုံသူတစ်ဦးဖြစ်ခဲ့ပါသည်။ ဇန္နဝါရီလ ၁၄–ရက် အိရှာနမာဇ်အပြီး စူရတီဗလီ သဖ်စီရ်တွင် မုဖ်သီ နူးရ်မုဟမ္မဒ်ဆွာဟိဗ်က ဝလီသူတော်စင်အကြောင်းပြောပြရင်းနှင့် ကျွန်ုပ်တို့၏အမီးရ်ဆပ်ကြီးသည် မွေးကတည်းကပင် ဝလီသူတော်စင်ဟုပြောသည်မှာ အမှန်ပင်ဖြစ်ပါသည်။

အချိန်ကို အလွန်ပင် တန်ဖိုးထားတတ်သူဖြစ်ပြီး အချိန်ဖြုန်းသည်ဟူ၍ မတွေ့ခဲ့ရဘူးချေ။ မရ်ကဇ်ရောက်လာတိုင်း မရ်ကဇ်တွင်ဖြစ်နေသောအစီအစဉ်၊ သအ်လီမ်၊ စကားကြီးခြောက်ခွန်း၊ မုဇာကရာဟ်၊ အီမာန်ယကီးန်အစီအစဉ်များတွင် အဆုံးထိ ပါဝင်နားထောင်လေ့ရှိသည်။ နေ့စဉ်အဆရ်ပြီးတွင် ဖြစ်သောမရှ်ဝရဟ်အတွက်လည်း တာဝန်ခံတစ်ဦးသွားရောက်ခေါ်မှသာလျှင် ဘယာန်အစီအစဉ်မှ ထလာလေ့ရှိခဲ့သည်။ အဆရ်အပြီးဗလီတွင် ဖြစ်နေသောဗယာန်အစီအစဉ်ကို ကျော်ခိုင်းပြီး မရှ်ဝရဟ်အခန်းသို့တိုင် သွားထိုင်သည်ကို မတွေ့ခဲ့ဖူးပါ။

ရှေးသူတော်စင်များကဲ့သို့ပင် ဟဇရသ်သည်လည်း မိမိ၏တပည့်များ ၊ မာမူရ်နောက်လိုက်များအား ချစ်ခင်ယုယစွာဆက်ဆံသည့်အတွက်

အားလုံးကပင် မိမိကိုသာ ဟာဇရယ်အချစ်ဆုံးဟု ခံစားခဲ့ရလေသည်။ ဟာဇရယ်သည် အမီးရ်ကောင်းပီသခဲ့ပြီး မိမိ၏နောက်လိုက် ဂျမာအသ်သား များ၏ အရည်အချင်းများကို ကောင်းစွာအကဲခတ်တတ်သူဖြစ်၍ လူတိုင်း အား သူနှင့်ထိုက်တန်သောနေရာတွင် အသုံးချကာမြေတောင်မြှောက်ပေး ခဲ့သည်။

ဤသည်ကိုထောက်ရှုခြင်းအားဖြင့် ဟာဇရယ်၏အစ်ခ်လားဆ် နှင့် ဒီးန်သာသနာအပေါ်ထားရှိသည့်သောကသည် မည်မျှကြီးမားကျယ်ပြန့် ကာ အတောမသတ်နိုင်အောင်ရှိသည်ကို ရှင်းရှင်းကြီးမြင်ရမည်ဖြစ်သည်။ ယနေ့မြန်မာနိုင်ငံတွင် အီမာန်နှင့်အစ္စလာမ်ရှင်သန်လန်းဆန်းနေခြင်း၊ ဒအ်ဝသ်ကြိုးပမ်းမှုပြန့်နှံ့နေခြင်းသည် ဟာဇရယ်၏ကဗူလီယသ်၊ ကရာမသ် ဟုဆိုလျှင် မှားမည်မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်သည် ဟာဇရယ်အား မဂ်ဖိရယ်လွတ်ငြိမ်း ချမ်းသာခွင့်ပေးသနားတော်မူပြီး ဂျန္နသွလ်ဖိရ်ဒေါစ်ချီးမြှင့်တော်မူပါစေ။ ကျန်ရစ်သူမိသားစုကိုလည်း ဆွာဗ် ရေဂျမိလ်ပေးသနားတော်မူပါစေ။

**အဗ္ဗဒုလ်ရဟီးမ်မာယသ်**



# သီးသန့်ဂုဏ်ပေးမှု

## ဟာဂျီအမီရွတ်ဒီးန် (ခ) အလ်ဟားဂျ်ကိုမင်းသိန်း၏တင်ပြချက်

ကျွန်တော်သည် ဆော်ဒီအာရေဗျနိုင်ငံ၊ မက္ကာဟ်မြို့တော်၌ရှိနေစဉ်၊ ဟာဇရသ် မော်လာနာ စအီးဒ် အဟ်မဒ်ခါန်း မှဟာဂျီရှ်မဒနီထံသို့အမြဲရောက်နေလေ့ရှိပါသည်။ တစ်နေ့ မဒနီသခင်၏ထံတော်၌ စားပွဲခင်းပေါ်တွင် နိုင်ငံခြားမှဂုဏ်ရှိသော သဗ်လီဂ်တာဝန်ခံများလည်း ပါဝင်ကြသည်။ အာရဗ်မိတ်ဆွေတစ်ချို့လည်းပါဝင်သည်။ ကျွန်ုပ်သည် မဒနီသခင်၏နီးနီးကပ်ကပ်ထိုင်ခွင့်ရရှိခဲ့ပါသည်။

မစားသောက်မီအလျင် မဒနီသခင်က မိမိအနားတွင် ထိုင်နေသော ဆွေမျိုးတစ်ဦးအား တိုးတီးစွာဖြင့် ဤသို့အမိန့်ရှိနေပါသည်။ အို-မိတ်ဆွေ၊ ဤပုဂ္ဂိုလ်သည် မော်လဝီ ဆွာလေဟ် ဆွာဟိဗ်၏ သားမက်ဖြစ်သည်။

မဇ္ဇာဟေရွလ်အိုလူးမ်ကျောင်း၌ ကျောင်းသားဘဝတွင် ကျွန်ုပ်တို့သည် အားလပ်ရက်များတွင် နေ့တစ်ဝက် သို့မဟုတ် တစ်နေ့တာအတွက် သဗ်လီဂ်ခရီးထွက်ကြသည်။ ဟာဇရသ်ကြီး မော်လာနာအိလ်ယားစ်သခင်သည် အများအားဖြင့် ကျောင်းများသို့ ရောက်ရှိလာပြီး ကျောင်းသားများကို သဗ်လီဂ်နှင့်ပတ်သက်၍ တိုက်တွန်းပြောကြားလေ့ရှိသည်။ ထိုအချိန်အထိ ကျွန်ုပ်သည် ထူးထူးခြားခြားစိတ်ဝင်စားမှုမရှိသေးပေ။ သို့သော် မော်လဝီဆွာလေဟ်ကျောင်းကအပြန် ကျွန်ုပ်အားဤဒအ်ဝသ် လုပ်ငန်းနှင့်ပတ်သက်၍ ထူးကဲစွာ တိုက်တွန်းနှိုးဆော်နေခဲ့သည်။ ကျောင်းတက်စဉ်

ကာလမှာပင် မေတ္တာရပ်ခံသည်။ သရ်ဂီးပ်ပေးနေခဲ့သည်။

ထိုအချိန်ကာလမှစ၍ ၎င်း၏တိုက်တွန်းမှုကြောင့် ကျွန်ုပ်သည် သဗ်လီဂ်နှင့်ဆက်သွယ်မှုရရှိခဲ့သည်။ နေဇာမွဒ္ဒီးန်နှင့်လည်း ဆက်သွယ်မှုရ ရှိခဲ့ပါသည်။ ကျွန်တော့်အနေဖြင့် ဤဒအ်ဝသ်ကြိုးပမ်းမှုတွင် ရရှိမည့် အကျိုးစဝါးပ်တွင် မော်လဝီဆွာလေဟ်ဆွာဟစ်ပ်လည်း အမြဲတမ်းထက် ဝက်ရရှိနေမည်ဖြစ်သည်။

ထို့နောက် ဟဇရသ်မဒနီဆွာဟိဗ်က အမိန့်ရှိသည်မှာ-

ထိုင်ဝိုင်းတွင်ရှိသူအားလုံးကိုရော၊ အာရပ်မိတ်ဆွေများကိုပါ အရ်ဗီ စကားဖြင့် ဤသူသည် မော်လဝီဆွာလေ့ဟ်၏သားမက်ဖြစ်ကြောင်း ကြေငြာလိုက်ပါ။ ဤသို့ကြေငြာလိုက်ပြီးနောက် ထိုင်ဝိုင်းတွင်ရှိသော မိတ်ဆွေအားလုံး၊ ဧည့်သည်အားလုံးသည် ကျွန်တော့် (နာကျီး၏) သေးသိမ်သူအား အလွန်တရာ ချစ်ခင်မှုဖြင့် ဂုဏ်ပေးလက်ဆွဲနှုတ်ဆက် ကြပါသည်။ မိတ်ဆွေအားလုံးက ဟဇရသ်အမီးရ်ဆပ်အား စလာမ်ဆိုကြ ပြီးနောက် ဒိုအာအတွက် မေတ္တာရပ်ခံရန်ပန်ကြားကြပါသည်။

**ကိုမင်းသိန်း**

**ဟဇရသ်အမီးရ်ဆပ်၏သားမက်**



## အာလင်မ်၏သေဆုံးခြင်းသည်

## အာလမ် (ကမ္ဘာ) ၏ဆုံးရှုံးခြင်းပင်

ဟာဇရယ်သည် ဟိဂျ်ရီ ၁၄၂၆ ခုနှစ် ရဗီအွလ်အောင်ဝလ် (၁၇) ရက်၊ ၂၀၀၅ဧပြီလ (၂၆)ရက်အင်္ဂါနေ့ မိုးသောက်လင်းချိန် ဗဟိုရ်စည့် ဆေးရုံတွင် အရှင်မြတ်အမိန့်တော်ခံယူသွားသည်။ ဟာဇရယ် ကွယ်လွန် ကြောင်းသတင်းသည် ချက်ချင်းနိုင်ငံအနှံ့ပြည်ပသို့ပင် ပြန့်နှံ့သွားသည်။ သူတော်စင်အာလင်မ်၊ ဗလီဆရာ၊ ကျောင်းဆရာ သဗ်လီဂ်၏တာဝန်ခံ မိတ်ဆွေများ အဝါမ်အမျိုးသား/သမီးများ ဝမ်းနည်းပူဆွေးကာ လက်ပန်း ကျသွားသည့်အလား ငေးမှိုင်ကုန်ကြ၏။ ယသီးမ်ကဲ့သို့ မျှော်လင့်စရာများ ပြတ်တောက်သွားတော့သည်။ အထူးသဖြင့် မိသားစုအတွက် ဖြေမဆယ် နိုင်စရာပင်တည်း။

ဟာဇရယ်အား ကမ္ဘာသိသည့်မှာကျော်ကြားပါသည်။ အမှန်ပင်။ ဟာဇရယ် အလ်ဟာဂ်ျ မော်လဝီ ဟာဖိဇ် ကာရီ မုဟမ္မဒ်ဆွာလေဟ် မဇ္ဇာဟေရီသည် သခ်ါရဋ္ဌာနကို နှုတ်ခွန်းဆက်ကာ မိမိအချစ်တော် ကိုး ကွယ်ရာအရှင်၏ ရဟ်မသ်အာဝါသရိပ်ဝယ်စံမြန်းရန်အလို့ငှာ ကျန်ရစ် မိသားစုကို ချန်လှပ်၍ ကွယ်လွန်သွားလေပြီ။

انا للہ وانا الیہ راجعون

ဟာဇရယ်သည် ရှေးသူတော်စင်များကဲ့သို့ သမိုင်းဝင်ပုဂ္ဂိုလ်ဖြစ်ရာ

ယခုလစ်လပ်သွားမှုအပေါ် မည်မျှပင်ဝမ်းနည်းကြောင်း ဖော်ထုတ်သည် ဖြစ်စေ သာမန်ထက်သာပိုရပေမည်။ အာလမ်အတွက် မဟာဆုံးရှုံးနစ်နာမှုကြီးမဟုတ်ပါလား။

ဟာဇရသ်ကဲ့သို့ အစားထိုးရန်မဖြစ်နိုင်။ အလွန်ခဲယဉ်းပေသည်။ မွတ်စ်လင်မ်များအတွက်ယူကျုံးမရဖြစ်စရာပါ။အရှင်မြတ်သည်ဟာဇရသ်၏ ကဗရ်ကို သီးခြားရဟ်မသ် ထာဝရနူးရ်များဖြင့် လွှမ်းခြုံတော်မူပါစေ။

## ဟာဇရသ်၏ဂျနာဇဟ်ကိစ္စ

ဟာဇရသ် ကွယ်လွန်ကြောင်းသည် ရေပြင်းထန်လာသည့်ပမာ၊ တောမီးလောင်သည့်အလား အာလမ်တလွှားသို့ပင် ရိုက်ခတ်သွားလေရာ အာလုံးခေတ္တအသက်ရှူရပ်တော့သည်။ ထိတ်လန့်၍ အံ့အားသင့်သွားပေသည်။ မျက်ရည်ဆက်လက်ဖြင့် ဟာဇရသ်၏အိမ်ပတ်လည်တွင် စုရုံးလာကြသည်။ စူရတီဗလီကြီးတွင် မရ်ကဇ်မှရှူရာများ၊ တာဝန်ခံမိတ်ဆွေများ၊ အိုလမာအဖွဲ့မှ အာလင်မ်၊ ဟာဖိဇ်များ ဟာဇရသ်၏ သားများနှင့် တပည့်များစုဝေးကာ ကဖန်ဒဖန်ကိစ္စမရှ်ဝရဟ်ပြုကြသည်။

ယင်းမရှ်ဝရာတွင် မော်လာနာ မာမွတ်မာမ်ဆာမှ ၄င်းကိစ္စများကို ဆုံးဖြတ်ပေးခဲ့ပါသည်။

မော်လာနာမာမွတ်မာမ်ဆပ်ဆပ်မှ မရှ်ဝရဟ်အပြီးတွင် အသင့်ရှိနေသောမိတ်ဆွေများအား ဆို့နစ်ကြေကွဲစွာဖြင့် ဤသို့ပြောလေသည်။

'မိတ်ဆွေအပေါင်းတို့ခင်ဗျာ၊ ကျွန်တော်တို့ချစ်တဲ့ ဟဇရသ်အမီးရ်ဆပ် ကြီးကွယ်လွန်သွားပါသည်။ (မျက်ရည်များ ရစ်ဝဲလျက်) ဟဇရသ်အမီရ် ဆပ်ကြီးမရှိတော့ပေမယ့် အမီရ်ဆပ်ကြီးကြိုးပမ်းခဲ့တဲ့ ကြိုးပမ်းမှုကို ကျွန် တော်တို့ဒီထက်ပိုပြီး လုပ်ကြပါ။ အလ္လာဟ်လမ်းထွက်ဖို့အားလုံးကြိုးစား ကြပါ။ အလ္လာ့ဟ်လမ်းထွက်ပြီး အီဆာလေစဝါးဗ်ပို့ကြပါ။ ဆက်လက်ပြီး ဒီမှာရှိနေတဲ့မိတ်ဆွေတွေအားလုံး အမီးရ်ဆပ်ကြီး၏ အီဆာလေစဝါးဗ် အတွက် ဒီနေ့ကစပြီး ကုရ်အာန်တစ်ခသမ်ဖတ်ပြီး ပို့ပေးကြပါ။ အားလုံး လုပ်ကြမယ်မလား . . .။

ဟဇရသ်အား ရေချိုးပေးရန်သားများနှင့် ဟဇရသ်၏အချို့ ခါဒင်မ်များက တာဝန်ယူဆောင်ရွက်ကြသည်။ ဟာဖိဇ်ဟာရှင်မ်(ဘိုဒီ)ဆပ် ကိုယ်တိုင်လည်း ဟဇရသ်အား ရေချိုးပေးရာတွင် ပါဝင်ခဲ့သည်။

ရေချိုး၍ကဖန်ထုတ်ပြီးနောက် ဟဇရသ်မော်လာနာနူရွလ္လာဟ်ဆပ် သည် ကျမ်းမာရေးချို့တဲ့နေသည့်ကြားမှ ကြွမြန်းလာသည်။ အပေါ် သို့ရောက်သောအခါ ဟဇရသ်အမီးရ်ဆပ်ကြီး၏ နှာဖူးကိုနမ်းရှုတ်ပြီး ဒိုအာ မဂ်ဖိရသ်ချီးမြှင့်ခဲ့သည်။ ထို့နောက် မော်လာနာ နူရွလ္လာဟ်ဆပ်သည် ရေဝေးကဗရ်စတာန်သို့ ကိုယ်တိုင်ကြွမြန်းတော်မူကာဟဇရသ်၏ဒဖန်ကိစ္စ ပြီးဆုံးသည်အထိ ပါဝင်ခဲ့သည်။

အိမ်မှကဗရ်စတာန်သို့ ကားအမြောက်အမြားဖြင့် အဆရ်အပြီး သယ်ဆောင်သွားကြသည်။ ကဗရ်စတာန်တွင် ကြိုတင်ရောက်နှင့်သူများ လည်းအများအပြားပင်။ထို့ကြောင့်မရ်ဂရိဗ်အရ ကဗရ်စတာန်ရေဝေးဗလီ

တွင် ပရိဿတ်ကို ထိန်းထားရန်အလို့ငှာ မော်လဝီအေယာဇ်နှင့် မွဖ်သီ အစ္စမာအီးလ်တို့အား ဗယာန်တာဝန်ပေးထားသည်။ ထို့နေ့က ရင်နှင့် ဖွယ်ရာ ဟာဇရသ်၏အကြောင်းများကိုတင်ပြကြသည်။

မဂ်ရိဗ်အပြီး ဂျနာဇဟ်နမာဇ်ဖတ်ရန် တန်းစီထားကြပေပြီ။ လူအုပ်ကြီးကိုထိန်းထား၍ အေရှာမတိုင်မီပင် ညီအစ်ကိုများ မရှ်ဝရဟ်ပြု ကာ မလေးရှားမှ အချိန်မီရောက်လာသောသားကြီးမော်လာနာအလ်ဟာဂျ် အုမရ်ဖာရှူက်က ဂျနာဇဟ်နမာဇ်ကိုရှေ့ဆောင်ဖတ်ခဲ့သည်။

ဟာဇရသ် မွဖ်သီချုပ်၏ခြေရင်းဖက်တွင် တွင်းတူထား၍အသင့်ပြင် ထားပြီး ဂျနာဇဟ်ထမ်းစဉ်ကို ကားဖြင့်တင်၍ယူသွားကာ ဒဖန်ပြုရတော့ သည်။

ဟာဇရသ်၏မျက်နှာတော်ကို ညနေ (၃း၀၀) နာရီ ပြသရန် စီစဉ်ထားသော်လည်းကြည့်ညိုသူများထူထပ်မှုကြောင့် အချို့သာဖူးတွေ့ခွင့် ရရှိကြသည်။ လူအုပ်ကြီးကို အသံချဲ့စက်ဖြင့် နှိုးဆော်နေသော်လည်း ထိန်းမနိုင်သိမ်းမရ အုပ်အုပ်ကျက်ကျက်ဖြစ်နေရာ ဦးရေတစ်သိန်းငါး သောင်းခန့်သော ဂျမာအသ်ကို ဂျနာဇဟ်တစ်ကြိမ်တည်းဖြင့် ဖတ်ရတော့ သည်။

ဟာဇရသ်ကိုအသက်ပေးချစ်သူတပည့်များသည် ဒဖန်ပြုပြီးသော် လည်း ကားအသွယ်သွယ်ငှားရမ်းကာ ရောက်လာကြသေးသည်။ ထိုနေ့ နံနက် (၁၀း၀၀) နာရီမှ ညနေအဆွင်ရ်ထိ အိမ်၌ဂျနာဇဟ်အသင့် ပြင်ထား

ချိန်ကလည်း နောက်ဆုံးကြည့်ရှုခွင့်ပေးခဲ့သေးသည်။

ကဗရ်ထဲသို့ သားလေးဦးစလုံးဆင်း၍ ဟဇရည်၏ရုပ်ခန္ဓာကို ဖေးမကာမြှုပ်ကြလေတော့သည်။ ထိုစဉ်က ဂျနာဇဟ်တွင်ပါဝင်သည့် ပုဂ္ဂိုလ်များသည် ဤကဲ့သို့ အရေအတွက်များပြားလှသည့် လူအုပ်စုကို အခြားမည်သည့်ဂျနာဇဟ်တွင်မျှ မမြင်ခဲ့ပေ။

ဤသည် ဟဇရည်၏ မပ်က်ဗူလီယသ်ပင် မဟုတ်လော။

အချို့သတင်းစဉ်ကလည်း ဤသို့ကြေညာထားသည်။ မြန်မာနိုင်ငံတွင် အလွန်အဆင့်မြင့်ပုဂ္ဂိုလ်၊ အစားထိုးမရနိုင်သောအဓိပတိ သာသနာ့ပညာရှင်ကြီးတစ်ပါး ကွယ်လွန်သွားကြောင်းသတင်းရရှိပါသည်။

ဟဇရည်ကိုဒဖန်ပြုပြီးနောက် မိသားစုမှသားများ၊ နောက်ဆုံးငိုယိုလျက် သေလာဝသ် သဟ်လီလ်ရွတ်ဖတ်လျက်ရှိနေစဉ် နယ်အသီးသီးမှ ကြေးကြီးကြီးဖြင့် ကားများငှားရမ်း၍ အုပ်စုလိုက် ရောက်မဆဲပင်ရှိခဲ့သည်။ အချို့လည်း လေယာဉ်ခရီးစဉ်ဖြင့် လိုက်လာကြသည်။ဂျနာဇဟ် မမီလို့ ထပ်ဆင့်ဝမ်းနည်းကြေကွဲကြသည်။



(၁၈၃)

## حجة الوداع ရေဝေးကဗရ်ခတာန်တွင်

### မုဖ်သီအိစ်မာအီးလ်၏ ရှူးရှသောဗယာန်

သူတော်စင်အပေါင်းတို့ခင်ဗျာ–

ခေတ်တိုင်းခေတ်တိုင်းတွင် အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များကို စေလွှတ်တော်မူခဲ့သည်။ ကမ္ဘာပေါ်တွင် နဗီပေါင်း တစ်သိန်းနှစ်သောင်းလေးထောင်ကျော်ကို ပွင့်ပေါ်တော်မူခဲ့သည်။ နောက်ဆုံးတွင် တမန်တော်မြတ်ကြီး ﷺ ကို စေလွှတ်တော်မူခဲ့သည်။ သက်တော် (၄၀) တွင် နဗူဝသ်ကိုရရှိပြီး သက်တော် (၆၃) နှစ်တွင် ကွယ်လွန်တော်မူခဲ့သည်။ နဗူဝသ်၏သက်တမ်း (၂၃) နှစ် ရရှိခဲ့သည်။ ၂၃ နှစ်ကို ရက်ဖြင့်တွက်လျှင် (၈၁၅၆)ရက်ဖြစ်သည်။ (၂၃) နှစ်တာကာလတွင် လူပေါင်းတစ်သိန်းနှစ်သောင်းလေးထောင်ကျော် တမန်တော်မြတ်လက်ပေါ်၌ **အီမာန်**အစ္စလာမ် ကို လက်ခံခဲ့ကြသည်။ မကွယ်လွန်မီ တမန်တော်မြတ် (صلى الله عليه وسلم) သည် မိမိဘဝဇင်ဒဂီရဲ့နောက်ဆုံးဟဂ်ျကိုပြုလုပ်ခဲ့သည်။ ၎င်းဟဂ်ျသည် တမန်တော်မြတ် (صلى الله عليه وسلم)၏ ပထမဦးဆုံးဟဂ်ျဖြစ်သကဲ့သို့ နောက်ဆုံးဟဂ်ျလည်းဖြစ်သည်။

တမန်တော်မြတ် (صلى الله عليه وسلم) နှင့်အတူ ဆွဟာဗဟ်ပေါင်း တစ်သိန်းနှစ်သောင်းလေးထောင်ကျော်အတူတကွ ဟဂ်ျလုပ်ခဲ့ကြသည်။ ၎င်းဟဂ်ျတွင် တမန်တော်မြတ် (صلى الله عليه وسلم) သည် မကြာမီ မိမိကွယ်လွန်တော့မည်အကြောင်း ထပ်တလဲလဲ သတိပေးပြောကြားလေသည်။ ၎င်းဟဂ်ျတွင် အရ်ဖာသ်ကွင်းပြင်၌ မိမိဘဝ၏ နောက်ဆုံးမိန့်

ခွန်းကို မိန့်ခဲ့သည်။ တမန်တော်မြတ် (صلى الله عليه وسلم) သည် ဆွဟာဗဟ် သာဝကကြီးများအား 'ငါတမန်တော်သည် အမျိုးမျိုးဒုက္ခခံပြီး သင်တို့အား အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တော်များကိုပို့ချသကဲ့သို့ သင်တို့သည် ကမ္ဘာ့ဒေသအသီးသီးသို့သွား၍ အလ္လာ့ဟ်အမိန့်များကို ပြန်လည်ပို့ချပါ' ဟုမိန့်ခဲ့သည်။ တမန်တော်မြတ် (صلى الله عليه وسلم)၏ ၎င်းမိန့်ခွန်းကိုကြား ပြီး ဟဂ်ျပြီးနောက် ဆွဟာဗဟ်သာဝကကြီးများသည် မိမိတို့၏ သားသမီး နှင့် မိသားစုကိုစွန့်၍ ကမ္ဘာ့ဒေသအသီးသီးသို့ ထွက်ခွာသွားခဲ့ကြသည်။

## တမန်တော်မြတ် (صلى الله عليه وسلم) ၏ ဝဖားသ်

'တမန်တော်မြတ် (صلى الله عليه وسلم) ကွယ်လွန်သွားပြီ' ဟူသော သတင်းသည် မဒီနာတစ်မြို့လုံး ပျံ့နှံ့သွားလေသည်။ ကြားသူတိုင်းသည် တအံ့တသြဖြစ်ပြီးဝမ်းနည်းကြေကွဲကြရလေသည်။ အချို့ဆွဟာဗဟ် များသည် ကိုယ်တော်မြတ် (صلى الله عليه وسلم) ကွယ်လွန်အနိစ္စရောက် သည့်သတင်းကိုကြားလျှင် စွန့်သည့်ပမာဖြစ်သွားလေသည်။ အုမရ် (رضى الله عنه) သည် ဓါးကိုကိုင်ပြီး 'တမန်တော်မြတ် (صلى الله عليه وسلم) ကွယ်လွန်သွားပြီ'ဟု မည်သူပြောတာလဲ၊ တမန်တော်မူဆာ عليه السلام သည် သူ့ရ်တောင်၌ အလ္လာဟ်နှင့်စကားပြောရန် သွားသကဲ့သို့ တမန်တော်မြတ် (صلى الله عليه وسلم) သည်လည်း အလ္လာဟ်နှင့်စကားပြောသွားနေခြင်းဖြစ် သည်။ တမန်တော်မြတ် (صلى الله عليه وسلم)ကွယ်လွန်သွားပြီဟုပြောသူကို ဤဓါးနှင့်ဆုံးမမည်'ဟု ဆိုလေသည်။

မဒီနာမြို့ပြင်ကိုရောက်ရှိနေသောအဗူဗကရ် (رضی اللّٰہ عنہ) သည် သတင်းရရခြင်း သမီးတော်၏အိမ်သို့ ကြွမြန်းလာသည်။ ကိုယ်တော်၏ ရုပ်ကလပ်သည် အာအေရှာဟ် (رضی اللّٰہ عنہا)သခင်မ၏ အခန်းတွင်ရှိနေရာ အဗူဗကရ် (رضی اللّٰہ عنہ) သခင်သည် သမီးတော်အာအေရှာဟ် သခင်မ၏အခန်းထဲသို့ ကြွမြန်းလာပြီး ကိုယ်တော်၏ရုပ်ကလာပ်ပေါ်တွင် အုပ်ထားသောအဝတ်ဖြူကိုဖယ်၍ နဖူးကို နမ်းရှုတ်၍ငိုကြွေးလေသည်။ သို့သော် အဗူဗကရ်သခင်သည် 'တမန်တော်မြတ် (صلی اللّٰہ علیہ و سلّم) သည် ငါ့အား မိမိမကွယ်လွန်မီအွမ္မသ်ထုတစ်ရပ်လုံးအား ထိန်းသိမ်းဦးဆောင်ရန်တာဝန်ပေးခဲ့သည်။ အခု ငါငိုရမည့်အချိန်မဟုတ်။ ဝမ်းနည်းကြေကွဲနေသည့် မိသားစုနှင့်ဆွဟာဗဟ်များကို အားပေးစကားပြောရမည်။ ဖိတ်နဟ်အပေါင်းမှ အွမ္မသ်ကိုထိန်းသိမ်းရမည်။ သို့ပါ၍ အဗူဗကရ်သခင်သည် မုဆိုးမဖြစ်သွားသော မိမိသမီးတော် အာအေရှာဟ်သခင်မအား အားပေးစကားပြောသည်။ ယသီးမ်ဖြစ်သွားသော ကိုယ်တော်၏ သမီးတော် ဖွာသွေမဟ်သခင်မအား အားပေးစကားပြောသည်။ မြေးတော်နှစ်ပါး ဟစန်နှင့်ဟုစိုင်န်ကိုလည်း အားပေးစကားပြောသည်။ ကိုယ်တော်၏ ဇနီးသည်များအားလည်း အာပေးစကားပြောပြီး ဗလီဝတ်ကျောင်းတော်သို့ ကြွရောက်ပြီး ဆွဟာဗဟ်များအားလုံးကို စုရုံးပြီး မင်မ်ဗရ်ပေါ်သို့တက်ကာ မိန့်ခွန်းမိန့်လေသည်။

من كان يعبد محمدا فان محمدا قد مات ـ من كان يعبد الله
فان الله حى لا يموت

အို–မိတ်ဆွေတို့၊ အသင်တို့သည် တမန်တော်မြတ် (صلی اللّٰہ علیہ و سلّم)

ကို ကိုးကွယ် သည်ဆိုသော် တမန်တော်မြတ် (صلى الله عليه وسلم) သည် ကွယ်လွန်သွားပြီးဖြစ်သည်။ အကယ်၍ အလ္လာဟ်အရှင်မြတ်အား ကိုးကွယ်ပါက အလ္လာဟ်အရှင်မြတ်သည် ထာဝရအမြဲတည်ရှိနေတော် မူလေသည်။ မိတ်ဆွေတို့ တမန်တော်မြတ် (صلى الله عليه وسلم) သည်လည်း ယခင်တမန်တော်များကဲ့သို့ တစ်နေ့ ကွယ်လွန်မည်ဟု ကုရ်အာန်ထဲတွင် ပြောပြီးသာဖြစ်သည်။

وما محمد الا رسول قد خلت من قبله الرسل الاية

သို့ပါ၍ မိတ်ဆွေတို့ တမန်တော်မြတ် (صلى الله عليه وسلم) ကွယ်လွန်သွားပြီးဖြစ်သည်။ ယခုတို့တတွေအားလုံး စုစုစည်းစည်း ချစ်ချစ်ခင်ခင်နဲ့ လက်တွဲပြီး ဗာသွိလ်ကိုချေမှုန်းခါ ကိုယ်တော်ယူဆောင်လာသည့် ဒီန်းကို ကမ္ဘာတစ်ဝန်းလုံးပို့ချရမည်ဖြစ်သည်။

ကုရ်ဗာနီစံချိန်ကိုမြှင့်ပြီး အားလုံးလိုလို တစ်ယောက်မကျန် အလ္လာဟ်လမ်းထွက်ပြီး ကြိုးပမ်းလိုက်သည့်အတွက် အလ္လာဟ်အရှင်မြတ်သည် အခြေအနေတွေအာလုံးကို ပြန်လည်ကောင်းစေတော်မူလိုက်ပြီ။ တမန်တော်မြတ် (صلى الله عليه وسلم) မကွယ်လွန်မီ ထားခဲ့သောအခြအနေသို့ ပြန်လည်ရောက်ရှိသည်။ မုရ်သဒ်ဖြစ်သွားသူများ အစ္စလာမ်ကို ပြန်လည်လက်ခံလာသည်။ ဇကားသ်ငြင်းဆန်သူများပြန်လည် လက်ခံလာကြသည်။ မုစလ်မဟ်ကဇ်ဇာ့ဗ် အသတ်ခံရသည်။ ကဇ်ဇာ့ဗ်နောက်ဆုတ်ခဲ့သည်။ (၂)နှစ် အတွင်း အခြေအနေအားလုံး ပြန်လည်ကောင်းမွန်လာသည်။

ဟာဇရည်အပူပကာရ်ရဲ့ အုစူလ်ကို ရှေ့မှာထားပြီး ယခုလို ကျေးဇူး ရှင် ဟာဇရည်အမီးရ်ဆပ်ကြီး ကွယ်လွန်သွားသည့်အပေါ် ဟာဇရည် ရဲ့သောကနှင့်ကြိုးပမ်းမှုကို ရင်ဝယ်ပိုက်ပြီး ချစ်ချစ်ခင်ခင် စုစုစည်းစည်းနဲ့ လက်တွဲပြီးသေဆုံးသည်အထိ ၎င်းကြိုးပမ်းမှုကို ဆက်လက်လုပ်ဆောင် သွားမည်ဟုသန္နိဋ္ဌာန်ချကြပါ။ ဟာဇရည်ရဲ့အီစာလေစဝါးဗ်အတွက် မကာမိ တိုင်းမှ ဂျမာအသ်များကို ရက်တိုရက်ရှည်အတွက် ထုတ်ပေးကြပါ။

**မုဖ်သီအိစ်မာအီးလ်ဆပ်**



## တိုင်းပြည်အနှံ့ခေသ်မေကုရ်အာန်

ဟာဇရသ်ကွယ်လွန်ကြောင်း သတင်းရသည်နှင့် အေမာမ်များ၊ ကျောင်းအုပ်များ၊ သဇ်လီဂ် တာဝန်ခံများ ဟာဇရသ်နှင့်နည်းများမဆို ပတ်သက်သူတိုင်းသည် မိမိတို့ဗလီ/မဒ်ရဆာတ်နှင့် နေရာအသီးသီးမှ ကုရ်အာန်ဖတ်ကြ သဟ်လီလ်ဖတ်ကြ၍ ဒိုအာပြုကြသည်။ ရန်ကုန် (၃) ကျစ်လ္လာ ဂျိုရ်ဖြစ်စဉ်က ထွက်ကြသည့် ဂျမာအသ်များသည် (၃)ရက်၊ (၁၀)ရက်၊ ကျစ်လ္လာဟ်၊ (၃)ကျစ်လ္လာများကို ဟာဇရသ်၏ အီစာလေစဝါဗ် အတွက် နီယသ်ပြုထွက်သွားကြသည်။ ဦးရေများပြားစွာ ထွက်ခွင့်ရကြသည့်အပြင် ရောက်လေရာမြို့၊ ရွာ၊ ဇနပုဒ်များ၌လည်း အထက်ပါ သရှ်ကီးလ်ကိုပင် တင်ပြ၍ ထပ်မံဂျမာအသ်များထုတ်ခဲ့သည်။

ဟာဇရသ်ကို ချစ်သူခင်သူများ၏ လှိုင်ကားအဆုံးအစွန်မရှိနိုင်ပေ။

ယင်းနီယသ်အတိုင်း ကြိုးပမ်းခဲ့သည်များကို ဟာဇရသ်၏ ရူဟ်မုဗာရပ်က်အတွက် ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

## သအ်ဇီယသ်ဂျလ်စာ

ဟာဇရသ်၏သားများက ဦးစီး၍ ဂျလ်စဟ်တစ်ရပ်ကျင်းပသည်။ ထိုဂျလ်စဟ်သို့ အာလင်မ်များ၊ ဟာဖိဇ်များ၊ သဇ်လီဂ်တာဝန်ခံများနှင့် မွတ်စလင်မ်အပေါင်း တက်ရောက်ပါဝင်ကြသည်။

ဦးစွာပထမ အချို့ဟာဖိဇ်များက ကေရာအသ်ဖတ်ကြသည်။ အချို့ဟာဖိဇ်များကဟာဇရသ် နှင့်စပ်လျဉ်း၍ကဗျာလင်္ကာများသီဆိုကြသည်။

ထို့နောက် ။ ။ ။

၁။ ဟာဇရည် မော်လာနာ ကာရီ ယူစွဖ် အပ်စ်အဒီ

၂။ ဟာဇရည် မော်လာနာ ရှမ်စွဒ်ဒိုဟာ မဇာဟောရီ

၃။ ဟာဇရည် မော်လာနာ မုဟမ္မဒ် အေယာဇ်

၄။ ဟာဂျီ ယူစွဖ်ဘာရှားတို့က ဟာဇရည်၏ ဘ၀ဖြစ်စဉ်ကို အလွန်စူးရှထိရောက်စွာ တင်ပြကြသည်။ အရှင့်အလို တော်နဲ့ ဂျလ်စဟ် အခမ်းအနားကို အောင်မြင်စွာစီစဉ်နိုင်ခဲ့ပေသည်။

---

## ဟာဇရည်အတွက်သင့်လျော်သော အာယသ်တော်

အစဉ်အမြဲကျေးဇူးပြုခဲ့သော ဟာဇရည်သည် ယခုလိုခွဲခွာခြင်းမှာ စိတ်နှလုံးသည်းပွတ်သို့ပင် ခံစားစရာဖြစ်ရခြင်းမည်သော်လည်း-

يا يتـها النّـفس المطمئنّـة○ارجعى الى ربك راضية مّرضية○

فادخلى فى عبادى○وادخلى جنّتى○

'အို-သောကကင်း၍ ငြိမ်းဆိမ်သော အသက်ဇီဝိန်၊ အသင်သည် မိမိ၏အရှင်မြတ်အထံတော်သို့ ကျေနပ်လျက် ထိုအရှင်မြတ်၏ကျေနပ်မှုကို ခံယူလျက် ပြန်သွားလေလော့။ ထို့နောက် အသင်သည် ငါအရှင်မြတ်၏ ကျွန်တို့တွင် ပါဝင်လေလော့။ ၎င်းအပြင်အသင်သည် ငါအရှင်မြတ်၏ ဂျန္နသ်သုခဘုံ၌ ဝင်ရောက်စံမြန်းလေလော့။'

## ဟဇရသ်၏အမည် (محمد ﷺ) ဖြင့်ကင်ပွန်းတတ်ခြင်း

ဟဇရသ်၏ ဘ၀ဖြစ်စဉ်ရေးသားလျက် လေးလနှင့်ဆယ်ရှစ်ရက် မြောက်သောနေ့တွင် ၂၀၀၅ ခုနှစ် စက်တင်ဘာ (၉) ရက်နေ့တွင် ပြီးဆုံးလေရာ ထိုနေ့၌ပင် တိုက်တိုက်ဆိုင်ဆိုင် ဟဇရသ်၏မြစ်ဖြစ်သူသည် မွေးဖွားလာသည်။ ၎င်းကလေးသည် ဟာဂျီ အစ္စမာအီလ် ဗင်န် ဟာဂျီ အစ္စဟာက်၏သားနှင့် ဟဇရသ်၏မြေးတို့မှ မွေးဖွားခဲ့သောကြောင့် ဟာဂျီ အစ္စမာအီလ်မှ နှစ်ဖက်မိသားစုနှင့် မရှိုဝရဟ်လုပ်၍ ဟဇရသ်ကို ဂုဏ်ပေးလေးစား၍ အမှတ်တရအဖြစ် မုဟမ္မဒ်ဆွာလေဟ် ဟု ၎င်းကလေးကို အမည်ပေးလိုက်သည်။



# ပြည်ပမှ သအ်ဒီယသ်ဝမ်းနည်းကြောင်း သဝဏ်လွှာများ

ရှုရဟ်ဂျမာအသ် / နေဇာမွဒ်ဒီးန်/ သဗ်လီးဂ်မရ်ကဇ်/
ဘင်္ဂလားဝါလီမပ်စ်ဂျစ်ဒ်–ဒေလီ

စာရေးသူ– ဘိုင်အိဗ်ရာဟီးမ်

၁၇၊ ရဗီအွလ်အောင်ဝလ်၊ ၁၄၂၆

လေးစားဂုဏ်ပေးအပ်သောရှုရဟ်မိတ်ဆွေများနှင့်

**မော်လဝီဖာရွတ်က်ဆပ်**

السلام عليكم ورحمة الله وبركاته

မိတ်ဆွေများ ကျန်းမာစွာ ဒီးန်၏ကြိုးပမ်းမှုတွင် ရှိနေမည်ဟု အရှင်မြတ်ထံမျှော်လင့်ပါတယ်။ မနေ့က ဟဇရသ် မော်လာနာ 'မုဟမ္မဒ် ဆွာလေဟ်'၏ ယူကြုံးမရ ဝမ်းနည်းကြေကွဲဖွယ် သတင်းရောက်ရှိပါတယ်။ အမှန်စင်စစ် တိုင်းပြည်အတွက်ရော ဒီးန်အတွက်ပါ ကြီးမားသောဆုံးရှုံးမှုကြီး တစ်ရပ်ဖြစ်ပါတယ်။ လစ်လပ်မှုကြီးလည်း ဖြစ်ပါတယ်။ ကွယ်လွန်သူသည် မိမိအစွမ်းအစ အလုံးစုံကို ဒီးန်အတွက်သုံးစွဲလိုက်ပါတယ်။ အရှင်မြတ်သည် ၎င်း၏ကုရ်ဗာနီများကို ကဗူလ်ပြုတော်မူပါစေ။ ၎င်း၏ကောင်းမှု

များကို အကောင်းဆုံး အစားချီးမြှင့်တော်မူပါစေ။

မော့သ်ကတော့မလွဲကေန် အမှန်တရားဖြစ်ပါတယ်။ တည်ရှိမည့် အရှင်ကတော့ အလ္လာဟ်သအာလာဖြစ်ပါတယ်။ အရှင်မြတ်မိတ်ဆွေများကိုဆွဗရ်ချီးမြှင့်တော်မူပါစေ။ အထူးသဖြင့် ဟာဇရသ်၏မိသားစု၊ သားချင်း၊ ဆွေမျိုးများကို ဆွဗရ်အပြည့်နှင့်ကြီးကျယ်သောအဂျရ် ပေးသနားတော်မူပါစေ။ ကြံ့ခိုင်မှုချီးမြှင့်တော်မူပါစေ။

ကျွန်တော်တို့လည်း ထပ်တူထပ်မျှ ကြေကွဲဝမ်းနည်းမိပါတယ်။ မပ်စ်နူးန်သအ်ဇီယသ်ပြုပါတယ်။ ကျွန်တော်တို့ ဒိုအာပြုကြပါတယ်။ မိတ်ဆွေများလည်း ဒိုအာပြုကြပါ။

ကွယ်လွန်သူသည် ပေးသွားသော ဒီးန်၏အမာနသ်ကို ကျွန်တော်တို့ စောင့်ကြပ်ထိန်းသိမ်းရန်နှင့် တိုးတက်စေရန်အတွက် ကြိုးပမ်းရင်း ဒိုအာ ပြုနေကြပါ။ လုပ်ငန်းကိုတန်ဖိုးထားကြပါ။ အချင်းချင်းလုပ်ဖော် ကိုင်ဘက်များကို ဂုဏ်ပေးလေးစားကြပါ။ တစ်ဦးကိုတစ်ဦး အားပေးစကားများ ပြောရင်း လုပ်ငန်းကို ပြုမြဲပြုနေကြပါ။ မော်လဝီစအဒ်နှင့် မော်လဝီ မုဟမ္မဒ်ဇုဗဲရ်ဆပ်တို့ ယခုအခါ မေဝါသ်ခရီးစဉ်မှာ ရှိနေကြပါတယ်။

فقط والسلام

# ဟာဇရသ် မော်လာနာ မုဟမ္မဒ်မူဆာစူရဲသိ ဆွာဟိဗ် မှ ဟာဇရသ်၏မိသားစုထံ

السلام عليكم ورحمة الله وبركاته

နေဇာမွဒ်ဒီးန် ၂၀၀၅ ခုနှစ်၊ ဇွန်လ၊ ၁၃-ရက်

ဗားမ်ဆပ်ထံမှ သတင်းရရှိပါတယ်။

○ انا لله وانا اليه راجعون အရှင်မြတ်သည် ၎င်း၏ကဗရ်ကို ဂျန္နသ်ဥယျာဉ်အဖြစ်ပြုတော်မူပါစေ။ အဆင့်မြင့်မြင့်ကို ချီးမြှင့်တော်မူပါစေ။ ကျွန်ုပ်တို့အမွှသ်ကို ကောင်းသောအစားချီးမြှင့်တော်မူပါစေ။

ကွယ်လွန်သူ(မော်လာနာမုဟမ္မဒ်ဆွာလေဟ်ဆပ်)နှင့် ကျွန်တော် ၁၉၄၇ခုနှစ်တွင် ဒီယိုဗန်ဒ်မှာတွေ့ဆုံခဲ့ပါတယ်။ ကျွန်တော့်ကို နေဇာမွဒ်ဒီးန်သွားရန် တိုက်တွန်းပါတယ်။ အသင့်ဖြစ်သွားသောအခါ မော်လာနာအုဗိုင်ဒွလ္လာဟ်ဆပ်အမည်နှင့် စာရေးပေးပါတယ်။ ထိုအချိန်မှပင် ကျွန်တော်နှင့် စာအဆက်အသွယ်ရှိခဲ့ပါတယ်။ ဟာဇရသ် မော်လာနာကလည်း ပြန်စာရေးပါတယ်။ မိသားစုကို ဆွဗရ်ပေးသနားတော်မူပါစေ။ စိတ်ထိခိုက်သည့်အတွက် စဝါးဗ်ချီးမြှင့်တော်မူပါစေ။

မုဆိုးမဖြစ်ရရှာတဲ့ညီမများကို ကျွန်တော်စာရေးလေ့ရှိသည်မှာ- ဒီလိုချိန်ခါမျိုးမှာ အွမ္မသ်၏မိခင်(၉)ပါး မုဆိုးမဖြစ်ကြပါတယ်။ အာအေရှဟ်

သခင်မမှာ ထိုအချိန်က ၁၈–နှစ်မျှသာရှိပါတယ်။ ထိုမိခင်များ ယင်းအချိန်က ဘယ်လိုခံစားကြမလဲ။ ဤသို့တွေးတောလိုက်ရင် အင်န်ရှာအလ္လာဟ် နှစ်သိမ့်ဖြေဆယ်နိုင်ပါလိမ့်မယ်။ ကွယ်လွန်သူအဖို့ အီစာလေစဝါးဗ် ပို့သည့်အနေဖြင့် ကျစ်လ္လာဟ်ပေးကြပါ။

ကျွန်တော်တို့ဒိုအာပြုနေကြတယ်။ အားလုံးကိုစလာမ်အတွက်လည်းပြောလိုက်ပါ။

فقط والسلام

## ဖဇီလသွှ်ရှိုင်ခ် အလ်ဟာဂ်ျအဗ်ဒွလ်မန္နာန်မက္ကီ

အရှင်မြတ်သည် ကွယ်လွန်သူအား အဆင့်မြင့်မြင့်ကို ချီးမြှင့်တော်မူပါစေ။ ကျွန်တော်များဘက်မှ ၎င်း၏မိသားစုနှင့် မိတ်ဆွေများကို ဝမ်းနည်းကြောင်း သအ်ဇီယသ်ပြုလိုက်ပါ။ ၎င်းဘက်မှ ကျွန်တော်သဝါးဗ်လည်း လှည့်ပေးပါတယ်။ ၎င်း၏မိသားစုကို ဆွဗရ် ချီးမြှင့်တော်မူပါစေ။

**တဆ / မော်လဝီ မဟ်မူဒ် အာကူဂျီ Email**

**၂၀၀၅၊ ဧပြီလ၊ ၂၉–ရက်**

# ဒေါက်တာအစ္စမာအီးလ် မာန်ဂေးရာထံမှ (တောင်အာဖရိက)

السلام عليكم ورحمة الله وبركاته

အရှင်မြတ်သည် ကွယ်လွန်သူအား ဂျန္နသွလ်ဖိဒ်ဒေါစ် ချီးမြှင့်တော်မူပါစေ။ ကဗရ်မှာနူးရ်ဖြင့် လင်းဝင်းတော်မူပါစေ။ ဒီက **သဗ်လီဂ် အမီရ် အလ်ဟာဂျ် ဘိုလာဆပ်**ကိုလည်း အကြောင်းကြား လိုက်ပါပြီ။

**တဆ / မော်လဝီ မဟ်မူဒ် အာကူဂျီ Email**

**၂၀၀၅၊ ဧပြီလ၊ ၁၉–ရက်**

---

# ဟာဇရသ် မောလာနာ မွဖ်သီ မုဟမ္မဒ်သကီးဆာဟိဗ်

دامت بركاته **ထံမှပေးစာ**

السلام عليكم ورحمة الله وبركاته

ခင်ဗျားထံမှ ဟာဇရသ် မော်လာနာ မုဟမ္မဒ်ဆွာလေဟ်ဆပ်ရဲ့ ဝမ်းနည်းဆွေးမြေ့ဖွယ်သတင်းရရှိပါတယ်။ အရှင်မြတ်ဟာဇရသ်ကို မြင့်မားသောအဆင့်အတန်းချီးမြှင့်တော်မူပါစေ။ ကျေးဇူးပြု၍ ၎င်း၏မိသားစုကို သအ်ဇီယသ်ဝမ်းနည်းကြောင်း သတင်းပါးလိုက်ပါ။

**တဆ / မော်လဝီ မဟ်မူဒ် အာကူဂျီ Email**

**၂၀၀၅၊ မေလ၊ ၉–ရက်**

# ပြည်တွင်းမှ သအ်ဇီယသ်ဝမ်းနည်းကြောင်း သဝဏ်လွှာများ

**အလ်ဟာဂ်ျ မော်လာနာ မုဟမ္မဒ် ဂျမာလုဒ္ဒီးန်**

၁၉၊ ရဗီအွလ်အောင်ဝလ် ၁၄၂၆

السلام عليكم ورحمة الله وبركاته

**ယခုခေတ်ရဲ့ပညာရှင်၊ အစ္စလာမ်ရဲ့အဓိပတိသောကရှင်၊ အရှင်မြတ်ဘက်ဖိတ်ခေါ်သူ** ဟဇရသ် မုဟမ္မဒ် ဆွာလေ့ဆပ် မဇာဟိရီ၏ ကွယ်လွန်ကြောင်းသတင်းသည် ကြောက်ရွံ့ ထိတ်လန့်ဖွယ်ဖြစ်ပါသည်။ ၎င်းကို အဂျရ်မြောက်မြားစွာ ချီးမြှင့်တော်မူပါစေ။ အဘယ်ကြောင့်ဆိုသော် ဟဇရသ်ကွယ်လွန်သွားခြင်းသည် အစ္စလာမ့်ကမ္ဘာအတွက် အထိတ်တလန့်ဝမ်းနည်း ဆုံးရှုံးဖွယ်ဖြစ်ပါသည်။ ဟဇရသ်သည် သက်တမ်းတစ်လျှောက် နှုတ်အား၊ နှလုံးရည်နှင့် အရှင့်နာမတော် ကွန့်မြူးရန်အတွက် အပြည့်အဝ အကျိုးဆောင်ခဲ့ပါတယ်။ ဟဇရသ်၏ အိလ်မ်ပညာနှင့် ဒအ်ဝသ်ရေးရာနမူနာအတိုင်း သပ်က်လီဒ်နောက်လိုက်ပြုအပ်ပါတယ်။ ၎င်းမရှိခြင်းသည် အလွန်သောကဖြစ်ဖွယ် ဒုက္ခကြီးတစ်ရပ်ဖြစ်ရသည်မှာ မလွဲကေန်ပင်တည်း။

ကျွန်တော်များ ဂျာမိအဟ်အဇီဇီယဟ်၏ဆရာနှင့်တပည့်ကျောင်းသားများ ထပ်တူထပ်မျှ မိသားစုနှင့်အတူရှိပါသည်။ ဟဇရသ်ကို အရှင်မြတ် ဂျန္နသ်ချီးမြှင့်တော်မူပါစေ။ ၎င်းထားခဲ့ရသော ဒအ်ဝသ်နှင့်ဒီန်၏

ခစ်ဒ်မသ်ကို ထာ၀ရစ၀ါဗ်အဖြစ် အစဉ်အမြဲချီးမြှင့်တော်မူပါစေ။ အာမီးန်

ကျောင်းအုပ်ဆရာကြီး
ဂျာမေအဟ် အရဗီယဟ်
အစ္စလာမီယဟ် အဇီဇီယ်(မိတ္တီလာ)

မော်လာနာ ဟာဖိဇ် မုဟမ္မဒ် ဆွာဟိဗ်
၂၀၀၅ ခုနှစ်၊ ဧပြီလ ၂၆ ရက်)

السلام عليكم ورحمة الله وبركاته

အိုလမာအဖွဲ့ဒုတိယဥက္ကဋ္ဌ၊ သဗ်လီဂ်အမီးရ်ချုပ်၏ ကွယ်လွန်ခြင်းသည် ဆရာများ ၊ ကျောင်းသားများ၊ ကျောင်းကော်မတီနှင့် အဖွဲ့ဝင်များအား အလွန်ပင်ပူဆွေးသောကဖြစ်မိစေပါတယ်။ ထပ်တူထပ်မျှ ဝမ်းနည်းမိပါတယ်။

ဟာဇရသ်ကို ဂျန္နသွလ်ဖိရ်ဒေါစ်ချီးမြှင့်တော်မူပါစေ။ ဟာဇရသ်ရဲ့ အီစာလေစ၀ါဗ်အတွက် အကြိမ်ကြိမ် ကုရ်အာန်ခသမ်ဖတ်ပြီး ဒိုအာတောင်းကြပါတယ်။

ကျောင်းအုပ်
ဂျာမိအဟ် ဟုစိုင်နီယဟ် မဇာဟိရုလ်အုလူမ်
(လှိုင်– မော်လမြိုင်)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# အိုလမာသာသနာ့ပညာရှင်များအဖွဲ့ချုပ်

တနင်္သာရီတိုင်း၊ အိုလမာရုံး၊

အမှတ် (၁၀၃)၊ ပုလဲလမ်း၊ ကန်ခေါင်းရပ်၊

မြိတ်မြို့။

# ဝမ်းနည်းကြောင်းသဝဏ်လွှာ

ပြည်ထောင်စုမြန်မာနိုင်ငံတော် အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ ချုပ် ဒုတိယဥက္ကဋ္ဌ နှင့် သဗ်လီဂ်အမီရ်ဆပ်ကြီး **အလ်ဟာဂ်ျ မော်လာနာ ဟာဖိဇ် မုဟမ္မဒ် ဆွာလေဟ် မဇ္ဇာဟေရီ (ခ) ဦးသိန်းမောင်** သည် (၂၆ - ၄ - ၂၀၀၅) ရက်နေ့၌ အလ္လာဟ်အရှင်မြတ်အမိန့်တော်ခံယူသွားသည့်အတွက် မိသားစုနှင့်ထပ်တူထပ်မျှ ဝမ်းနည်းမိပါကြောင်း - - -

**အလ်ဟာဂ်ျ မော်လာနာ ဟာဖိဇ် မုဟမ္မဒ် ဆွာလေဟ် မဇ္ဇာဟေရီ (ခ) ဦးသိန်းမောင်** အတွက် ဒိုအာပြုလျက်ပါ။ အလ္လာဟ်အရှင်မြတ် **အလ်ဟာဂ်ျ မော်လာနာ ဟာဖိဇ် မုဟမ္မဒ် ဆွာလေဟ် မဇ္ဇာဟေရီ (ခ) ဦးသိန်းမောင်**အား ဂျန္နသုလ်ဖိရ်ဒေါစ် ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

အလုပ်အမှုဆောင်အဖွဲ့၊

အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့၊

တနင်္သာရီတိုင်း၊ မြိတ်မြို့၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# အစ္စလာမ်သာသနာရေးရာကောင်စီဌာနချုပ်

## ဝမ်းနည်းကြောင်းသဝဏ်လွှာ

သို့

ဟာဇရသ်အလ်ဟာဂျ်မော်လာနာဟာဖိဇ်မုဟမ္မဒ်ဆွာလေဟ်'မဇ္ဇာဟေရီ'

မြန်မာနိုင်ငံ သဗ်လီးဂ် အမီးရ်ချုပ်ကြီး

အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ် (ဒု-ဥက္ကဋ္ဌ) ၏

ကျန်ရစ်သူမိသားစုနှင့်အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်

အကြောင်းအရာ ။ ။ **ဝမ်းနည်းကြောင်းသဝဏ်လွှာပေးပို့ခြင်း**

ဟာဇရသ် အလ်ဟာဂျ် မော်လာနာ ဟာဖိဇ် မုဟမ္မဒ် ဆွာလေဟ် 'မဇ္ဇာဟေရီ' မြန်မာနိုင်ငံသဗ်လီးဂ်အမီးရ်ချုပ်ကြီး အိုလမာအစ္စလာမ် သာသနာ့ပညာရှင်များ အဖွဲ့ချုပ် (ဒု-ဥက္ကဋ္ဌ) သည် အလ္လာဟ်အသျှင်မြတ် အမိန့်တော်ခံယူသွားကြောင်း ကြားသိရပါသည်။ အမီးရ်ချုပ်ကြီး ကွယ်လွန်သွားခြင်းသည် တိုင်းရင်းသား၊ နိုင်ငံသား၊ မွတ်စ်လင်မ် တစ်မျိုးသားလုံးအတွက် အစားထိုး၍မရသော ဆုံးရှုံးမှုတစ်ရပ်ဖြစ်ပါသည်။ အမီးရ်ချုပ်ကြီးသည် အစ္စလာမ်သာသနာ့လုပ်ငန်းများကို စွမ်းစွမ်းတမံဆောင်ရွက်ခဲ့ခြင်းအတွက် ကျန်ရစ်သူမိသားစုနှင့် ထပ်တူ

ထပ်မျှ ဝမ်းနည်းကြေကွဲရပါသည်။ အစ္စလာမ်ကောင်စီဗဟိုအမှုဆောင်အဖွဲ့ကိုယ်စားအကြောင်းကြားအပ်ပါသည်။

'အလ္လာဟ်လမ်းတွင် ကူညီသူတို့အား အလ္လာဟ်အရှင်မြတ်သည် ကူညီစေပါသတည်း။'

အစ္စလာမ်ရေးရာ–ဒို့တာဝန်

(အလ်ဟာဂျ်–ဦးနန့်မောင်သျှိန်း–အန်ဆွာရီ)

B.Sc (Agri),CBDS,CEDS.

ဥက္ကဋ္ဌ

အစ္စလာမ်သာသနာရေးရာကောင်စီဌာနချုပ်

စာအမှတ်၊ ကအ/ထွေ/၀၂၅/၂၀၀၅

ရက်စွဲ၊ ၂၀၀၅ခုနှစ်၊ ဧပြီလ (၂၆)ရက်



# မြန်မာမွတ်စလင်အမျိုးသားရေးရာအဖွဲ့ချုပ်

အမှတ်-၂၉၇၊ (ဒုတိယထပ်)၊ ဗိုလ်ဆွန်ပက်လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း - ၂၈၇၀၃၈

စာအမှတ်။ ၇၇/ အထထ/ မအဖ (၂၀၀၅)
ရက်စွဲ ။ ၂၀၀၅ ခုနှစ်၊ ဧပြီလ (၂၆) ရက်

သို့

ဥက္ကဋ္ဌ
အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်
ရန်ကုန်မြို့။

အကြောင်းအရာ ။ ။ ဝမ်းနည်းကြောင်းသဝဏ်လွှာပေးပို့ခြင်း

မြန်မာနိုင်ငံသဗ်လီဂ်အဖွဲ့ချုပ်၊ ဥက္ကဋ္ဌ အလ်ဟာဂျ် ဟာဖစ်(ဇ) မောင်လာနာ မိုဟမ္မဒ်ဆွာလေ (သဗ်လီဂ် ၊ အမီရ်ချုပ်) သည် ၂၆-၄-၂၀၀၅ နေ့တွင် အလ္လာအရှင်မြတ်အမိန့်တော်ခယူသွားကြောင်း ကြားသိရပါ၍ မ ◦ အ ◦ ဖ ဌာနချုပ်၏ ဝမ်းနည်းကြောင်း သဝဏ်လွှာကို ပို့ပေးအပ်ပါသည်။

လေးစားစွာဖြင့်

**(ဟာဂျီမြင့်ကြည်)**

အထွေထွေအတွင်းရေးမှူး

# ဟဇရသ်၏ တန်ဖိုးရှိသောလမ်းညွှန်မှုများ

တမန်တော်မြတ် ﷺ ၏နုဗူဝသ်သည် တစ်ကမ္ဘာလုံးဆိုင်ရာဖြစ်ပြီး ကေယာမသ်နေ့အထိဖြစ်သည်။ သို့ဖြစ်၍ တမန်တော်၏ ကြိုးပမ်းမှုဒအ်ဝသ်သည် ကေယာမသ်တိုင်အထိဖြစ်၍ တစ်ကမ္ဘာလုံးနှင့်ဆိုင်သည်။

**ဒအ်ဝသ်** ။ ။ ဒအ်ဝသ်လုပ်ငန်းကို မည်သည့်ရုပ်ဝတ္ထု အင်အားမှ တားဆီးနိုင်မည်မဟုတ်ပါ။ သို့သော် ရူဟာနီအင်အားရှိသူနှင့်ပတ်သက်၍ စိုးရိမ်ရသည်။ သို့ဖြစ်သောကြောင့် အာလင်မ်ပညာရှင်များကို အထူးဂုဏ်ပေးရမည်။

**အဟ်ဝါလ်** ။ ။ အလ္လာဟ်အရှင်မြတ်က အခြေအနေကို အအ်မာလ်နှင့်ဆက်သွယ်ထားသည်။အမလ်ကို ကိုယ်ခန္ဓာအစိတ်အပိုင်းနှင့်ဆက်သွယ်ထားသည်။ ကိုယ်ခန္ဓာအစိတ်အပိုင်းကို စိတ်နှလုံးဖြင့် ဆက်သွယ်ထားသည်။ အကယ်၍ စိတ်နှလုံးတွင် ဟေဒါယသ်၏ နူးရ်အလင်းရောင်ရှိလျှင် ကိုယ်ခန္ဓာမှနူးရ်ရှိသောအမလ်များ ထွက်ပေါ်လာမည်။ လောကတွင် နူရာနီအအ်မာလ်များ ပျံ့ပွားမည်။

**တာဝန်များ** ။ ။ မိမိတာဝန်ကိုမိမိသိပါ။ လူဟောင်း တာဝန်ခံများဖြစ်သည့်အားလျော်စွာလူတိုင်းသည် လောကရှိလူတစ်ဦးစီနှင့်ပတ်သက်၍ တာဝန်ခံများဖြစ်ကြသည်။

**အကောင်းဆုံးအွမ့်သ်** ။ ။ ဂျာန်ကီကုရ်ဗာနီ၊ မာလ်ကီကုရ်ဗာနီအတွက်၊ ဝတ္တာန်ကီကုရ်ဗာနီပေးရမည်ဆိုက ပေးနိုင်ရမည်။

**ခေတ်သုံးခေတ်** ။ ။ နဗူဝသ်ခေတ်၊ အေလင်မ်ခေတ်၊ ဇိက်ရ်ခေတ်၊ ယခုအေလင်မ်၊ ဇိက်ရ်ခေတ်နှင့် နဗူဝသ်ခေတ်ကို ပျံ့နှံ့စေရမည်။

**အမီးရ်** ။ ။ အမီးရ်သည် အာမိရ်(အမိန့်ပေးသူမဟုတ်ပါ) ဤနည်းအတိုင်း တာဝန်ခံသည် အာဏာပိုင်မဟုတ်ပါ။ အမျိုးသားတို့၏ ခေါင်းဆောင်သည် ၎င်းတို့၏အကျိုးကို သယ်ပိုးသူဟုခေါ်သည်။ ဟဒီးဆ်တော်အပေါ် လိုက်နာကျင့်သုံးရမည်။

**အုစူလ်** ။ ။ အုစူလ်စည်းကမ်းများအပေါ်လိုက်နာပါ။ အုစူလ်စည်းကမ်းကိုမလိုက်နာလျှင် နှစ်ပေါင်းတစ်ထောင်အလုပ်လုပ်သော်လည်း အလုပ်တိုးတက်မည်မဟုတ်။ပြုပြင်မှုရမည်မဟုတ်ပါ။အစ်ခ်လားဆ်နှင့်အုစူလ်ကို လိုက်နာသူသာ သဗ်လီဂ်မှာ မြဲနေလိမ့်မည်။

**စုစည်းမှု** ။ ။ အချင်းချင်းစုစည်းမှုသည် ဤလုပ်ငန်း၏အသက်ဖြစ်သည်။ အချင်းချင်းအပြစ်ရှာခြင်းသည် ဤလုပ်ငန်းအတွက် အဆိပ်အတောက်ဖြစ်သည်။

အကြင်သူသည် တမန်တော်မြတ် ﷺ အား မိမိ၏တမန်တော်ဟု မှတ်ယူပါက ဤလုပ်ငန်းကိုလည်း မိမိလုပ်ငန်းဟု မှတ်ယူပါ။ တမန်တော်မြတ် ﷺ ကို မိမိ၏တမန်တော်အဖြစ် မမှတ်ယူပါက ဤလုပ်ငန်းကိုလည်း မိမိလုပ်ငန်းအဖြစ်မှတ်ယူလိမ့်မည်မဟုတ်ပါ။

(မပ်က်ဆဒ်) **ရည်ရွယ်ချက်** ။ ။ လူသည် မိမိ၏ယုံကြည်ချက်ကို မှန်ကန်အောင်ပြု၍ ဘကောင်းအဆိုးကို၊ အောင်မြင်မှုနှင့် ဆုံးရှုံးမှုကို

အလ္လာဟ်အရှင်ဘက်တော်မှ ဖြစ်တယ်ဟု မှတ်ယူရမည်။ ဤသည်ပင် သဗ်လီဂ်၏ရည်ရွယ်ချက်ဖြစ်သည်။

**ဘရ်ကသ်** ။ ။ လူတို့သည် မကောင်းမှုကို စွန့်လွှတ်၍ အီမာန်ဘက်သို့ ဝင်ရောက်လာနေကြပြီး၊ ဂိုနာဟ်ကိုမျက်နှာလွှဲ၍ကောင်းမှုများဘက်သို့ လာရောက်နေပါက ဤသည်ပင် သဗ်လီးဂ်၏ဘရ်ကသ် ဖြစ်သည်။

**သဗ်လီဂ်။** ။ အလ္လာဟ်အရှင်မြတ်က ဒီးန်သာသနာတည်တံ့စေရန်နှင့် လည်ပတ်နေစေရန် သဗ်လီဂ်အမည်ဖြင့် ပုံစံတစ်ခုရှင်သန်စေပါသည်။ ဤပုံစံအပေါ် ကြိုးပမ်းမည်ဆိုလျှင် ပျက်စီးနေသော အွမ္မသ်ပြန်ကောင်းလာမည်။

**လှည့်ဖြားမှု** ။ ။ ကာဖိရ် မွတ်ရှ်ရစ်ကိတို့သည် အလ္လာဟ်အရှင်သည် ဖန်ဆင်းရှင်ဖြစ်သည်ဆိုသော်ကိစ္စ၌ လှည့်ဖြား ယုံကြည်မှုများနေသည်မဟုတ်။ အလ္လာဟ်အရှင်သည် ရဗ်ဖြစ်သည်ဆိုသော ကိစ္စ၌ ယုံကြည်မှုမှားနေခြင်းဖြစ်သည်။

## ဟဇရသ်၏မှတ်စုမှမတ်သ်ရူရားသ်နှင့်ပတ်သက်၍ အရေးကြီးသောအမှာစကားများ

**သအ်လီးမ်**

**၁။** ဂျင်န်၊တစေ၊ သရဲအကြောင်းကို ငယ်စဉ်ကပင် ကြားသိခဲ့ကြသည်ဖြစ်စေ၊ စိတ်ထဲမှာ ယုံကြည်စွဲသွားကြသည်။ ဂျင်န်၊ သစေ၊ သရဲ နာမည်ကြားလျှင် ကလေးများကြောက်လန့်ကြသည်။ သို့ဖြစ်၍

မိခင်တိုင်းသည် နေ့စဉ် အိမ်တွင် (ဖဇာအေလေအအ်မာလ်စာအုပ်)ကို ဖတ်ပြကြပါ။ သို့မှသာ ကလေးများ၏ယုံကြည်ချက်သည် ငယ်စဉ်ကပင် မှန်ကန်သွားစေမည်။

၂။ ကလေးများကို အဓိပ္ပာယ်မရှိ၊ ယုတ္တိမရှိသော ပုံပြင်များ မပြောကြနှင့်။ ဒီးန်သာသနာနှင့်အီမာန်စကားများကို ပြောကြပါ။ ကျွန်ုပ်တို့၏ ရှေးသူတော်စင်အကြီးအကဲများ၏ မိခင်များသည် ကလေးများကို ကလေမဟ်ဖတ်၍ ပုခက်လွှဲကြသည်။ ဤသည်ပင် စစ်မှန်သည့် ပြုစုပျိုးထောင်မှုပင်ဖြစ်သည်။

၃။ အကယ်၍ အပင်တစ်ပင်သည် နူးညံ့ပျော့ပြောင်းပါက ၎င်းအပင်၏ အကိုင်းကို မိမိအိမ်ဘက်သို့ ဆွဲယူ၍ အရိပ်ခို၍ ရနိုင်သည်။ သို့သော် သစ်ကိုင်းမာကြောသွားပါက မလွယ်ကူတော့ပါ။ သို့ဖြစ်၍ ကလေးများကို သင်္ဗလီဂ်သို့ စေလွှတ်ကြပါ။ သအ်လီမ်ပေးကြပါ။

**ပရ်ဒါမဲ့မှု** အမျိုးသမီးတစ်ဦးသည် ပရ်ဒါမဲ့ သွားလာပါက ပရ်ဒါအတွင်းရှိနေသော အမျိုးသမီးများကို ပရ်ဒါမဲ့သွားလာရန် ဖိတ်ခေါ်သကဲ့သို့ပင်ဖြစ်ပေသည်။

၅။ တစ်နေရာမှာအမျိုးသမီးနှစ်ဦး စုမိပါက အတင်းစကားကို စမိကြတော့သည်။ အမျိုးသမီးတစ်ဦးက အတင်းပြောချင်စိတ်ကို နှိုးဆွလိုက်ပါက အမျိုးသမီးအားလုံးရောက်ရှိစုဝေးကြပြီး ထိုင်၍ အတင်းပြောကြလေသည်။ ယခုတော့ ဤအကျင့်ဆိုးသည် အမျိုးသားများတွင်လည်း ပျံ့နှံ့လာသည်။

၆။ အကယ်၍ တစ်ဦးတစ်ယောက်က အသင်မ၏အတင်းကို ပြောဆိုနေပါက အသင့်မအနေဖြင့် ၎င်း၏အတင်းကိုမပြောဆိုပါနှင့်။ သို့ဖြင့် အသင်မသည် ၎င်း၏နမာဇ်၊ ရိုဇာဟ်၊ စသည့်အမလ်အားလုံး၏စဝါးဗ် အကျိုးကို ရရှိပေမည်။

၇။ တစ်ခါတစ်ရံ အချို့အမျိုးသမီးများသည် အီမာန်ပျက်စေသော စကားများကိုပြောဆိုကြသည်။ ၎င်းကြောင့် အီမာန်ရုတ်သိမ်းခြင်းခံရသည်။ အထူးသဖြင့် ကုရ်အာန်၊ အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ ပြောဆိုခြင်း၊ ဥပမာ–အလ္လာဟ်အရှင်မြတ်ဘာတတ်နိုင်မှာလဲဟု ပြောဆိုခြင်း၊

## ဟဒီးဆ်၏ရွှေစကား

တမန်တော်မြတ် ﷺ က အမိန့်ရှိခဲ့သည်။

**من احیا سنتی عند فساد امتی فله اجر مائۃ شهید**

၁။အကြင်သူသည်ငါတမန်တော်၏ အွမ္မသ်သားများ ပျက်စီးနေသောအချိန်တွင် ငါတမန်တော်၏ စွန္နသ်များကို ရှင်သန်အောင်ပြုလုပ်ခဲ့သော် ထိုသူသည် ရှဟီဒ်ပေါင်းတစ်ရာ၏ အကျိုးစဝါးဗ်ရရှိမည်။

၂။ တမန်တော်မြတ် ﷺ မရှိသည့်နောက်ပိုင်း နဗူဝသ်လုပ်ငန်းကို နဗူဝသ်ပုံစံဖြင့် လုပ်ရပါမည်။

၃။ အမလ်တိုင်းကို မှန်ကန်သောယုံကြည်ချက်၊ မှန်ကန်သော နီယသ်၊ ဖဇာအိလ်အကျိုး ရလိုသော စိတ်ဆန္ဒဖြင့် မစာအစ်လ်နည်း သွရီကာဖြင့် အလ္လာဟ်အရှင့်ကို အာရုံပြု၍ ဇိကိရ် ပြုလုပ်ရပါမည်။

မော်လာနာစေရာဂ္ဂုဒ်ဒီးန်ထံပေးစာမှ ကောက်နုတ်ချက်

باسمه سبحانه و تعالی

# ကျေးဇူးတင်လွှာ

اَلْحَمْدُ لِلّٰہِ အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ်ကရုဏာတော်ဖြင့် 'حیاتِ صالح' "ဟယာသေဆွာလေဟ်" ဟဇရသ်၏ဘဝဖြစ်စဉ် (အတ္ထုပ္ပတ္တိ) အောင်မြင်စွာ ပြီးစီးသွားပါပြီ။

"ဟယာသေဆွာလေဟ်" အတွက် အမှာစာများ၊ တင်ပြချက်များ ရေးပေးသော အာလင်မ်ပညာရှင်ကြီးများအားလည်းကောင်း၊ လမ်းညွှန်မှုပေးခဲ့သော ဆရာသခင်များအားလည်းကောင်း၊ ဘာသာပြန်ဆိုသောဆရာနှင့် စာစီစာစစ်ပေးသော ပုဂ္ဂိုလ်များအားလည်းကောင်း၊ ဟဇရသ်၏ ဘဝဖြစ်စဉ် အကြောင်းအရာများသိရှိတာတွေကို နှုတ်ဖြင့်၊ စာဖြင့် ပြောပြ ရေးပေးကြသော အာလင်မ်များ၊ ဂျမာအသ်သားများ၊ မွတ်စ်လင်မ်အမျိုးသား/အမျိုးသမီးများအား လည်းကောင်း အခြားအဖက်ဖက်မှ ကူညီပံ့ပိုးကြသော သာသနာ့ညီနောင်များ အားလုံးကို၊ ဟဇရသ်ကတော် ဟာဂျီမ ဘီဘီအိုင်ရှာ မဒ်ဖီ ဇီနသီ (ခ) ဒေါ်ခင်သန်း နှင့် ဟဇရသ်၏သားသမီးများမှ အထူးကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

ကျေးဇူးတင်လျက်

ဘီဘီ အိုင်ရှာ မဒ်ဖီ ဇီနသီ

# ဟာဇရသ် မော်လာနာ ကာရီ ယူစွပ် (အဆ်အဒီ)၏

# ခံစားချက်

## گلہائے عقیدت

| | |
|---|---|
| تھے صالح جہاں کیلئے ایک نعمت | سیر اہل ایماں پہ تھے ظلِ رحمت |
| بہارِ شریعت نگارِ حقیقت | نگہبان و نگراں قصر حقیقت |
| وہ مہر ولایت وہ نجم ہدایت | سراپا تھے حلم و وقارِ محبت |
| مروّت میں یکتا شجاعت میں پختہ | فصاحت میں شستہ امامِ بلاغت |
| وہ پاکیزہ صورت تھے پاکیزہ سیرت | فرشتہ صفت تھے وہ انسان صورت |
| رہے عاشق حق محمدؐ کے شیدا | تھا طرزِ حیات اتباعِ شریعت |
| تھی ذات انکی جو پیکر ورع و تقویٰ | جبینِ حسیں پہ تھے انوارِ سنت |
| نظامِ حیات ان کا یوسفؔ بتاؤں | بس احیائے اسلام واحیائے سنت |
| ہمہ وقت تدبیر و اصلاحِ امت | ہمہ وقت درد و غم و فکر امت |
| ہے انکا فردوس اعلیٰ ٹھکانا | طفیل شہِ تاجدار نبوت |

پیش کردہ:

حضرت مولانا قاری مفتی مفسر القرآن ومحدث

محمد یوسف اسعدی صاحب مدظلہ العالی